# သိရုကုရယ်လ်

( တမိလ်အမျိုးသားတို့၏ နီတိမာလာ
)

# திருக்குறள்

(பர்மிய மொழி பெயர்ப்பு)

# THIRUKKURAL

(BURMESE TRANSLATION)

# သိရုကုရယ်လ်
## ( တမိလ် အမျိုးသားတို့၏ နီတိမာလာ )

အင်္ဂလိပ်ဘာသာမှ မြန်မာပြန်သူ

**ဦးမျိုးသန့်**

TRANSLATED FROM ENGLISH INTO BURMESE

BY

**U MYO THANT**

ஆங்கில மொழியிலிருந்து பர்மிய மொழி பெயர்ப்பு

**ஊ மியோ தாண்ட்**

ထုတ်ဝေသူ
ကန်ဘဲ နတ်တူကိုတိုက် ချစ်တီးယား
ပညာရေး ဂေါပကအဖွဲ့။
အမှတ်–၇၄။ ရွှေဘုံသာ (မဂို)လမ်း ရန်ကုန်မြို့။

*Published By*

The Kanbe Nattukkottai Chettiar
Educational Trust,
No. 74, SHWEBONTHA (Mogul)
STREET; RANGOON.

கம்பை தனவைசியர்

கல்விக் கழக வெளியீடு

74, சுவேபோந்தா (முகல்)
வீதி, இரங்கூன்.

1964

# အပြည်ပြည်ဆိုင်ရာ
# တမီလ် အသင်းကြီး

နှင့်

# ကုရယ်လ် ကျမ်းမြတ် အသင်း

၏

ဥက္ကဋ္ဌကြီး ကော၊ ပီ၊ ရတ်တနမ်

ဘီ၊ အေ (ဂုဏ်ထူး)၊
မဟာဝိဇ္ဇာ၊ ဘီ၊ ဒီ၊ အယ် (မဒရပ်)၏

# ဥာဧမျာဧဦ



ကန်တဲ့ နတ်တူကိုယ်တိုက် ချစ်တီးယား ပညာရေး ဂေါပကအဖွဲ့မှာ လွန်ခဲ့သော နှစ်ပေါင်း သုံးဆယ်ငါးနှစ်မှ အတွင်း ရပ်တည်ခဲ့သော အချိန်များ၌ အဖိုးတန်သော လုပ်ငန်းများစွာကို ပြုလုပ်ခဲ့ကြသည်။ ထိုလုပ်ငန်းများစွာအနက် သိရုက္ကုရယ်လ်ကျမ်းကို မြန်မာဘာသာသို့ ပြန်ဆိုလျက် အခမဲ့ ဝေငှခြင်း လုပ်ငန်းမှာ ထူးခြားသော လုပ်ရပ်တခု ဖြစ်သည့်ပြင်၊ ကမ္ဘာတဝှမ်းလုံးရှိ တမိလ်အမျိုးသားများ၏ ချီးကျူးခြင်းကို ခံအပ်သော ဆောင်ရွက်ချက် ဖြစ်ပေသည်။ ဤလုပ်ငန်းရပ်ကို အကြောင်းပြု၍ ကျွန်ုပ်သည် အပြည်ပြည်ဆိုင်ရာ တမိလ်အသင်းကြီးနှင့် ကုရယ်လ်ကျမ်းမြတ် အသင်းတို့၏ ကိုယ်စား ကန်တဲ့ နတ်တူကိုယ်တိုက် ချစ်တီးယားပညာရေးဂေါပကအဖွဲ့၏ ဥက္ကဋ္ဌနှင့် အသင်းသား အားလုံးတို့အား ချီးကျူးစကား ပြောကြားလိုပါကြောင်း၊ အဖွဲ့၏ ဆောင်ရွက်ချက်များသည် လူ့ကောင်းကျိုးဆောင် လုပ်ငန်းတရပ် မှန်ပါပေသည်။

'လူ့ကောင်းကျိုးဆောင်' ဟူ၍ ဆိုရခြင်းမှာ သိရုကုရယ်လ်ကျမ်းအား တကမ္ဘာလုံးအတွက် လမ်းညွှန်ကျမ်းကြီး ဖြစ်ကြောင်း ထောပနာ ပြုကြသောကြောင့် ဖြစ်ပါသည်။ ဤကျမ်းသည် တမိလ်ဘာသာဖြင့် နှစ်ပေါင်း နှစ်ထောင်ကျော်က ရေးသားထားခဲ့သောကျမ်း ဖြစ်သော်လည်း လူအချင်းချင်း ချစ်ကြည်ရေးနှင့် ညီမျှရေးတို့ကို လမ်းညွှန် ပြောဆိုထားပေသည်။ ကျမ်းပါ အဆိုအမိန့်များသည် အချိန်မရွေး၊ လူမျိုးမရွေးနှင့် သက်ဆိုင်၍ နေပေသည်။ လူမျိုး၊ ဘာသာ၊ ဇာတ်၊ အသား အရောင်တို့ ခွဲခြားခြင်းကိုလည်း ဤကျမ်းက တိုက်ခိုက်၍ ရေးသားထားလေသည်။ လူတိုင်းအား မိမိတရားသဖြင့် ရောက်ရှိလိုသော အဆင့်အတန်းသို့ ကြိုးစားအားထုတ်၍ ဆောင်ရွက်ရန် နည်းလမ်းတို့ကိုလည်း ဤကျမ်းတွင် ညွှန်ပြပေးပေသည်။

ဥယျာဇဉ်

ကုရယ်လ်ကျမ်းအား အကြောင်းသင့်၍ လေ့လာဘူးသော နိုင်ငံခြားမှ ပညာရှင်များက ကုရယ်လ်၌ သိမ်မွေ့၍ အံ့သြဘွယ်ဖြစ်သော အတွေးအခေါ်များကို အထူးဂုဏ်တင်၍ ပြောဆိုကြသည်ကို တွေ့ရလေသည်။ မစ္စတာ အေဒီ ယယ် ဆိုသူ ပုဂ္ဂိုလ်ကြီးက ဤကျမ်းအား "လူ့ အတွေးအခေါ်များကို အမြင့်မြတ်ဆုံးဖြင့် အစင်ကြယ်ဆုံး ဖေါ်ပြသော ကျမ်း တစောင်" ဖြစ်သည်ဟူ၍ ထင်မြင်ချက် ပေးသည်။ ဒေါက်တာ အဲလပတ် ရွိုက်ဇာကမူသည်၊ ထို့ ထက် လွန်ကဲ၍ "ကမ္ဘာ့စာပေများတွင် ဤမျှ ဉာဏ်ပညာ အမြော်အမြင်နှင့် ပြည့်စုံသော လမ်းညွှန်တရား အစုအပေါင်းမျိုး ရှားပါလိမ့်မည်။" ဟု ဆိုထားပေသည်။

သီရိကုရယ်လ်မှာ ဘာသာအမျိုးပေါင်း သုံးဆယ်ကျော်တို့သို့ ဘာသာပြန်ပြီးခဲ့ပြီးသော်လည်း၊ ယင်းကို တိုင်းရင်းဘာသာ တခုခုသို့ ပြန်ဆိုရေးကိစ္စမှာ လွယ်ကူသော လုပ်ငန်း မဟုတ်ပါ။ စိတ်ရှည်လက်ရှည်ဖြင့် သည်းခံလေ့လာ၍ ဝန်ထမ်းစိတ်ဖြင့် ဆောင်ရွက်မှသာ အောင်မြင်နိုင်သည့် လုပ်ငန်းတရပ် ဖြစ်ပါသည်။ ဤဂန္ထဝင် ကျမ်းကြီးကို မြန်မာဘာသာသို့ ပြန်ဆိုရာတွင် ဦးမျိုးသန့်သည် များစွာ ကြိုးပမ်းအားထုတ်ထားသည်ကို တွေ့ရပါသည်။ ကျွန်ုပ်ကိုယ်တိုင် ဦးမျိုးသန့်နှင့် ၁၉၆၄-ခုနှစ် ဇန္နဝါရီလ အတွင်းက တွေ့ဆုံခဲ့ပြီး ဆွေးနွေးနှီးနှောခဲ့ရပါသည်။ ဤပုဂ္ဂိုလ်၏ ဆောင်ရွက်မှုအတွက် မြန်မာနှင့် တမီလ် အမျိုးသား အားလုံးတို့က ကျေးဇူး တင်ရှိဘွယ်ရာ ဖြစ်ပေသည်။

ဤတမီလ်ဗေဒကျမ်းကို လေ့လာခြင်းအားဖြင့် မြန်မာနိုင်ငံသူ နိုင်ငံသားများ အကျိုးပွားလျက်တမီလ်တို့၏ စာပေနှင့် ယဉ်ကျေးမှု၌လည်းပိုမို နားလည်သဘောပေါက်လာလိမ့်မည်ဟု မြော်လင့်ရပါသည်။

၂၂-၃-၆၄

ကိုလံဘိုမြို့၊ သီဟိုကျွန်း။ (ပုံ)

ကေ၊ ပီ၊ ရပ်တနမ်။

# ထုတ်ဝေသူ နိဒါန်း

သီရုကုရယ်လ် ကျမ်းသည် တမီလ်ဘာသာ စာပေတွင် အကောင်းဆုံး ဖြစ်သည်ဟု အသိအမှတ်ပြုခြင်း ခံရပေသည်။ ဤကျမ်းတွင် ကမ္ဘာ တဝှန်းလုံးက တရားမျှတသည် မှန်မြတ်သည်ဟု သင်ကြားပို့ချသော ဆုံးမစာများ ပါဝင်လေသည်။ ဤကျမ်းကို ပြုစုသူမှာ ထေရုဗာလုဗာ အမည်ရှိပုဂ္ဂိုလ်တဦး ဖြစ်လေသည်။ ထိုပုဂ္ဂိုလ်သည် လွန်ခဲ့သော နှစ်ပေါင်း နှစ်ထောင်ခန့်က အိန္ဒိယပြည်တောင်ပိုင်း မဒရပ်နယ်တွင် သက်ရှိထင်ရှား နေထိုင်သွားခဲ့သည်ဟု သုတေသီတို့၏အလိုအရ သိရပေသည်။ ပညာရှိတို့သည် ထိုပုဂ္ဂိုလ်၏ ငယ်မည်ကိုရင်း၊ မွေးဖွားရာ ဇာတိကိုရင်း၊ ထိုသူ၏ ဘဝအတ္ထုပ္ပတ္တိ အစုံအလင်ကိုရင်း၊ မပြောနိုင်ကြပေ။ ဗာလုဗန်ဟူသော အမည်မှာကား ဘုရင်ချီးမြှောက်ခြင်း ခံရသော ဘွဲ့မည်တမျိုး ဖြစ်ကြောင်း သိရလေသည်။ ထေရုဗာလုဗာဆိုသော အမည်မှာ မင်းပေးဘွဲ့မည် ဖြစ်လေသည်။ သူ၏အမည်ကို ရှေးတမီလ်စာပေ ကျမ်းဟောင်းများဖြစ်သော။ မဏိမေခလာ။ စီလပါသိကာရမ် ဟူသော ကျမ်းများ၌ ဖော်ပြထားသည်ကို တွေ့ရ၏။ သူ၏ ဟောကြားချက်များနှင့် အသုံးအနှုန်း ဥပစာတို့ကို သံဂါစာပေတွင် ကူးယူရေးသား ကြသည်ကိုလည်း တွေ့ရသည်။ ထိုပုဂ္ဂိုလ်ပေါ်ပေါက်သော ခေတ်မှာ ခရစ်နှစ်မစမီ နှစ်ပေါင်း ၃၀-အလိုခန့်က ဖြစ်သည်ဟု တွက်ဆကြ၏။

ဤကျမ်းမှာ အခြားဘာသာစာပေများရှိ ကျမ်းများနှင့် ယှဉ်၍ မရအောင်ပင် ကောင်းမွန်လှသည်ဟု ထင်ရှားသော ပညာရှိတို့က မှတ်ချက်ပြုဘူးလေသည်။ အနောက်နိုင်ငံမှ သုတေသီ ပညာရှင်တို့သည် ဤကျမ်းကို တွေ့ရှိပြီးသော် မိမိတို့၏ဘာသာ အသီးသီးသို့ ပြန်ဆိုခဲ့ကြဘူးသည်။ ဤကျမ်းကို တမိလ် အမျိုးသားတို့က မဆွကဘာသာပြန်ဆို မဖြန့်ချိခဲ့ရကောင်းလားဟု ပြစ်တင်ခြင်းပင် ပြုကြလေ၏။ ယခုမူ အိန္ဒိယပြည်အစိုးရက ဤကျမ်းကြီး နယ်ပယ် ကျယ်ပြန့်ရေးအလို့ငှာ အတတ်နိုင်ဆုံး ကြိုးစားလျက် ရှိပေသည်။

အနောက်နိုင်ငံမှ ပညာရှင်အများနှင့် အိန္ဒိယပြည်မှ ပညာရှင်အများသည် မိမိတို့ တတ်ကျွမ်းသော အင်္ဂလိပ်ဘာသာဖြင့် ဤကျမ်းကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့ကြသည်။ ဘုန်းတော်ကြီး ဒရူးနှင့် လာဇာရပ်စ်တို့၏ အင်္ဂလိပ်ဘာသာပြန်မှာ လွန်ခဲ့သော နှစ်ပေါင်း တရာခန့်ကပင် ထွက်ပေါ်ခဲ့၍၊ ထိုပြန်ဆိုချက်သည် ကောင်းလည်း ကောင်းမွန်လှပေသည်။

ဤကျမ်းကို မြန်မာဘာသာသို့ ပြန်ဆိုထုတ်ဝေနိုင်ခြင်း အတွက် ကန်ဘဲ့ နတ်တူးကိုတိုက်ချစ်တီးယားပညာရေး ဂေါပကအဖွဲ့သည် များစွာ ဝမ်းမြောက် မိပေသည်။ ဤကျမ်းကို ဖတ်ရှုခြင်းဖြင့် မြန်မာပြည်သူ ပြည်သားတို့သည် အိန္ဒိယယဉ်ကျေးမှု အမွေ

## ထုတ်ဝေသူ နိဒါန်း

အနှစ်တခုကို အကျိုးရှိအောင် လေ့လာ ဆည်းပူးနိုင်ကြလိမ့်မည်ဟု ထင်မြင်မိပေသည်။ ဤကျမ်းဖြစ်ပေါ်အောင် ဆောင်ရွက်ရေးတွင် မစ္စတာဂန္ဓိအနန်းမလီ၏ ကျိုးပန်း အားထုတ်ချက်မှာ များစွာ အရာရောက်ကြောင်း မှတ်တမ်းတင်အပ်ပါသည်။ ဤပုဂ္ဂိုလ်သည် စာရေးဆရာတဦးဖြစ်သည့်ပြင် ခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်း၏အတ္ထုပ္ပတ္တိကိုလည်း တမီလ်ဘာသာဖြင့် စာအုပ်ဘအုပ် ရေးသား ထုတ်ဝေခဲ့ဘူးသူ ဖြစ်ပေသည်။

အကျွန်ုပ်တို့အဖွဲ့မှ မေတ္တာရပ်ခံချက်ဖြင့် ဤကျမ်းကို မြန်မာဘာသာသို့ ပြန်ဆိုသူ ဦးမျိုးသန့်အားလည်း များစွာကျေးဇူး ဥပကာရ တင်ရှိပါကြောင်း။

သီရိကုရယ်သ်နိဒါန်းတွင် ဘာသာပြန်ဆိုသူသည် ဤကျမ်း၏ နောက်ကြောင်းကိုဖော်ပြထားသည့်အပြင်၊ နောက်ဆက်တွဲ အပိုင်းတွင်လည်း ဤကျမ်းကို အဆိုအမိန့်များနှင့် ပတ်သက်၍၊ အခြားပညာရှင်များ၏ အဆိုအမိန့်နှင့် ညီညွတ်ပုံများကို ကောင်းနိုးရာရာ ရွေးချယ်ပြုစု၍ တင်ပြ ထားပါသည်။ ထို့ကြောင့် ကျမ်း၌ မရှင်းမလင်းတွယ် အကြောင်းများ များစွာ ပေါ်ပေါက်လိမ့်မည် မဟုတ်ဟု ထင်မြင်မိပါသည်။

ဤနေရာတွင် စကားအလျှင်း သင့်သဖြင့် ဤစာအုပ်ကို အခမဲ့ဖြန့်ချိထုတ်ဝေသူ ကျွန်တော်များ၏ အသင်းအကြောင်းကို ဖော်ပြလိုပါသည်၊ ဤအသင်းမှာ ပညာရေး တိုးတက်မှုကို ရည်စူး၍ လွန်ခဲ့သော (၃၅)နှစ်က တည်ထောင်သော အသင်း ဖြစ်ပါသည်။ ဤအသင်းကို တည်ထောင်ရန် မြန်မာတပြည်လုံးရှိ နာတူကိုတိုက် ချစ်တီးယားများ၏ စုပေါင်း ထည့်ဝင်ငွေဖြင့် ပြုလုပ်ခဲ့ပါသည်။ ယခု အချိန်ထိကား ကာလအားလျော်စွာ ပြုပြင် ပြောင်းလဲမှုများ ပြုလုပ်ခဲ့ရသည်မှလွဲ၍ အသင်း၏ ရည်ရွယ်ချက်မှာ၊ ကောင်းစွာ ထမြောက်အောင်မြင်ခဲ့ပါသည်။ ရန်ကုန်မြို့အနီး ကန်ဘဲ့ရပ်တွင် ချစ်တီးယား အထက်တန်းကျောင်း တဆောင်ကို အချိန်ကာလ ကြာရှည်စွာ ဖွင့်လှစ်ထားခဲ့ဘူးပါသည်။ ထိုကျောင်းမှ မြန်မာနှင့် အိန္ဒိယလူမျိုး ကျောင်းသားများ အများအပြားအောင်မြင်သွားကြ၍ ထင်ရှားသောပုဂ္ဂိုလ်များဖြစ်လာကာ တိုင်းပြည်နှင့် လူမျိုးအကျိုးကို ဆောင်ရွက်လျက် နေကြကြောင်း တွေ့ရှိရသဖြင့် များစွာ ဝမ်းမြောက်ဖွယ်လည်း ဖြစ်ပါသည်၊ ကျောင်းသားများအား ကျွန်ုပ်တို့အသင်းမှပင် ပညာသင် ထောက်ပံ့ကြေးများပေးခဲ့ပါသည်။ ဤအသင်း၏ ထောက်ပံ့ငွေဖြင့် ယခုအခါ အထက်တန်းနှင့် တက္ကသိုလ်ကျောင်းများ၌ ပညာသင်ယူနေကြသော ကျောင်းသားပေါင်းတရာ့ငါးဆယ်ခန့် ရှိပါသည်။

# ထုတ်ဝေသူ နိဒါန်း

ထိုမှ တဖန် မြောက် – ဥက္ကလာပ မြို့ တွင် ဤအသင်းမှ ကျောင်းတဆောင် ဆောက်လုပ် လှူဒါန်းပေးခဲ့ပါသေးသည်။ ထိုကျောင်းကို ယခုအခါ မြန်မာနိုင်ငံ အစိုးရက အောင်မြင်စွာ ဖွင့်လှစ်သင်ကြား ပေးလျက် ရှိပါသည်။ ဤကျမ်းစာအုပ်ကို ရိုက်နှိပ် ထုတ်ဝေခြင်းမှာလည်း အသင်း၏ ပညာရေးဆောင်ရွက်ချက် တခုဖြစ်ပါသည်။

ဤကျမ်းကို ပြန်ဆိုထုတ်ဝေရသဖြင့်လည်း မြန်မာနိုင်ငံသားတို့သည် လေ့လာ ဖတ်ရှုလိုက်နာခြင်းဖြင့် လောကီလောကုတ္တရာ နှစ်ဖြာသော အကျိုးစီးပွားများ စည်ပင်ဖွံ့ ဖြိုး၍ တိုးတက်နိုင်ကြပါစေဟု ဆုတောင်းလိုက်ပါကြောင်း။

---

ဥက္ကဋ္ဌ– ကုနာ မနာ မသုဝပ္ပ ချစ်တီးယား။

အတွင်းရေးမှူး– ဝုနာ ပနာ စီနာ ဝနာ လက်ချူမနန်
(ဒီ) ချစ်တီးယား။

**ကန်ဘဲ့ နတ်တုကိုတိုက် ချစ်တီးယား**

**ပညာရေး ဂေါပက အဖွဲ့။**

အမှတ်-၇၄။ ရွှေဘုံသာ (မဂို) လမ်း၊ ရန်ကုန်မြို့။

အမှတ်

# မာတိကာ

## ၁။ ကျမ်းဦး



## ၂။ စာကိုယ်

## (က) ဂုဏ် အခြင်းအရာ ဆိုင်ရာကဏ္ဍ



## (ခ) မြည့်စုံ ကုံလုံမှု ဆိုင်ရာကဏ္ဍ

# သိရုကုရယ်လ်

## ဘာသာပြန်သူ၏ အမှာ

ကျွန်တော်သည် တမီလ်ဘာသာကို နားလည်တတ်မြောက်သူတဦး မဟုတ်ပါ။ ထို့ကြောင့် တမီလ်အမျိုးသားတို့၏ ကျမ်းမြတ် တစောင်ဖြစ်သော သိရုကုရယ်လ် *Tirrukkural* ကျမ်းကြီးကို မြန်မာဘာသာသို့ ပြန်ဆိုရာတွင် အင်္ဂလိပ်ဘာသာဖြင့် ပြုစုထားသော ကျမ်းများကိုသာ အထောက်အထား ပြုရပါသည်။

အဓိကအားဖြင့် ဘာသာပြန်သူ အထောက်အထား ပြုသောကျမ်းမှာ ခရစ်ယာန်ဘုန်းကော်ကြီး ဒရူးနှင့်ဂျန်လာဇာားရပ်ဆိုသူ **Rev. Drew & Lazarus** ပုဂ္ဂိုလ်ကြီး နှစ်ဦး ပြုစုသော ကျမ်းဖြစ်ပါသည်။ ဤကျမ်းကို မူရင်းထား၍ မစ္စတာ ဗီ၊ ဗီ၊ အက်စ်၊ အာယာ၊ **V. V. S. Aiyer** ဆိုသော ပုဂ္ဂိုလ် ရေးသားသည့် ကျမ်းကိုရင်း၊ မစ္စတာ အိပ်ချ၊ အေ၊ ပေါ့ပလီ **H. A. Popley** ဆိုသူ ပုဂ္ဂိုလ်ပြုစုသည့် ကုရယ်လ်နှင့် အဖွင့် ဒီပနီများကိုရင်း အခါအားလျော်စွာ ကိုးကားရပါသည်။ အထက်ပါ ကျမ်းနှစ်စောင်လုံးမှာလည်း အင်္ဂလိပ်ဘာသာဖြင့် ပြုစုထားသောကျမ်းများ ဖြစ်ကြပေသည်။

သိရုကုရယ်လ်ကို အင်္ဂလိပ်၊ ပြင်သစ်၊ ဂျာမန်၊ လက်တင်၊ သက္ကဋ္ဌစသည့် ဘာသာများသို့ ပုဂ္ဂိုလ်အများပင် ဘာသာပြန်ခဲ့ပါသည်။ တိုင်းတပါး ဘာသာကို ဘာသာပြန်ဆိုသူတိုင်းတွင် တွေ့ကြုံရသော အခက်အခဲမှာ အနည်းနှင့်အများ ဆိုသလို ရှိကြပေသည်။ ဤတွင် သာမန်ဝတ္ထု ဆောင်းပါးများဆိုလျှင် မူရင်းရေးသားသူ၏ အာဘော်ကို အချွတ်အချော် အတိမ်းအယိမ်း မရှိလေအောင်၊ ပြည်စုံကောင်းမွန်အောင် အားထုတ်နိုင်ကြသည်များ၏။ နည်းပညာနှင့် စပ်ဆိုင်သော သိပ္ပံအကြောင်းရပ်များ ဆိုလျှင်လည်း ဆိုင်ရာဝေါဟာရတို့ရှိပြီး ဖြစ်လျှင် ဘာသာပြန်ဆိုရာတွင် အဓိပ္ပါယ် ယတ္တ မကွဲမပြား ဖြစ်နိုင်ဘွယ် မရှိပေ။ သို့သော် သဘာဝတ္တ ပညာနှင့် ပတ်သက်သော စာအုပ်များ၊ ဘာသာရေးကျမ်းများ၊ နီတိများမှာမူကား ဘာသာပြန်ဆိုရာတွင် မူရင်းဆရာ၏ အတွေးအခေါ် အဆိုအမိန့်များနှင့် အချွတ်အချော် ရှိနိုင်သော အန္တရာယ်များ လွန်စွာများပြားလှပေသည်။

ထို့ကြောင့် သိရုကုရယ်ကို တမီလ်ဘာသာမှ နိုင်ငံခြားဘာသာသို့ အသီးသီး ပြန်ဆိုခဲ့ရာတွင် အင်္ဂလိပ်ဘာသာဖြင့် ထုတ်ဝေသော စာအုပ်များကိုပင် ပင်ကိုယ် တမီလ်ကျမ်း၏ အဆိုအမိန့်ကို ငုံမိသည်၊ မငုံမိသည်၊ အံကျသည်၊ ချွတ်ချော်သည် စသည်ဖြင့် အမျိုးမျိုး ဝေဘန်စိစစ် ပြုခဲ့ကြလေသည်။ ဤအဖြစ်မျိုးနှင့် ကြုံရသည်မှာ ဤကျမ်းတွင်သာ၊ မဟုတ်သေးပါ။ အိန္ဒိယမြောက်ပိုင်းသားတို့၏ ဘဂဝတ်ဂီတာ ကျမ်းကြီးဆိုလျှင်လည်း လူသိလည်းများ၍ အနောက်တိုင်းစာပေအမျိုးမျိုးနှင့် ဘာသာ ပြန်ဆိုသူများလည်း များပြားလှ၏။ ဘဂဝတ်ဂီတာကို ဘာသာပြန်ဆိုသူများတွင်

က

# သိရုကုရယ်လ်

ခရစ္စတိုဖါ အိရှားဝတ် **Christopher Isherwood** ဒေါက်တာ အင်နီဗင်းဆင့် **Dr. Annie Beasant** ဒီပီဟေးလ် **D. P. Hill** ဒေါက်တာရာဒါကရစ်ရှနန် **Dr. Radakrishnan** အက်ဂါတန် **Edgarton** အက်ဒွင်အာနိုး **Edwin Arnold** စသော နာမည်ကျော်ပုဂ္ဂိုလ်များပါဝင်၏။ သို့တိုင်အောင် ထိုပုဂ္ဂိုလ်များ၏ ပြန်ဆိုချက်သည် မည်သူက မူရင်းသဘောနှင့် ငုံမိသည်။ မည်သူကမငုံမိ စသည်ဖြင့် ဝေဖန်ချက်များ ရှိခဲ့လေသည်။

ဤစာအုပ်တွင်လည်း ဘာသာပြန်သူသည် မတိကျမှုများကို ကင်းစင်နိုင်သမျှ ကင်းစင်အောင် အထူးအားထုတ် ပြန်ဆိုထားကြောင်းကို ပြောကြားလိုပါ၏။ အကယ် ၍ မတိကျမှုများရှိခဲ့သော် ဖေါ်ထုတ်ညွှန်ကြားသူတို့အား ကြိုဆိုရန် လက်ကမ်းပါ၏။

ဘာသာပြန်သူ အဖို့တွင် ဤကျမ်းကို မြန်မာဘာသာသို့ ပြန်ဆိုရသဖြင့် မြန်မာ စာပေတွင် တိုင်းတပါး စာပေတခုကို ရင်းနှီးအောင် ဆောင်ကြဉ်း ပေးရသည်ဖြစ်၍ ပြုအပ်သော အမှုတခုကို လက်မှန်မဆွ ပြုလိုက်ရသည်ဟု ကြည်နူးခြင်း ဖြစ်မိပေသည်။

ဤသို့ စာပေတံတား ခင်းရာတွင် ကန်ဘဲ နတ်ကူကိုယ်တိုက်ချစ်တီးယား ပညာရေး ဂေါပက အဖွဲ့ ***The Kanbe Nattukkottai Chettiar Educational Trust*** မှ တမီလ်စာရေးဆရာ တဦးဖြစ်သူ မစ္စတာဂန္ဒီအနန်းမလီ ***Mr. Gandhi Annamalai*** ၏ အကြံဉာဏ် နှင့် စိတ်ရောကိုယ်ပါကူညီယိုင်းပင်းမှု မရှိခဲ့လျှင်လည်း ဤစာအုပ် ထွက်ပေါ်လာရန် ခဲယဉ်းလိမ့်မည်ဖြစ်ကြောင်း ကျေးဇူးတင်စွာ မှတ်တမ်း တင်အပ်ပါသည်။

၁၉၆၃-ခုနှစ်၊ ဒီဇင်ဘာလ ၂၂-ရက်၊

ရန်ကုန်မြို့။

မျိုးသန့် သိရကုရယ်လ်



# ၂-ကုရယ်လ်၏ နိဒါန်း

## (က) တမီလ်တို့နေထိုင်ရာမြေ

လောကရှိ လူတို့တွင် တွေးမှုကြံမှုသည် အရေးကြီး၏၊ ထို့နောက် တွေးမှုကြံမှုကို အခြေပြု၍ပေါ်ပေါက်အပ်သော လုပ်မှုကိုင်မှုသည်အရေးကြီး၏။ ဤနှစ်မျိုးတို့ပေါင်းစပ်၍ဖြစ်ပေါ်လာသော လုပ်ငန်းများ၏ အကျိုးတရားသက်ရောက်မှုကို ကြည့်၍ အကြင်သူတဦးအား ကောင်းသည်၊ ဆိုးသည်၊ တော်တည့်သည်၊ ဂတိလိုက်စားသည်၊ အမြော်အမြင်ရှိသည်၊ အမြော်အမြင် နည်းပါးသည်ဟူ၍ ဝေဖန်ကြကုန်၏။

ထေရုဗါလုဗါ **Tirruvalluvar** သူမြတ် ပြုစုခဲ့သော ဤကုရယ်လ်ကျမ်းကြီးမှာ လူတန်ဘိုးကို တဦးချင်းအားဖြင့်၎င်း၊ အအုပ် အစု သင်းပင်း၊ နိုင်ငံအားဖြင့်၎င်း၊ အခြေပြု၍ ကောင်းမြတ်ရာဖြစ်သော တွေးမှုကြံမှု၊ လုပ်မှုကိုင်မှုတို့ကို ထိန်းသိမ်း ပေးစေတတ်သော တရားများကို ညွှန်ကြား ပြသသည့် ကျမ်းကြီး ဖြစ်ပေသည်။ ထို့ကြောင့် ဤကျမ်းကြီးကို နီတိကျမ်းကြီးဟုလည်း ခေါ်တွင်ရာ၏။ လူတို့၏ အဆိုး အကောင်း၊ လောက၏ အဆိုးအကောင်းကိုပြုပြင်ပေးရန် လမ်းညွှန်ချက်များပါရှိသောကြောင့်လည်း လောက စည်ပင်ရေးကျမ်းကြီးဟု တင်စား၍ ခေါ်မည်ဆိုလည်း ခေါ်ထိုက်ပေသည်။

ကုရယ်လ်ကို ဖတ်ရှုကြမည့် ပုဂ္ဂိုလ်တို့သည် ကုရယ်လ်၏ ဘူမိနက်သန် ဒေသဖြစ်သော အိန္ဒိယပြည်တောင်ပိုင်း ကျွန်းဆွယ်ကြီး၏ အကြောင်းကို၎င်း ထိုဒေသတွင် နေထိုင်ခဲ့ကြသော တမီလ် လူမျိုးတို့၏ ရာဇဝင်နောက်ကြောင်းကို၎င်း၊ အမြွက်မျှသိထားသင့်သည်ဟု သဘောရပေသည်။

တမီလ်တို့သည် ဒွါဗိဒရန် **Dravidian** အနွယ်များ ဖြစ်ကြသည်။ တမီလ်တို့ခေတ်ကောင်းချိန်မှာ ကမ္ဘာ့သမိုင်းတွင် ခရစ်တော် မပေါ်မီကာလကပင်ဖြစ်၏။ အိန္ဒိယပြည် မြောက်ပိုင်းတွင် အရိယန် **Aryans** ယဉ်ကျေးမှုများ တစထက် တစ လွှမ်းမိုးလာရာတွင် တောင်ပိုင်း ဖြစ်သော တမီလ်တို့၏ဒေသမှာ နောက်ဆုံးတွင်မှ ထိုယဉ်ကျေးမှုနှင့် ရောနှော မိကြသည်။ တိုတိုင်အောင် တမီလ်တို့သည် အရိယန် ယဉ်ကျေးမှုနှင့် မထိမစပ်သကဲ့သို့ မိမိတို့ကိုယ်ပိုင် ဓလေ့ထုံးစံများဖြင့် စဉ်လာမပျက် ကျင့်သုံး နေထိုင်ခဲ့ကြသည်။

အိန္ဒိယနိုင်ငံတွင် သီရိဓမ္မာသောကမင်းကြီး အုပ်စိုးနေချိန် (ခရစ်တော် မပေါ်မီ အနှစ် ၃ ၀ ၀ တဝိုက်)တွင် ချိုလာ **Chola**၊ သီရာ **Sera**၊ ပန်ဒယာ **Pandya**၊ ဟူသော တိုင်းပြည်တို့မှာ တသီးတခြား တည်ရှိနေကြ၏။ ယင်းတို့မှာ တမီလ်ဘုရင် များ၏ မင်းနေပြည်များဖြစ်ခဲ့လေသည်။ သီရိဓမ္မာသောက မင်းကြီး၏ ကျောက်စာများ၌ ဤမင်း

နိုင်ငံများကို အမန်းချင်းနိုင်ငံများဟု ရည်ညွှန်းရေးသားထားလေသည်။ ...
မိမိတို့သြဇာခံ ပြည်နယ်များ ရှိကြလျက် သြဇာခံ ပြည်နယ်များ၏ အခွန်အတုပ် လက်ဆောင် ပဏ္ဏာများကို လက်ခံကာ တမင်းတချင်း နေထိုင်ခဲ့ကြသော တိုင်းပြည်များ ဖြစ်လေသည်။

## ၄ သိရကုရလ်ယ်

ထိုတမီလ်သုံးပြည်ထောင်တွင် ချိုလာပြည်ထောင်၏ မြို့တော်မှာ ယခုတရိချိနိုပိုလီ **Trichinopoly**ဟု ခေါ်၍ယခင်ဥရေယာဟု ခေါ်သောအရပ်တွင် ရှိသည်။ သီရာပြည်၏ မြို့တော်မှာ အိန္ဒိယအနောက်ဖက်ကမ်းရှိ ကရာခေါ်အရပ်တွင် ရှိသည်။ သီရာသည် ယခုကဲရာလား ***Kerala*** ပြည်နယ်ပင် ဖြစ်သည်။ ပန်ဒရာပြည်၏ မြို့တော်မှာ မဒုရ ***Madura***မြို့ ဖြစ်လေသည်။

ထိုပြည်ထောင်သုံးခုတို့သည် ရံဖန်ရံခါ မိမိတို့အချင်းချင်း စစ်ခင်းကြသည်လည်း ရှိသည်။ပူးပေါင်းဆောင်ရွက်ကြသည်လည်း ရှိသည်။ပင်လယ်နှင့် နီးကြသည့်အလျောက် နိုင်ငံရပ်ခြားနှင့် ကုန်ကူးသန်းခြင်းများ ရှိနေခဲ့ကြသည်။ ကူးသန်းကြသော နိုင်ငံတို့မှာ အာရပ်ကျွန်းဆွယ်ရှိ နိုင်ငံအများနှင့် ရောမ, ဂရိစသော မြေထဲပင်လယ် တဝိုက်မှ နိုင်ငံများဖြစ်လေသည်။

ပန်ဒရာပြည်၊ မဒုရမြို့တွင်း၌ပင် ရောမလူမျိုးတို့ နေထိုင်ရာ ရပ်ကွက် တခု ရှိခဲ့သည်ဟု ထိုခေတ်က အသုံးပြုခဲ့သော ပိုက်ဆံများကို ကြည့်၍ ခန့်မှန်းကြလေသည်။

စာပေနှင့် ပတ်သက်၍ ဂရိတို့၏ ဘာသာစကားတွင် ဆန်, သစ်ကြမ်းပိုးခေါက်, ဂျင်း, ငြုပ်ကောင်း စသည်တို့ကို ခေါ်သောစကားတို့မှာ တမီလ်ဘာသာမှ ရရှိသည်ဟူ၍ ကိန်းဘာရစ်ချ တက္ကသိုလ်တိုက်ထုတ် "အိန္ဒိယနိုင်ငံသမိုင်း" စာအုပ်တွင် ရေးသားထား

လေသည်။

တမီလ်တို့ခေတ် ထွန်းစဉ်အခါက "အကာယ်ဒမီ" ဟု ခေါ်သော ပညာပိမာန်ကြီး သုံးခု ထွန်းကားခဲ့ဘူးသည်ဟုလည်း သိရပေသည်။ ထိုအကာယ်ဒမီ ကျောင်းကြီးများတွင် ပညာရှိ ဘုခမိန်ကြီးများ စုဝေးလျက်တိုင်ပင်စည်းဝေးကြကာ အသစ်အသစ်ပေါ်ပေါက်သော စာပေများကို ဝေဖန်အကဲဖြတ်ခြင်း အမှုများ ပြုလုပ်ခဲ့ကြသည်ဟု သိရသည်။

မဟာဘာရတ၊ *Mahabharata* ရာမာယန၊ **Ramayana** အစရှိသော ကမ္ဘာကျော် အိန္ဒိယဂန္ထဝင် စာပေများတွင်၎င်း၊ ရှေးဦး သက္ကတ္တ ကျမ်းများတွင်၎င်း၊ ဂရိနှင့် လက်တင်ပညာရှိတို့ ရေးသားပြုစုခဲ့သော ကျမ်းများတွင်၎င်း၊ ခရစ်တော်မပေါ်မီ ခေတ်မှစ၍တမီလ်တို့တွင် စာနှင့်ပေနှင့်, ယဉ်ကျေးမှုနှင့်တသီးတခြား ဂုဏ်ပြောင်၍ နေခဲ့ကြောင်းကို အထောက်အထားများ တွေ့ရလေသည်။

ထိုခေတ် တမီလ်အမျိုးသားတို့သည် ပြည်တွင်းပြည်ပ အဆက်အသွယ် ကောင်းမွန်ကြ၍ နောက်ပိုင်းတွင် အရိယန်ယဉ်ကျေးမှု ဝင်ရောက်လာသည့်အခါလည်း အသာတကြည်ပင် လက်ခံခဲ့သည်ဟု သိရ၏။

ထိုခေတ်တွင် တမီလ်ယဉ်ကျေးမှုထွန်းကားပုံကို အိန္ဒိယပြည် ဆင်း **Sind** နယ်၌ တူးဖော်တွေ့ရှိရသော ဟာရပ္ပ *Harappa* နှင့် မိုဟင်ဂျိုဒါရို *Mohenjodaro* မြို့ဟောင်းများမှလည်း ရှေးဟောင်းပစ္စည်း အထောက် အထားများ အရ သိရှိရပြန်သည်။

# သီရိကုရယ်လ်

၅

ကုန်စည် ကူးသန်းရောင်းဝယ်ရေးတွင် တမီလ်တို့၏ မြေဖြစ်သော တောင်ပိုင်း အိန္ဒိယမှ ဟင်းခပ် အမွှေးအကြိုင်၊ ကျောက်သံပတ္တမြား၊ ဝါဂွမ်း စသည်တို့ကို အီဂျစ်၊ ရောမ, ခေါ်မစသော နိုင်ငံများက ဝယ်ယူ သုံးစွဲခဲ့ ကြလေသည်။

တမီလ်စာပေတွင်ထင်ရှား၍ ရှေးအကျဆုံးသော သဒ္ဒါကျမ်းကြီး တစောင်လည်း ရှိသေး၏။ ထိုကျမ်းကြီးမှာ လင်္ကာနည်းဖြင့် ရေးဖွဲ့ထား၍ တော်လကပ္ပိယနာ *Tolka-ppiyana* ဟု တွင်၏။ ကျမ်းပြုသူမှာ တြိနာဒုမဂ္ဂနီ *Trinadu Magni* ဆိုသူ ဖြစ်လေသည်။ ထိုကျမ်းကြီးကို အထောက်အထားပြု၍လည်း ခရစ်နှစ် စတင် မရောက်မီကပင် တမီလ်တို့၌ စာပေပညာများ အဆင့်အတန်းမြင့်မြင့်ထွန်းကားနေပုံကို တွေ့နိုင်လေသည်။

ထိုခေတ်က တမီလ်တို့၏လူမှုရေးအခြေအနေကိုလည်း ဤကျမ်းထဲတွင် ရေးသားထားခဲ့၏။ တမီလ်တို့မှာ အမဲလိုက်သော မုဆိုးများ၊ သဲကန္တာရနေ လူများ၊ နွားကျောင်းသားများ၊ တံငါများ၊ လယ်ယာ လုပ်ကိုင်စားသောက်သူများဟူ၍ လူတန်းစား၊ ကွဲပြားလျက်ဖွံ့ဖြိုးခဲ့ကြသည်။ လူတန်းစားတမျိုးတမျိုးအတွက်လည်း သူ့ဓလေ့၊ သူ့ဘာသာနှင့် စာဖွဲ့စရာ အကြောင်းများ ရှိလေရာ၊ ထိုကိစ္စများကို ခွဲခြား၍ အထက်ပါ ကျမ်းကြီးတွင် ဘ၀ သရုပ်များကို ရေးခြယ်ခဲ့ကြ၏။

တမီလ်စာပေ၌ အထူးသဖြင့် စာဖွဲ့ခဲ့သော အကြောင်းတို့မှာ စစ်ပွဲ အကြောင်းနှင့် အချစ်အကြောင်းတို့ ဖြစ်လေသည်။ ဤတွင် စစ်ပွဲအကြောင်းကို ပူရမ် *Puram* ဟု ခေါ်၍၊ အချစ် အကြောင်းကို အဟမ် *Aham* ဟု ခေါ်သည်။ ထိုသို့ ရှေးက ဖွဲ့ခဲ့သော ကဗျာကြီးများသည် တမီလ်လူမျိုးတို့၏ နေ့စဉ်လုပ်ငန်း ဆောင်တာများကို ဖော်ပြရုံမက၊ ယောက်ျားမိန်းမတို့၏ အလေ့အလာများကိုပါ စီကုံးထားခဲ့ကြ လေသည်။

ကုရယ်လ်ကျမ်းကြီးကို မူကားထေရုဗါလုပါသည် မည်သည့်ခေတ်တွင် ရေးသားခဲ့သည်ဟူ၍ စာကိုယ်တွင် ခန့်မှန်းထောက်ရှု ကြံဆဘွယ်ရာပင် တစုံတရာ မပါခဲ့ပေ။ ထို့ကြောင့်ကုရယ်လ်ကျမ်းထဲတွင်ပါရှိသောအဆိုအမိန့်များနှင့် အခြားတမီလ်ကျမ်းဂန်များတွင် ပါရှိသော အဆိုအမိန့်များတို့ကို ညှိနှိုင်း၍ သတ်မှတ်ရန် ကြိုးစားကြသည်။ သို့တိုင်အောင် ကုရယ်လ်ကျမ်းကြီးကို ပြုစုသော နှစ်မှာ အတိအကျ ခန့်မှန်းရန် ခက်သဖြင့် ခရစ်တော်ပေါ်ပြီး နှစ်ပေါင်း ၂၀၀နှင့် ၆၀၀အကြားတွင် ပေါ်ပေါက်ခဲ့သည်ဟု ယေဘုယျ ခန့်မှန်းကြလေသည်။ အချို့ကား ခရစ်တော်ပေါ်ပြီး နှစ်ပေါင်းတရာ (တစ်ရာစု) အတွင်း ဤကျမ်းကို ပြုစုခဲ့သည်ဟုပင် တွက်ဆကြသည်။ သို့သော် အများ၏ လက်ခံချက် မဟုတ်ပေ။

အိန္ဒိယနိုင်ငံကြီး၏ သက်တမ်း တလျှောက်တွင် အလားတူ ကျမ်းကြီးများဖြစ်သော စာဏကျ**Chanakya**၏ စာဏကျနီတိ၊ ဝါစာယန**Vatsayana**၏ ကာမသုတ္တရ**Kama Suttra**စသည်တို့လည်း ပေါ်ပေါက်ခဲ့ပါ၏။ မနုရသေ့ကြီးစီရင်သော

## ၆ သိရုကုရယ်လ်

မနု ဓမ္မသတ် ကျမ်းကြီးနှင့်မတူညီပါပေ။ မနုကျမ်းတွင် ဥပဒေဓမ္မသတ်တို့၏ မျက်စိဖြင့် ကြည့်သော် လူမှုမျိုးမျိုး အဆင့်အတန်း အမျိုးမျိုး ကွဲပြား၍ နေသေး၏။ ကုရလ်ယ် ကျမ်းကြီးတွင် ဤသို့ မဟုတ်ပေ။

ကုရယ်လ်မှာ တခေတ်တချိန်အတွက်သာ ရေးသားထားသော စာများ မဟုတ်ကြောင်း၊ ခေတ်အဆက်ဆက် ဖတ်မှတ်၍ မကုန်နိုင်၊ မဆုံးနိုင်ဘွယ်ရာ ဖြစ်သော အမြဲတန်း ခေတ်မှီ နေမည့် ကျမ်းကြီးတစောင်လည်း ဖြစ်ကြောင်း ဆိုကြလေသည်။

သိရုကုရယ်မှာ ယခုအခါကမ္ဘာ့ကုလသမဂ္ဂ အသင်းကြီး၏ ယူနက်စကို**Unesco** ခေါ်ပညာ, သိပ္ပံနှင့် ယဉ်ကျေးမှုဆိုင်ရာ အဖွဲ့အစည်းကြီးကပင် ဘာသာအမျိုးမျိုးဖြင့် ပြန်ဆို ထုတ်ဝေသင့်သော စာအုပ်များစာရင်းတွင် ထည့်သွင်းထားရလေသည်။ ကျမ်းပြုပုဂ္ဂိုလ်တဦး၏ အဆိုအရ သိရုကုရယ်လ်နှင့် ပတ်သက်၍ ဘာသာအမျိုးမျိုးဖြင့် ထုတ်ဝေထားသော စာအုပ်ပေါင်း ၁၅၀-ကျော် ရှိသည်ဟုဆို၏။ ဤအထဲတွင် ဆောင်းပါးများနှင့် အခြားကြိုးကြား ကြိုးကြားရေးသား ကြသော ကုရယ်လ်အဖွင့် စာတမ်းများ မပါဝင်သေးပေ။

---

## ကျမ်းပြုဆရာ ထေရုဗာလုဗာ

အမှန်အားဖြင့်ကား ကျမ်းပြု ပုဂ္ဂိုလ်ကြီး ထေရုဗာလုဗာ၏ အကြောင်းကို များစွာသိရသည် မဟုတ်ပေ။သို့သော် ထိုခေတ်တွင် ပေါ်ပေါက်လာသော စာပေအထောက်အထားများအရ ခေတ်ကလည်း ခေတ်ကောင်း၊ စာပေပညာကလည်း တိုးတက်ချိန်၊ ကုန်ကူးသန်းရောင်းဝယ်မှုကလည်းဖွံ့ဖြိုးလျက်ရှိသော ထိုခေတ်တွင် လူတို့ကလည်းစာပေပညာ၏ကျေးဇူးကြောင့် အမြော်အမြင် အရှာ်ဥိရှင်း၊ယည်းခံမှုအရာဒ္ဓိရင်း၊ အတော်ပင်ပြည့်စုံခဲ့ကြသော ခေတ်ဖြစ်ရာ ထိုခေတ်ထဲတွင် ပေါက်ဖွားလာသော ဆရာကြီး ထေရုဗာလုဗာသည် ခေတ်သဘော ထင်ဟပ်သော လူပုဂ္ဂိုလ် (ဝါ) ခေတ်၏ ပတ်ဝန်းကျင်က ပြုပြင်ဖန်တီးပေးအပ်သော လူပုဂ္ဂိုလ်စင်စစ် ဖြစ်မည်မှာ ယုံမှားဘွယ်မရှိပေ။

ကျမ်းပြုဆရာသည် မှတ်စုမှတ်တမ်း ရေးသားခြင်းအလေ့ မထွန်းကားမီခေတ်က လူဖြစ်ခဲ့ရသောကြောင့်သာလျှင် သူနှင့်ပတ်သက်၍ အတ္ထုပ္ပတ္တိများ မကျန်ခဲ့ခြင်း ဖြစ်လေသည်။သို့သော် ပြောရိုးအစဉ်စကားတို့ကို မှတ်သား၍ ဖော်ပြရပါမူ၊ထေရုဗာလုဗာသည် မိုင်လာပူ ***Mylapore*** (ယခု မဒရပ်နယ်)တွင် ယက်ကန်းသည် မျိုးရိုး၌ ပေါက်ဖွားခဲ့၏။ မိုင်လာပူဆိုသော နဂရငယ်မှာ "ဥဒေါင်းတို့၏ရွာ" ဟူ၍ အဓိပ္ပါယ်ရသည်၊ ထို့ကြောင့် ထေရုဗာလုဗာအား ကျမ်းများတွင် "မိုင်လာပူမှ ယက္ကန်းသည်" ***Weaver from Mylapore*** ဟူ၍လည်း တနည်း တင်စား၍ ခေါ်ဝေါ်ကြသေး၏။

# သိရုကုရယ်လ်

၇

ဗာလုဗာ ***Valluwar*** မျိုးရိုးမှာ ဇာတ်နိမ့်သော မျိုးရိုးဖြစ်၏။ သို့သော် ဇာတ်နိမ့်သူတို့တွင် ဗာလုဗာတို့သည် သူတော်စင်မျိုး ဖြစ်ကြသည်။ (ထေရ ဟူသော စကားမှာ ပါဠိဘာသာ ထေရ် ဟူသော စကားနှင့် တူ၍ သူတော်စင်ဟုပင် အဓိပ္ပါယ်ရ၏။) ထေရုဗာလုဗာဆိုသည်မှာ ဗာလုဗာ မျိုးရိုး၏ သူတော်စင်ဟု ဆိုလိုရင်း ဖြစ်ပေ

သည်။

ဆိုရိုးစကားအတိုင်း ပြောရလျှင်ထေရပေါလုဗာသည် ဗြဟ္မဏ **Brahman** မျိုး ယောကျ်ားနှင့် ဗာလုဗါမျိုး ဇာတ်နိမ့်သူတို့ တိတ်တဆိတ် ရည်ငံ၍ ပေါက်ဖွားသော သား သမီး(၇)ယောက် အနက်မှ တဦး ဖြစ်သည်ဟု ဆိုသည်။

အခြားဖေါ်ပြချက် တခုအရဆိုလျှင် ထေရပေါလုဗါအား လှေသူကြီး တဦးက ခေါ်ယူ မွေးစား ခဲ့သည် ဟုဆို၏။ အခြား အဆိုတရပ်မှာ ယင်း ပုဂ္ဂိုလ်သည် မဓုရ *Madhura* မြို့တွင် မွေးဖွား၍ မိုင်လာပူ အရပ်တွင်လာရောက် ကြီးပြင်းသည်ဟု လည်း ဆိုပေသေးသည်။ ကုရယ်လ်ကျမ်းကြီးတွင် ပင်လယ်လေလှိုင်းတို့နှင့် ပတ်သက်၍ ဖွဲ့နွဲ့ရေးသားထားခြင်းများ ပါရှိသည်ဖြစ်ရာ ပင်လယ်ကမ်းစပ် ဖြစ်သော မိုင်လာပူ ဒေသတွင် ထေရပေါလုပေါ် ကြီးပြင်းခဲ့ရလိမ့်မည်ဟူ၍ အတပ်တွေးနိုင်ဘွယ် ဖြစ်ပေသည်။

ယနေ့သော် မိုင်လာပူဒေသတွင် ဤကဗျာစာဆိုကြီးနှင့် ဇနီးတို့အား အမှတ် ရသောအားဖြင့် ပုထိုးတဆောင်ကို လှပသော ပန်းဥယျာဉ်တခု၏ အလယ်တွင် တည် ဆောက်၍ထား၏။ ထိုဥယျာဉ်မှာ ဗြဟ္မဏမျိုးတို့ ရပ်ကွက်၏ ဗဟိုတွင် ရှိ၍ သူ့စာထဲ မှအတိုင်း ပင်လယ်လှိုင်းများ ပုတ်ခတ်သံကို ကြားနိုင်သော နေရာတွင် ဖြစ်လေသည်။ နှစ်စဉ် တန်းခူး (ဧပြီ)လ လောက်တွင် ဤစာဆိုအား ဂုဏ်ပြုသော အားဖြင့် ပွဲတော် ပြုလုပ်၍ သူတော်သူမြတ်တို့ကဲ့သို့ ပူဇော်သက္ကာရ ပြုကြလေသည်။

ခရစ်နှစ်များ အစခန့်တွင်မိုင်လာပူသည် နိုင်ငံရပ်ခြားနှင့် ဆက်သွယ်လျက် ရှိခဲ့သော ဆိပ်ကမ်းမြို့တမြို့ ဖြစ်ခဲ့ရာ၏။ ထိုမြို့တွင် လူမျိုးပေါင်းစုံ မှီတင်းနေထိုင်ကြလျက် ကုန်သည်များသည်ငှင်း၊ ယက္ကန်းသည်များသည်ငှင်း၊ တံငါသည် များသည်ငှင်း၊ လယ်သမားများသည်ငှင်း၊ မှီတင်းနေထိုင်ခဲ့ကြရာ၏။ ခရစ်ယန်တို့ပင် ထိုမြို့၌ တစုတသင်းဖွဲ့၍ နေထိုင်ခဲ့ကြဟှယ် ရှိကြောင်းကို စိန့်သောမတ် **St. Thomas** ဘုရားဝတ်ကျောင်း ရှိနေခြင်းက သက်သေခံ၏။ ထိုမြို့၏ တောင်ဖက်ရှိ မိုင်နှစ်ဆယ်ခန့် ဝေးသော မဟာ ဗါလိပူရမ် ***Mahabalipuram***ခေါ် ဆိပ်ကမ်းမြို့ကလေးမှာလည်း ပလဝါ ***Pallava*** နှင့်ချိုလာ **Cholas** မင်းများ အသုံးပြုသော စည်ကားသည့် မြို့ဖြစ်လျက်၊ ခရစ်နှစ် ခုနှစ်ရာစုနှင့် ရှစ်ရာစုများ၏ လက်ရာမြောက်သော ဘု ရား ဝ တ် ကျော င်း မျ ား ရှိနေခဲ့သေးသည်။

ထိုအချိန်၌ သက်ရှိထင်ရှား ဖြစ်ခဲ့သော စာဆိုထေရ၀ါလုပါမှာ လူမျိုး အဖုံဖုံ၊ ယဉ်ကျေးမှု အထွေထွေ၊ ဘာသာအယူ အပြားပြားနှင့် ကြုံဆုံ နီးစပ်ခဲ့ရမည်မှာလည်း



အမှန် ဖြစ်ပေသည်။ ထိုခေတ်တွင် ဂျိန်းဘာသာ၀င်များ၊ ဗုဒ္ဓဘာသာများ၊ ဗေဒ ဟိန္ဒူ၊ အာဂမိဟိန္ဒူများ၊ ဒွါဗိဒ်ရန်များတို့သည် အတူ ယှဉ်တွဲ၍ မိမိတို့ နှစ်သက်ရာ ဘာသာကို ငြိမ်းငြိမ်းချမ်းချမ်း သင့်သင့်မြတ်မြတ်ဖြင့် ကိုးကွယ်နေထိုင်ခဲ့ကြ ပေသည်။ ဘာသာရေး ဂိုဏ်းဂန ကွဲပြားခြင်းဟူ၍ မရှိသေးဘဲ တဦးကို တဦး၊ အယူဝါဒ တခုကို တခု၊ အချင်းချင်း လေးစားသမှု၊ သည်းခံသမှုတို့ဖြင့် အကြည်အသာ ဆက်ဆံခဲ့ကြပေသည်။ထိုသို့ ငြိမ်းချမ်းစွာ ကိုးကွယ်ဆည်းကပ် နိုင်သော အလေ့မှာ ခရစ်နှစ် ခုနစ်ရာစုတွင်တမီလ်တို့နိုင်ငံ၌ ဂိုဏ်းဂနဝါဒများ ပေါ်ပေါက်လာသော အခါတွင်မှ ပျက်ပြား သွားခဲ့ရလေသည်။

ယခုကွန်ဂျီဗါရမ်ခေါ် Conjevaram ဟုခေါ်သော ရှေးက ကန်ချီ Kanchi မြို့တော်အဖြစ် ထွန်းကားခဲ့သော ဒေသမှာ မိုင်လာပူမြို့နှင့် မိုင်အနည်းငယ်မျှ သာ၍ ဝေးလေသည်။ မကြာသေးမီကမဒုရမြို့နေ သီဆိုဖန် ဘာရတ်တီဆိုသူ ပုဂ္ဂိုလ်ကြီး တဦးက ထေရုဗါလုဗါနှင့် ပတ်သက်၍ ကျမ်းငယ်တစောင် ထုတ်ဝေရာတွင် စာဆိုပုဂ္ဂိုလ်ကြီးသည် ရာထူးရ ပုဂ္ဂိုလ်ဖြစ်လျက် မဒုရမြို့ ပန်ဒရန် Pand an မင်း လက်ထက်၌ နန်းရင်းဝန် ရာထူးမျိုးဖြင့် အမှုထမ်းခဲ့ရသည်ဟု ဆိုထားလေသည်။ သူ၏ အထောက်အထား ပြသချက်မှာ ဗါလုဗါဟူသော အမည်တို့သည် ရှေးခေတ်က နန်းတော်၌ ရာထူးကြီးသူများသာ ရရှိသော မင်းပေးဘွဲ့တမျိုး ဖြစ်ခဲ့ကြောင်းဖြင့် ပြောဆို၏။ ဤအချက်မှန်ကန်သယောင် ရှိသော်လည်း ရှိပြီးပါးစပ် ရာဇဝင်ကို ပယ်ရှား နိုင်ရန်မှာ ယခုထက် ပို၍ အခိုင်အမာ ပြောဆိုနိုင်ရန် လိုပေသေးသည်။

ပါးစပ်ရာဇဝင်ကို ပြန်ကောက်ရမည်ဆိုလျှင် ထေရုဗါလုဗါ၏ ဇနီးသည်မှာ ဝေလာလ Vellala မျိုးရိုးဖြစ်သော ဝါသုခိ Vasuki ဟူသည့် အမျိုးသမီးဖြစ်၏။ ဝါသုခိသည် မိမိ၏ ခင်ပွန်းထက်စော၍ ကွယ်လွန်သည် ဆို၏။

---

## စာဆို၏ အမူ အကျင့်

ထေရုဗာလုဗာ သူမြတ်နှင့်ပတ်သက်၍ ကျွန်ုပ်တို့သိရှိရသောထားမှာ သူပြုစုခဲ့သော ဤကုရယ်လ်ကျမ်းကြီးမှပင် ဖြစ်သည်။

အထောက် အ

ကုရယ်လ်ကျမ်းကြီးကို ကြည့်ရှု လေ့လာ၍ အကဲဖြတ်ရလျှင် သူသည် လူတန်းစား အအသီးသီးတွင် ဝင်ဆံ့သော ပုဂ္ဂိုလ်ဖြစ်ပေသည်။ ခမ်းနားထယ်ဝါခြင်း မရှိ။ ရိုသားဖြောင့်မတ်၏။ ကိုယ်စွမ်းကိုယ်စကို အားကိုး၏။ ဘုရားတရားကို ကြည်ညိုကိုင်းရှိုင်း၏။ ဟာသစိတ်ဓာတ်လည်း ကြွယ်၏။

# သိရူကုရယ်လ်

၉

ဤပုဂ္ဂိုလ်သည် ရက်ကန်းသည်တို့ ဘာဝသို့တည်းမဟုတ် တောသူတောင်သားတို့ဘာဝ ရိုးရိုးအေးအေးနေရခြင်းကို နှစ်သက်၏။ ကလေး သူငယ်များနှင့်လည်း လွန်စွာအလိုက်သင့်၏။ သူ့၌ စိတ်ဓာတ်အရာတွင် ချီးကျူးလောက်သော အဓိက ဂုဏ်ထူးများကား ကြင်နာတတ်ခြင်း၊ သစ္စာမှန်ကန်ခြင်း၊ ရိုးသားခြင်းနှင့် မည်သူ့ကိုမှ ရန်ပြုလိုသော စိတ်ထား မရှိခြင်းပင် ဖြစ်လေသည်။ ဤပုဂ္ဂိုလ်ကြီးသည် သူတော်စင် ရဟန်းမဟုတ်ခဲ့ပေ။ သာမန်ပုထုဇဉ်တဦးပင် ဖြစ်၏။ ရဟန်းဟု အမည်ခံလျက် ယောင်ဆောင်တုပ၍ ဆိုးသွမ်းသူများ ပေါများကြောင်းကို သိရှိခဲ့သူဖြစ်၏။

ထေရဗာလုဗာသည် သဘာဝတရားကြီးကို အမြဲမပြတ် လေ့လာ လိုက်စား၏။ ငှက်များ တိရစ္ဆာန်များ၏ သဘာဝကို ရှုမြင်လေ့လာတတ်၏။ ထိုသဘာဝတို့နှင့် နှိုင်းယှဉ်၍ လူတို့နားလည် လွယ်အောင်လည်း ပုံဆောင်ပြောဆိုတတ်၏။

ဤပုဂ္ဂိုလ်အတွက် Godဘုရားဟူသည် တပါးတည်း ရှိ၏။ ထိုဘုရားသည် မိမိအား ယုံကြည် ကိုးစားသူ မှန်သမျှအား ထောက်ကူ ဖေးမတတ်သော အရှင်ဖြစ်ကြောင်း ယုံကြည်၏။ ပြည့်စုံကုံလုံသော ကိုယ်တော်ဖြစ်၏။ ကြည်ရွှင်ခြင်း၊ ချမ်းမြေ့ခြင်းကို ပေးနိုင်သော တဦးတည်းကိုယ်တော်ဖြစ်၏။ သူပြုစုသော ကျမ်းထဲတွင် ရုပ်တုဆင်းတု ကိုးကွယ်ခြင်း အလေ့အထကိုဖေါ်ပြထားသည်မရှိ။ ဂိုဏ်းဂဏ ကွဲပြားခြားနားမှုကိုလည်း ဖေါ်ပြထားခြင်းမရှိပေ။ သူသည် ဟိန္ဒူဘာသာအယူဝါဒမှရင်း၊ ဗုဒ္ဓဘာသာအယူဝါဒမှရင်း၊ အဆုံးစွန်သောအားဖြင့် ခရစ်ယန်အတွေးအခေါ်များမှရင်း၊ ကောင်းနိုးရာရာတို့ကို ရွေးချယ်ထုတ်နုတ်လျက် ပုလဲလုံး ရွှဲလုံးကလေးများ သီကုံးထားသည့်နှယ်၊ သူ့ကျမ်းတွင် ဖေါ်ပြတတ်သူ ဖြစ်လေသည်။

စာဆိုသည် ပညာဉာဏ်မှန်သမျှကို အစဉ်သဖြင့်ကြိုဆို လက်ခံနိုင်အောင် စိတ်ဓါတ်ကို ဟင်းလင်း ဖွင့်ထားတတ်သူဖြစ်၏။ မည်သည့်ဘာသာ မည်သည့်အယူကိုမဆို ပြက်ရယ်လှောင်ပြောင်ခြင်း မရှိကြောင်းကို သူ့ကျမ်းတွင် သိနိုင်၏။ ထို့ကြောင့်လည်း အိန္ဒိယနိုင်ငံတွင် ပေါ်ပေါက် ထွန်းကားသော ဘာသာအယူအားလုံးက သူပြုစုခဲ့သည့် သီရုကုရယ်လ်ကျမ်းကို လက်ခံနိုင်လျက် မိမိတို့နှင့်အတူ ပူနိုင်ခြင်းဖြစ်သည်။

ကျွန်ုပ်တို့ ကြံဆ၍ ဖြစ်နိုင်ဘွယ်ရှိသည်မှာ စာဆိုသည် မည်သည့် ဘာသာအယူဂိုဏ်းတွင်မျှ ပါဝင်ခဲ့သူ မဟုတ်ဘဲ၊ မိုင်လာပူဒေသတွင် မိမိဖါသာ အေးအေးလူလူ ရက်ကန်းရက်ယင်း ဘဝအတွေ့အကြုံများမှ ပညာဉာဏ်ကို ဆင်ခြင်ထောက်ဆယူခဲ့ခြင်း ဖြစ်တန်ရာသည်။ အရောင်မျိုးစုံရှိသော ချည်ထည်များကို ရက်လုပ်နေစဉ်၌ အယူအဆ အမျိုးမျိုးရှိသော ဘာသာအသီးသီးကို လေ့လာ၍သင့်ရာလျော်ရာ အကွက် အဆင်တို့ကို ဖေါ်သည့်နှယ်၊ မိမိကိုယ်ပိုင် ဆုံးဖြတ်ချက်ဖြင့် အတွေးအခေါ်ကို ဖန်တီးယူခြင်း ဖြစ်ပေသည်။ စာဆိုသည် ပျင်းရိခြင်းနှင့် ဟန်ဆောင်ခြင်းတို့ကိုကား ရွံရှာမုန်းတီးသူ ဖြစ်လေ

သည်။ လူတို့၏ နေ့စဉ် ဘဝကို ထိုးဖေါက် ဝင်ရောက်၍ လေ့လာသိရှိဘူးသူ တဦးသာ မဟုတ်ခဲ့ပါက၊" ဤမျှ ရှင်းလင်း၍ လှပသော လူ့ဘဝကြေးမုံတို့ကို စာဖွဲ့နိုင်မည် မဟုတ်ပေ။ ထို့ကြောင့် စာဆို၏ စာပိုဒ်တိုင်း၌ လူ့စိတ်ကူး, လူ့သဘော, လူ့အကြိုက်, လူ့ဝိညာဉ်တို့သည် လူးလွန့်ရှင်သန်လျက် ရှိသည်ကို တွေ့ရမည်ဖြစ်သည်။

---

# ကုရယ်လ်နှင့် ပညာရှိတို့အမြင်

သိရုကုရယ်လ်ကို နိုင်ငံခြားသားတို့ စတင်သိရှိလာသည်မှာ နှစ်ပေါင်း ၂၀၀ ကျော်လေပြီ။ အိန္ဒိယနိုင်ငံသို့ ရောက်ရှိလာကြသော နိုင်ငံခြားသားများတွင် ဥရောပ တိုက်သား အများအပြား ပါရှိလေရာ ခရစ်နှစ် ၁၇၃၀-ပြည့်နှစ်၌ ခရစ်ယန် ဘုန်းတော်ကြီး ဂျိုးဇက်ဗက်ရှ် Joseph Besche ဆိုသူက လက်တင်ဘာသာသို့ ပြန်ဆိုခဲ့ဘူးသည်။ ပြန်ဆိုရာတွင် ပထမပိုင်း ၂-ပိုင်းကို စာအုပ် နှစ်အုပ် ထုတ်ဝေခဲ့လေသည်။

ထိုနောက် ကင်မားရားဆိုသူက ခရစ်နှစ် ၁၈၀၃-ခုနှစ်တွင် ပြန်ဆိုပြီးသား ဖြစ်ခဲ့သည်။ ခရစ်နှစ် ၁၈၅၆-ခုနှစ်တွင် တဖန် ဂျာမန်ဘာသာဖြင့်ပင်ပို၍ ပေါ်လွင်သော ကျမ်းတစောင်ကို ကားလ်ဂရောလ် **Karl Graul**ဆိုသူက ဘာသာပြန်ဆိုထုတ်ဝေခဲ့ပြန်သည်။

အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုရာထွင်ကား ကုရယ်လ်နှင့်ပတ်သက်၍ စာအုပ်ဦးရေ အတော်များများ ရှိသည့်အနက် ဒေါက်တာပုပ် **Dr. Pope** ၏ ဘာသာပြန်ကဗျာများမှာ အကောင်းဆုံး လက်ရာဖြစ်သည်ဟူ၍ အသိအမှတ် ပြုကြလေသည်။ ကုရယ်လ် ကျမ်းကြီးမှာ မူလကဗျာနှင့် ဖွဲ့ဆိုထားသော ကျမ်းကြီး ဖြစ်သည့်အတိုင်း၊ ဒေါက်တာပုပ်က ပိုင်နိုင်စွာ အင်္ဂလိပ်ဘာသာဖြင့် ကဗျာဖွဲ့၍ ဘာသာပြန်ဆိုခဲ့ခြင်း ဖြစ်လေသည်။ ဒေါက်တာပုပ်သည် တမီလ်အမျိုးသားများအား အထူးမေတ္တာထားသော ပုဂ္ဂိုလ်ကြီး ဖြစ်သည့်ပြင် တမီလ်တို့၏ ဒေသ အိန္ဒိယပြည်တောင်ပိုင်းတွင် နှစ်ပေါင်း အတော်ကြာကြာနေထိုင်ခဲ့၏။ ထို့ပြင် တမီလ်စာပေကိုလည်း အထူးတလည် လိုက်စားခဲ့သူ ဖြစ်လေသည်။

မူလ ကျမ်းပြုဆရာ ထေရုဗာလုဗာကား တမီလ်ဘာသာ အရေးအသားတွင် ပိုင်နိုင်မှုကြောင့် ဒေါက်တာ လာဇားရပ်ဆိုသူ ဘုန်းတော်ကြီးက အင်္ဂလိပ်စာရေးဆရာကြီး ဂျွန်ဗန်ယန် **John Bunyan** ၏ ရှင်းလင်း လွယ်ကူသော ဟန်ထက်ပင် ကောင်းလှသေးသည်ဟု ချီးမွမ်းထောမနာ ပြုတူးလေသည်။

ဖရက်ဒရစ်ပင်းကော့ **Frederick Pincott** ဆိုသူပုဂ္ဂိုလ်ကြီး၏အဆိုအရမှာ အိန္ဒိယပြည်တွင် လူထုအားလုံး၏ စိတ်ဓာတ်ကို သိမ်းကြုံးလွှမ်းမိုးနိုင်သော ကျမ်းကြီး

နှစ်စောင်ရှိသည်ဟုဆို၏။ ပထမကျမ်းမှာ တူလဆီဒါသ **Tulsi Das** ဆိုသူပုဂ္ဂိုလ်၏ ရာမာယန ဇာတ်ကြီးဖြစ်လျက် အိန္ဒိယနိုင်ငံ မြောက်ပိုင်းတွင် အထူးကျော်ကြား၏။ ဒုတိယ ကျမ်းကား ထေရုဗာလုဗာ၏ သိရုကုရယ်လ် ကျမ်းကြီးဖြစ်၍ အိန္ဒိယတောင်ပိုင်း တပိုင်းလုံးတွင် ကျော်ကြားလှသည်ဟု ဆိုပေသည်။ ထိုကျမ်း နှစ်စောင်စလုံးပင် ယခုအခါ အိန္ဒိယပြည်၌ လူသိများလျက် ရှိပေသည်။

ဒေါက်တာ ဂရောလ်ဆိုသူ ပုဂ္ဂိုလ်ကြီးကမူ သိရုရယ်လ်၏ ဖွဲ့နွဲ့ပုံ၊ စိတ်ကူး အခြေခံပုံ ကောင်းမွန်ခြင်းကို ပြလိုသောကြောင့် ကုရယ်လ်၏ အယဉ်အနု အလှအပကို အဘယ်ဘာသာ ပြန်ချက်ကမှ ပုံတူဖေါ်ပေး၍ ရမည်မဟုတ်ဟူ၍ပင် ထင်မြင်ချက် ပေးခဲ့လေ၏။

ထေရုဗာလုဗာသည် စာလုံးပေါင်းတသောင်း နှစ်ထောင်ဖြင့် ဤနီတိ ကဗျာ ကျမ်းကြီးကို ဖွဲ့နွဲ့ရေးစပ်ခဲ့ရာတွင် ထုံးစံအားဖြင့် မှီးရတတ်သော သက္ကဋ္ဌဘာသာ စကား လုံးများကို လုံးရေ (၅၀)ပင် မပြည့်ဘဲ သုံးစွဲခဲ့ပြီး ကျန်စာလုံးများကို တမီလ်ဘာသာ ဖြင့်ပင် အဓိပ္ပါယ်ပြည့်စုံကြွယ်ဝအောင် ရေးသားခဲ့လေသည်၊ ဤသို့ဘာသာစာပေ အရာတွင် ကြွယ်ဝမှုရှိခြင်းကလည်း မူလပြုစုခဲ့သော တမီလ် စာဆိုကြီးအား ချီးကျူးဖွယ် ဖြစ်ပေတော့သည်။

ကုရယ်လ်တွင် ဖေါ်ပြထားသော လျှို့ဒါန်းခြင်း၊ ခွင့်လွှတ်ခြင်း စသည်တို့မှာ ဂရိစိန္တာကဝိ အရစ္စတော်တဲ **Aristotle** ပင် ဟောကြား ဆုံးမခဲ့ဘူးခြင်း မရှိသော အကြောင်းရပ်များဖြစ်သည်ဟု တမီလ်စာပေကို ကျွမ်းကျင်အောင်လေ့လာ၍ ကုရယ်လ် ကို ဘာသာပြန်ခဲ့သူ ဒေါက်တာပုပ်က ရေးသားခဲ့ဘူးသည်၊ တမီလ်ဘာသာ စာပေ၏ ထင်ရှားမှုမှာ ဤကျမ်း တစောင်တည်းနှင့်ပင် ကမ္ဘာက အသိအမှတ် ပြုရကြောင်း ထိုပုဂ္ဂိုလ်ကြီးကပင် မှတ်ချက်ပြုလေသည်။

သိရုကုရယ်လ်တွင် ရေးသားထားသော အကြောင်းရပ်တို့မှာ ခရစ်ယန်သမ္မာ ကျမ်းဟောင်း **Old Testament** ၏ အဆို အမိန့်များကဲ့သို့ပင် ရှေးခေတ်မှီလှ၏ ဟု လည်း ဆိုကြပေသည်။

ကုရယ်လ်ကျမ်းကြီးတွင် အခန်းပေါင်း ၁၃၃-ခန်းရှိ၏။ တခန်းတခန်းလျှင် အပိုဒ်ပေါင်း ၁၀-ပိုဒ်စီရှိသဖြင့် ကျမ်းတစောင်လုံးတွင် အပိုဒ်ပေါင်း ၁၃၃၀-ရှိလေသည်။ အခန်းခေါင်းစဉ်တပ်၍ ထားသော်လည်း စာတအုပ်လုံးကို ကဏ္ဍကြီး သုံးခုဖြင့် ခွဲထား၏။ ယင်းတို့မှာ–

(၁) ဂုဏ်အချင်းအရာများ ဆိုင်ရာကဏ္ဍ
(၂)
(၃)

ပြည့်စုံကုံလုံမှု ဆိုင်ရာကဏ္ဍ
ချစ်ခြင်းမေတ္တာ ဆိုင်ရာကဏ္ဍဟူ၍ ဖြစ်လေသည်။

သိရကုရယ်လ်မှာ အိန္ဒိယပြည်၏ ရှေးဟောင်းကျမ်းကြီး တစောင် ဖြစ်သော ဘဂဝတ် ဂီတာကဲ့သို့ လူသိမများပေ။ မသိကြခြင်းအကြောင်းတွင် ကုရယ်လ်သည် အခြားကျမ်းများထက် သိမ်ငယ်၍ အညတြဖြစ်သောကြောင့် မဟုတ်၊ ကုရယ်လ်ကို လူသိအောင် မလုပ်ခဲ့ကြ၍ဟု ကုရယ်လ်နှင့် ပတ်သက်သောအဖွင့်ဆရာတို့က ဆိုပါသည်။

ထင်ရှားမှုနှင့် ဩဇာလွှမ်းမိုးမှု နေရာတွင် အိန္ဒိယပြည်၌ ကုရယ်လ်သည် အခြား ထင်ရှားသော ကျမ်းများနည်းတူ တတန်းတစားတည်းဖြစ်ပေသည်၊ တခုဆိုစရာ ရှိသည်မှာ ကုရယ်လ်သည် အိန္ဒိယပြည် တောင်ပိုင်းသား တမီလ်ဘာသာ စကားကို ပြောဆိုနေကြသူတို့၏ ယဉ်ကျေးမှုပစ္စည်းတရပ် ဖြစ်ပေသည်၊ တမီလ်စာပေကို ခေသစ်တွင် လေ့လာ လိုက်စားသူများ တနေ့တခြား များပြား လာသည်နှင့်အမျှ ကုရယ်လ်ကျမ်းကြီးကို စိတ်ပါဝင်စားသည့် ဦးရေမှာများပြား တိုးတက်လာခဲ့လေသည်။

ကုရယ်လ်နှင့် အကျွမ်းဝင်ပြီး သူများတွင် ကမ္ဘာကျော် ပုဂ္ဂိုလ်ကြီးပေါင်း အတော်များများ ပါဝင်သည်၊ ထိုပုဂ္ဂိုလ်ကြီးများသည် အိန္ဒိယ တိုင်းရင်းသားများ သော်၎င်း၊ နိုင်ငံခြားသားများ သော်၎င်း ဖြစ်ကြ၏။

ကုရယ်လ်ကို လေ့လာလိုက်စားခဲ့သူများတွင် အထက်၌ ဖော်ပြခဲ့သော ကမ္ဘာကျော် ခရစ်ယန် ဘုန်းတော်ကြီး ဒေါက်တာပုပ် အပြင် အမေရိက တောတွင်းပျော် ဂျာမန် ပြည်သား ကမ္ဘာ့ငြိမ်းချမ်းရေး သမားကြီး ဒေါက်တာ အယ်လဗတ်ရှိုက်ဇာ **Dr. Albert Schweitzer** နှင့် မဟတ္တမဂန္ဓီ ***Mahatma Gandhi*** တို့လည်း ပါဝင်ပေသည်။ ဒေါက်တာပုပ်သည် ကုရယ်လ်ကို ဘာသာပြန်ဆိုခဲ့ယုံမက အဖွင့်ကျမ်းတစောင်ပင် ရေးသားပြုစုခဲ့လေသည်။

တောပျော် ဂျာမန်ဆရာဝန်ကြီး ဒေါက်တာရှိုက်ဇာကမူ ကမ္ဘာ့ ဂန္ထဝင်တွင် ကုရယ်လ် ကျမ်းကဲ့သို့ မြောက်များစွာသော ဆောင်ပုဒ်များကို တလုံး တစည်းထည်း စုပေါင်း၍ ပညာပဒေသာဟင်းလေးအိုးကြီး ပြုစုထားခြင်းမှာ ရှိခဲလှသည် ဟူ၍ ထုတ်ဖော်ရေးသား ဘူးလေသည်။

ကုရယ်လ်ကို ထင်မြင်ချက်ပေးကြသူတို့၏ ကောက်နုတ်ချက်များမှာ အောက်ပါ အတိုင်း ဖြစ်လေသည်။

တမီလ်စာပေတွင် ကုရယ်ကျမ်းကြီးသည် လက်ရာ အမြောက်ဆုံးဖြစ်၍ လူတို့၏ စိတ်ကူး စိတ်သန်းများကို အမြင့်ဆုံးနှင့် အစင်ကြယ်ဆုံး ဖေါ်ပြထားချက်များ ဖြစ်ပေသည်။

မစ္စတာအေရီရယ်လ် *Mr. Ariel*

(အေရှာတစ်ဂျာနယ်၊ (၁၈၄၈-ခုနှစ်)

## သီရ ကုရယ်လ်



မည်သည့် ဘာသာပြန်ကမှ ကုရယ်လ်ကျမ်းကြီး၏ လှပညက်ညောမှု သဘောကိုဆောင်နိုင်လိမ့်မည် မဟုတ်။ ဤကျမ်းသည် ငွေဆိုင် ငွေပန်းတို့တွင် တင်ထားသော ရွှေအတိပြီးသည့် ပန်းသီးနှင့် တူပေ၏။

ဒေါက်တာဂရောလ် **Dr. Grau l**(၁၈၅၆)

ကုရယ်လ်ကျမ်းကြီး၏ ပေါ်လွင် ထင်ရှားမှုမှာယင်း၏ လှပသော ကဗျာအဖွဲ့အနွဲ့ကို အဓိကအားဖြင့် အကြောင်းပြုပေသည်။ ဖွဲ့နွဲ့ရာတွင် တိုတောင်း ပြတ်သားမှုကြောင့် ဝါကျအရာတွင် ဘုရင်တဆူဖြစ်သော ပုဂ္ဂိုလ်ကြီး၏ ရေးသား ချက်များသည် စကားသြဇာနှင့် ပြည့်စုံလှပေသည်။ ကိုယ်ကျင့်တရားနှင့် စပ်ဆိုင်သော အဆုံး အမ ပုလဲလုံးရွှဲလုံးကလေးများလည်း ဖြစ်သည်။ ဖွဲ့နွဲ့ပုံမှာခေါမခေတ်ကဗျာများနှင့်တူသည်။ ထိုခေတ်က အကြောင်းကိစ္စများ၊ စိတ်နေများ၊ လူ့ဘောင်၏ အခြေအနေများကိုလည်း ဖေါ်ပြပေသည်။ တမီလ်စာပေတခေတ်၏ ဖွဲ့နွဲ့ပုံလှပမှုကိုလည်း များရာစုဖြစ်သောအပိုဒ်တို့တွင် တွေ့နိုင်ပေသည်။

ဘုန်းတော်ကြီးပုဒ် (၁၈၈၆)

ကုရယ်လ်ကျမ်းကြီးသည် စာပေအမွေအနှစ်အဖြစ်၎င်း၊ နှုတ်ငုံကဗျာအဖြစ်၎င်း ရွတ်ဆိုရာ ကျင့်ကြံရာတို့တွင် တမီလ်အမျိုးသားတို့အဖို့ ခေါမခေတ် ကဗျာဆရာကြီးဟုမွှား **Homer** အား ဂရိတို့အလေးအမြတ် ပြုသကဲ့သို့ပင် ဖြစ်ပါတော့သည်။

ကျမ်းထဲတွင် ပါသောစာကြောင်းတို့၏ သြဇာလွှမ်း မိုးမှုမှာ ရဟူဒီတို့အတွက် ပညတ်တော် ဆယ်ပါး **Ten Commandments** သည် ဦးထိပ်ပန်ဆင်အပ်သကဲ့သို့ဖြစ်ပေ၏။ အသုံးပြုသော စာသားမှာ ဗာကော့စ်း ပေမွန်တို့၏ နမူနာ အရာ၌လည်း တည်သည်။ ဒန်တေ **Dante** ၏ ကဗျာ စာပေ များသည် အီတလီပြည် သူတို့၏ စိတ်ကူးမှုနှင့် စာပေတွင် လွှမ်းမိုးသကဲ့သို့၊ ကုရယ်လ်ကျမ်းကြီးသည် တမီလ်အမျိုးသားတို့၏စာပေတွင်၎င်း၊ အတွေးအခေါ်တွင်၎င်း လွှမ်းမိုးပေသည်။

ချား လ် အီ၊ ဂိုး ဗ ၁ း။

စိတ်ကူး စိတ်သန်း အရာ၌ဖြစ်စေ၊ စာပေအရာ၌ ဖြစ်စေ ပထမတန်း ကျမ်းကြီး ဖြစ်သည်။ ကုရယ်လ်သည် (အိန္ဒိယ)နိုင်ငံ၏ တစိတ်တဒေသ ဖြစ်သော စာပေတွင် လူတိုင်း အားသိသာ ထင်ရှားစေသော ကျမ်းဖြစ်လျက် တန်ဘိုးအရာတွင် သူမတူ လွန်ကဲပေသည်။

ဘုန်းတော်ကြီးဒုဗလျူ၊အိပ်ချ်၊ ဒရူး( ၁၇၄၀ )

## ၁၄ သိရုကုရယ်လ်

စာဆိုကြီးဗာလုဗာအား တမီလ်အမျိုးသားတို့၏ ဆော်လမွန် **Solomons** များ အီဇရာ **Ezras** များ တူပါ **Tupas** များဟု ခေါ်ဆိုရမည်။ အဘယ့်ကြောင့်ဟူမူ ရှေးခေတ်က ဆိုထုံးနှင့် နာနာနယ အတွေး အခေါ်များကို စီစဉ်စုဆောင်းခဲ့သောကြောင့် ဖြစ်ပေသည်။

ဘုန်းတော်ကြီး အီး၊ ဂျေ၊ ရို ဘင်ဆင် **E. J. Robinson**။

ကူရယ်လ်၏ အချို့ အဆို အမိန့်များတွင် သမ္မာ ကျမ်းစာဟောင်းတွင်ပါသော အရေး အသား များထဲမှကဲ့သို့ ရှေးဟောင်းကျဘွယ်ရှိသည်။

### ဘုန်းတော်ကြီး အီလိုက်ဇာဟူးလ် *Eliza Hull*။

ကုရယ်လ် ကျမ်းကြီးသည် တမီလ်ဘာသာတွင် ချီးမွမ်းဖွယ်ကောင်းသော ကဗျာများကို စုဆောင်းထားခြင်း ဖြစ်သည်။ ယင်းတို့မှာ ဘာသာရေး အတွေးအခေါ်တွင် အစင်ကြယ်ဆုံးဖြစ်၍ အမြင့်မားဆုံးလည်းဖြစ်၏။ ပါဝင်သော အတွေးအခေါ်တို့မှာလည်း ဘဂဝတ်ဂီတာ **Bhagavad Gita** ကျမ်းကြီးကဲ့သို့ တမျိုးတစု အကြောင်း မဟုတ်ဘဲ ကျမ်းပေါင်းများစွာတို့မှ ကောင်းနိုးရာရာတို့နှင့် ခြုံမိပေသည်။

ဒေါက်တာဘတ်။

(အိန္ဒိယပြည်၏ ဘာသာအယူများ စာအုပ်တွင်)

ထေရုဗာလုဗာ၏ ကုရယ်လ် ကျမ်းကြီးသည် အိန္ဒိယပြည် တောင်ပိုင်း ကျွန်းဆွယ် တပိုင်းလုံးတွင် လူသိများလှ၏။ အကြင်သူသည် တမီလ်ဘာသာကို လေ့လာကျွမ်းကျင် ပြီးသည်ဆိုအံ့။ တမီလ်စာပေ၏ လက်ရာမွန်ဖြစ်သော ဤကျမ်းကို ဖတ်ရှုနားလည်ပြီး မဟုတ်ပါသေးလျှင် တမီလ်စာပေကို ကျွမ်းကျင်ပြီဟု မဆိုနိုင်ပေ။

ဖရက်ဒရစ်ပင်းကော့။

ကုရယ်လ်ကျမ်းသည် တမီလ်ဘာသာ စာပေတွင် အသန့်စင်ဆုံးဖြစ်၏။ အင်္ဂလိပ် စာပေတွင် ဘန်ယန်၏ ရှင်းလင်း သန့်စင်ခြင်း ဟန်သည်ပင် ကုရယ်လ် ကျမ်းကြီးနှင့် သဘာဝချင်း မယှဉ်နိုင်ပေ။ တမီလ်စာပေတွင် ထွက်ပေါ်ပြီးသမျှ လက်ရာတို့တွင်လည်း ကုရယ်လ်နှင့် ယှဉ်နိုင် တုနိုင်သော လက်ရာမရှိပေ။ ကုရယ်လ်သည် ခေတ်သစ်တမီလ် စာပေအား ဝင့်ကြွားပြောင်လှောင်နေသလို ရှိ၏။ ထေရုဗာလုဗာသည် မိမိ၏ တိုင်းရင်း ဘာသာစကား၏ ကြွယ်ဝပုံ၊ သုတိသာယာရှိပုံ၊ အားပြည့်ပုံတို့ကို ထင်ရှားစွာ သက်သေ ပြခဲ့ပေသည်။

ဒေါက်တာလာဇာရပ်စ်။

ထေရုဗာလုဗာသည် တမီလ်ကျမ်းပြု စာရေးဆရာတို့၏ ဘုရင်တဆူဖြစ်၊ ဘုရား တဆူတမျှ ဖြစ်ခဲ့သည်။ သူ့ရေးသားဖွဲ့ဆိုထားပုံမှာ အများသဘော တူညီချက်အရ



တမီလ်စာပေတွင် လှပညက်ညောမှု အရှိဆုံး ဖြစ်၏။ ကုရယ်လ်နှင့် စိန္တာမဏိ **Chintamani** တို့သည် မူလဖန်တီးချက်များဖြစ်၍ သက္ကဋကို အမှီသဟဲ ပြုရခြင်းမှ ကင်းလွတ်ခဲ့၏။

ဘုန်းတော်ကြီး

ရောဗတ်ကော်ဒွယ် Robert Coldwell။

ကုရယ်လ် ကျမ်းပြုသူ ထေရုဗာလုဗာသည် တမီလ်အမျိုးသား နီတိဆရာတို့တွင် ပထမ အဆင့်တွင်ရှိ၍နေသည်။ ယေဘုယျအားဖြင့် သဘောတူ လက်ခံကြသည်မှာ အိန္ဒိယစာပေတွင် ကုရယ်လ်ကျမ်းနှင့် တူနိုင်သော ကျမ်းများ မရှိဟူ၍ ဖြစ်ပေသည်။

ဂျွန်၊ မား ဒေါ့ John Murdock။

ကုရယ်လ် ကျမ်းကြီးတွင် ထေရုဗာလုဗာ ဖေါ်ပြဟောကြားသော တရားတို့သည် လောက တခုလုံးအတွက် စာသဝဏ်ဖြစ်၍ ထိုမှာကြားချက်မျိုးကို ယခုအခါထက်ပို၍ လိုအပ်သော အခါသည် ရှိမည်မဟုတ်ပေ။

ဒေါက်တာ၊ ဆာ၊ လက်ရှမာ နာဆွာမိ မုဒါလိယာ

Dr. Sir Lakshmanaswami Mudaliar

ကုရယ်လ် ကျမ်းသည် အိန္ဒိယယဉ်ကျေးမှုအတွက် ပေါ်လာသော အကောင်းဆုံး လက်ရာတခု ဖြစ်သည်။ ကျမ်းပြုသူ ထေရုဗာလုဗာသည် နိုင်ငံပြု သုခမိန်နှင့် ဥပဒေပြု ပုဂ္ဂိုလ်မျိုး၏ ဥာဏ်ရည်ဖြင့်၎င်း၊ သူတော်သူမြတ် တဦး၏ ကြိုတင်သိမြင်နိုင်သော တန်ခိုးမျိုးနှင့်၎င်း ပြည့်စုံသူဖြစ်သည်။ သူ၏ ကုရယ်လ် ကျမ်းကြီးသည် အိမ်ထောင်ရှင် များအတွက် အဖိုးတန် အကြံဥာဏ်ပေး အဖြစ်နှင့်၎င်း၊ ထိုသို့မျှသာ မဟုတ် မင်းလုပ် အုပ်ချုပ်သူတို့ အတွက်၎င်း၊ လောကီမှ လွတ်မြောက်ရာ လွတ်မြောက်ကြောင်း ရှာသူ တို့အတွက်၎င်း စစ်မှန်သော ဘဏ္ဍာတိုက်ကြီး ဖြစ်ပေသည်။ သို့ဖြစ်ခြင်းကြောင့် အိန္ဒိယ စာတွင် အရေးပါသော ကျမ်းသာ မဟုတ်၊ ကမ္ဘာ့စာပေတွင်လည်း အရေးပါ သော ကျမ်းဖြစ်လေသည်။

မနိုမိုဟန်ဂို့ရှ် Manomohan Ghosh။

ကုရယ်လ်သည် လူမျိုးမရွေး၊ အသက်အရွယ်မရွေး၊ အသုံးဝင်သော ကျမ်းဖြစ်၏။

အခါရာသီမရွေး အမျိုးမျိုး

ကေ၊ အင်၊ ဗလဆူဗရ မာနီယင်

K. N. Balasubramanian။

ထေရုဗာလုဗာသည် တမီလ်သူတော်စင် တဦးဖြစ်၏။ ဆိုရိုးဆိုစဉ်ဖြင့် သိရသည်မှာ သူသည် ယက္ကန်းသည် တဦးဖြစ်၏။ သူသည် ခရစ်နှစ် ပထမ ရာစုအတွင်း သက်ရှိထင်ရှားခဲ့၏။ တမီလ် အမျိုးသားတို့အတွက် တမီလ်ဗေဒကျမ်းဟု ခေါ်ဆို အပ်သော



အမည် ထင်ရှားသည့် သိရုကုရယ်လ် နီတိကျမ်းကြီးကို သူသည် ကျွန်ုပ်တို့ အားပေးခဲ့၏။ နီတိ အပိုဒ်ပေါင်းမှာ ၁၃၃၀-ရှိသည်။ ထိုနီတိများကို ဘာသာ အမျိုးမျိုးသို့ ပြန်ဆို ပြီးလေပြီ။

၁

မဟ ဓမ္မ ဂန္ဓ။

ဤသို့လျှင် ကုရယ်လ်ကျမ်းကြီးသည် သူ့ခေတ်တွင်သာ ထင်ရှားခဲ့သည်မဟုတ်၊ နှောင်းလူတို့ခေတ်၌ ပေါ်ပေါက်သော စာပေကဗျာတို့တွင် တနည်း မဟုတ် တနည်း အားဖြင့် များစွာ ဩဇာလွှမ်းမိုး နိုင်ခဲ့လေသည်။

နိဂုံးချုပ်အားဖြင့်ဆိုရလျှင် ကုရယ်လ်နှင့်ပတ်သက်၍ဂန္ထဝင **Bibliography** ကျမ်းငယ်တခု ပြုခဲ့သော သီရိမာလေ မူတူးဆွာမိ *Thirimalai Muthuswami* ဆိုသူ၏ စကားနှင့် ပြောရလျှင် ကုရယ်လ်သည် စာရေးဆရာကြီး မေလတန်၏ ခမ်းနားမှုမျိုးကိုငင်း၊ ဒန်တေ၏ ညက်ညောမှုမျိုးကိုငင်း၊ ရှိတ်စပီးယား၏ လူတိုင်း လက်ခံနိုင်သော အရည်အသွေး မျိုးကိုငင်း၊ အရစ္စတော်တဲလ်၏ တည်ကြည် ငြိမ်သက် ခြင်းမျိုးကိုငင်း၊ ပလေတို၏ စိတ်ကူး ဆန်းကျယ်မှုမျိုးကိုငင်း၊ မားကပ် ဩရဲလီယပ်စ် *Marcus Aurelius*၏စာရိတ္တ အရာတွင် ထင်ရှားဖော်ပြမှုမျိုးကိုငင်း၊ ဉဿုံစုပေါင်း၍ ဤလောကသားတို့ သမာကျမ်းတွင် ဖတ်ရှုနိုင်လေသည်ဟု ဆိုထားပေသည်။

---

# ကဏ္ဍကြီးသုံးရပ်

ကုရယ်လ်ကျမ်းကို နှောင်းလူတို့က လေ့လာသောအခါတွင် တွေ့ရှိရသည်မှာ ထေရုဗာလုဗာသည် ဤကျမ်းကို ပြုစုနိုင်ရေးတွင် အိန္ဒိယနိုင်ငံ၌ လူသိများသော အခြား ကျမ်းကြီးများနှင့် ရင်းနှီးခဲ့ကြောင်းပင် ဖြစ်လေသည်၊ ထိုကျမ်းများမှာ သက္ကတဘာသာ ဖြင့် ရေးသား ပြုစုထားသော မနု *Manu* ကောတိလျ *Kautilya* (စာဏကျ)၊ ခါမန္တက၊ *Kamantaka*စသည်များဖြစ်၏။ ထို့ပြင် အာယုဗေဒ *Ayuveda*ကျမ်းများ နှင့် ကာမသုတ္တရတို့လည်း ပါဝင်၏။

ယင်းကျမ်းကြီးများ၏ အဆိုအမိန့်များနှင့် ထပ်တူဖြစ်သော ကုရယ်လ် ကျမ်းပါ အခန်းများကို ပြရပါလျှင် အခန်း၅။ အပိုဒ်၁–နှင့် ၇–ပါ။ အိမ်ထောင်ရှင်တို့၏ အရေး ကြီးပုံတွင်ငင်း၊အခန်း၆–အပိုဒ် ၈–တွင် ဖော်ပြထားသည့် အိမ်ရှင်မ အကြောင်း ဖော်ပြ ချက်များသည်ငင်း၊ မနုကျမ်းကြီးပါ အတွဲ၃။ အပိုဒ် ၇၈–နှင့်ငင်း၊ အတွဲ ၅။ အပိုဒ် ၁၅၅–နှင့်ငင်း၊ အသီးသီး တူပေသည်။

အခန်း ၄၀။ အပိုဒ်၆–တွင်၊ "ပညာကို လေ့လိုက်စားသည်နှင့်အမျှ ပညာရောင် ထွန်းလင်းပေမည်။ ရေတွင်းကို နက်စွာတူးသည်နှင့်အမျှ သဲမှရေထွက်ပေမည်" ဟူသော

အဆိုအမိန့်မှာ မနုကျမ်းကြီး၏ အတွဲ ၂။ အပိုဒ် ၂၁၈တူပေသည်။ ထိုပြင် အခန်း ၅၁။ အပိုဒ် ၁၊တွင် ပါဝင်သော မှူးမတ်တို့၏သစ္စာရှိမှုကို စမ်းသပ်ခြင်းသဘောသည် ကောတိလျ၏အဓိကာရဏာ *Adhikarana* အဒိယာယ *Adhiyarya*၁၀-တို့ပါ အရည်အချင်း လေးမျိုးတို့နှင့် တူပေသည်။ ထို့မှတပါး အခန်း ၄၄။ အပိုဒ်၁-နှင့် ၂-တို့တွင် ဘုရင်၏ ချွတ်ယွင်းချက် ၆-ပါးမှာ ကောတိလျ၏အဓိကာရဏာ၁။ အဒိယာယ ၆-တို့မှ အဆိုအမိန့်နှင့် တူပေသည်။

ထေရဗာလုဗာ ဖေါ်ပြထားသော နိုင်ငံတခု၏ ခုနစ်ပါးသော မဏ္ဍိုင်တို့မှာ ခါမန္ဒက ကျမ်းအတွဲ ၄။ အပိုဒ်တို့နှင့် တူညီသည်။ ထိုပြင် အခန်း ၃၉။ အပိုဒ် ၅-ရှိ ဥစ္စာဘဏ္ဍာရကြောင်း အကြောင်း လေးပါးတို့သည်။ ခါမန္ဒကကျမ်း အတွဲ၁။ အပိုဒ် ၂၀-နှင့် တူလေသည်။

ကုရယ်လ်၏ အခန်း ၅၉။ အပိုဒ်၁-တွင် သူလျှိုတို့သည် မင်း၏ မျက်လုံး ဖြစ်သည်ဟူသော အဆိုမှာ ခါမန္ဒကကျမ်း အတွဲ ၁၃၊ အပိုဒ် ၂၈။ ၂၉။ ၃၁။ တို့ကို အမှီသဟဲပြုပေသည်။ အကြမ်းအားဖြင့် ဤသဘောပါသောအဆိုအမိန့်တို့သည် ကာမန္ဒကၮ် နီတိသာရ *Nitisara*ကို အမှီပြုပေသည်။

ကုရယ်လ်၏ အခန်း ၉၅။ အပိုဒ်၈၊ ၉။ ၁၀။ တို့တွင် သူနာတို့အား ပြုစုစောင့်ရှောက်ပုံ သဘောများမှာ အာယုဗေဒများနှင့် ညီတူသည်ကို တွေ့ရပြန်သည်

အခန်း ၁၁၁။ အပိုဒ်၁–တွင် ဖေါ်ပြထားသော အာရုံငါးပါး၏ ခံစားချက်တို့သည် မိမိချစ်နှစ်သက်သော တဦးထည်းထံတွင် ရရှိနိုင်သည် ဟူသော အချက်တို့မှာ ကာမသျှတ္တရကျမ်း ၁–၂။နှင့် ၁၁တို့ကို သိမ်မွေ့စွာ ဖေါ်ပြထားခြင်း ဖြစ်ပေသည်။

ယခုဖေါ်ပြသော ကာမန္တက၏ နီတိသာရ၊ ကောတိလျ၊ (စ၁ဏကျ)၏ အတ္ထသျှတ္တရ*Arthashatra*စသည်တို့နှင့် ကာမသျှတ္တရ တို့မှာ ထေရုဗာလုဗာ သူမြတ် ကုရယ်လ်ကျမ်းကို မရေးသားမီက ပေါ်ပေါက်ခဲ့ကြောင်း ထင်ရှား၏။ ထို့ပြင် တမီလ် စာပေ၌ ထင်ရှားသော တော်လကပ္ပိယံ*Tolkappiyam*ကျမ်းမှာ ကုရယ်လ် ထက်စောသည် ဖြစ်ရာ ကုရယ်လ် ပေါ်ထွက်သော အချိန်ကို ခရစ်နှစ် ၆၀၀ခန့်ဟု သတ်မှတ်သင့်ကြောင်းဖြင့် မဒရပ် တက္ကသိုလ်နှင့် ထရဝမ်ကိုတက္ကသိုလ်တို့တွင် ပါမောက္ခ အဖြစ် ဆောင်ရွက်ခဲ့ဘူးသောပေရာပူရိ ပီလေး*Verapuli Pillai*ဆိုသူက "တမီလ်ဘာသာနှင့် စာပေ သမိုင်း" တွင် ရေးသားဖေါ်ပြ ထားလေသည်။

ကျမ်းပြုသူ ထေရုဗာလုဗာသည် ကုရယ်လ်ကျမ်းကြီးကို မူလကကုရယ်လ် ဟူ၍ အမည်မပေးခဲ့တဲ မူပယ်လ်*Muppal*ဟူ၍ အမည်ပေးခဲ့ဟန် ရှိကြောင်းလည်း သိရသည်။ အဓိပ္ပါယ်မှာ သုံးစောင်တွဲဟူ၍ ဖြစ်သည်။ကုရယ်လ်*Kural*မှာမူ လင်္ကာတိုများဟု အဓိပ္ပါယ် ရလေသည်။

ဿ

ကုရယ်လ်တွင် အပိုင်းကြီးသုံးပိုင်းရှိသည်။ ပထမပိုင်းသည် အိမ်ထောင်ရှင်များ၏ ကျင့်ဝတ်နှင့် ပတ်သက်၏။ ဒုတိယပိုင်းသည် မင်းစသော အုပ်စိုးသူတို့နှင့် အခြေအရံများနှင့် ပတ်သက်၏။ တတိယပိုင်းသည် ယောကျ်ားနှင့် မိန်းမ ဆက်ဆံရေးဖြစ်သော အိမ်ထောင်မှု (ဃရာဝါသ)နှင့် ပတ်သက်သည်။

အထက်ပါ သုံးပိုင်း၊ သို့မဟုတ် သုံးစောင်တွဲကို ဤစာအုပ်တွင် အခန်းကဏ္ဍ ခွဲ၍ ပြထားပါသည်။

ပထမ ကဏ္ဍကို ဂုဏ်အချင်းအရာများ **Virtues** ဆိုင်ရာကဏ္ဍဟု အမည်ပေးထားသည်။ လောကလူသားတို့၏ ကျင့်ဝတ်နှင့် အညီ ဆောင်ရွက်အပ်ကြောင်း ဂုဏ်အချင်းအရာများကို ရည်ညွှန်းထားခြင်းဖြစ်သည်။

ဒုတိယပိုင်းမှာ ပြည့်စုံကုံလုံမှု **Wealth** ကဏ္ဍဟူ၍ အမည် ပေးထားသည်။ မင်း မှူးမတ်တို့ ပြုအပ်သော ဝတ်နှင့် နိုင်ငံရေးဆောင်ရွက်မှု (ဝါ) ပြည်ရေး ရွာမှုများ ဖြစ်သည်။ ပြည်ရေး ရွာမှုတို့ပြည့်စုံကုံလုံခြင်းသည် အကျိုးအစီးပွား တိုးတက်ရာ ဖြစ်ကြောင်း ရည်ညွှန်းပေသည်။

တတိယပိုင်းမှာ ချစ်ခြင်း မေတ္တာ **Love** ဆိုင်ရာ ကဏ္ဍဟူ၍ အမည်ပေးထားသည်။ ဤကဏ္ဍတွင် လောကီလူသားတို့ မလွှဲမရှောင်သာသော ဖို မ ဆက်ဆံရေးကိစ္စ ဖြစ်သည်။ မှန်မြတ်သော အိမ်ထောင်နှင့် ဆက်ဆံရေးမျိုးကို တည်ဆောက်ကြရန် ရည်ညွှန်းသည်။ ဤကဏ္ဍမှာ ကုရယ်လ် ဘာသာပြန် ဆရာအချို့က မလိုလားအပ်ဟု ချွင်းချန်ထားသော ကဏ္ဍဖြစ်သည်။ သို့သော် များရာစုဖြစ်သော ဘာသာပြန် ဆရာတို့က မူကား လောကီလူ့ကိစ္စတို့ကို သိမ်မွေ့စွာ ပြဆိုထားခြင်းဖြစ်၍ မပယ်ချန်အပ်ဟု ဆိုကာ အပြည့်အစုံ ဖော်ပြခဲ့ကြလေသည်။

အထက်ပါ အပိုင်းသုံးပိုင်းတွင် ပထမကဏ္ဍ၌ အခန်းပေါင်း(၃၇)ခန်းပါရှိသည်။ ယင်း(၃၇)ခန်းတွင် ပထမ(၄)ခန်းမှာ ပဏာမ ဖြစ်သည်။ ကျန်အခန်း(၂၀)မှာ အိမ်ထောင်ရှင်များ၏ကိစ္စဖြစ်သည်။ ကျန်(၁၃)ခန်းမှာ သူတော်စဉ်တို့၏ ကိစ္စဖြစ်သည်။

ပထမနှင့် ဒုတိယ အခန်းကြား၌ ကံကြမ္မာဟူသော အခန်း တခန်း ရှိသည်။

ဒုတိယပိုင်းတွင် အခန်းပေါင်း (၇၀) ပါဝင်သည်။ ပထမ (၂၅) ခန်းသည် မင်းနှင့် မင်းတို့၏ ကျင့်ဝတ်ကို ဖော်ပြသည်။ ကျန်(၃၂)ခန်းမှာ နိုင်ငံတွင် ပါဝင်သော အခြား အဓိက အချက်များကို ဖော်ပြသည်။ နောက်ဆုံး (၁၃)ခန်းမှာ အထွေ

ထွေ က်စ္စများကို ဖေါ်ပြလေသည်။

တတိယပိုင်းတွင် (၂၅)ခန်း ပါဝင်သည်။ ပထမ (၇)ခန်းတွင် ယောက်ျားနှင့် မိန်းမတို့ မပေါင်းဖက်ကြမီ ဖြစ်တတ်သော အကြောင်းကိစ္စများကို အခြေထားသည်။ ကျန်(၁၈)ခန်းမှာ အိမ်ရာထောင်ပြီးနောက် ဖြစ်တတ်သော အကြောင်းတို့ကို ဖေါ်ပြလေသည်။

ဤသို့ဖြင့် စုစုပေါင်း အခန်း(၁၃၃)ခန်း ရှိလေသည်။

# သိရုကုရယ်လ်

## ၁၉

ထေရုဗာလုဗာသည် မိမိ၏လက်ာကျမ်းကြီးအတွက် မိမိထက် ရှေးကျသော သတ္တဥပညာရှိကဝိတို့၏ အယူအဆကိုမှီးသည်ဟု ဆိုရငြားသော်လည်း ဤသို့ စုံစုံလင်လင် ကျေကျေညက်ညက်ဖြင့် ပေါင်းစည်းတင့်တယ်စွာ ဖွဲ့နွဲ့ဖေါ်ပြနိုင်ခြင်းမှာ စာဆိုသူမြတ်၏ ပညာပါရမီခ် ကောင်းမှုဖြစ်ကြောင်း ထင်ရှားလေသည်။

မနုဓမ္မသတ်ဆိုလျှင် သူ့ချည့်တကျမ်းတစောင်တည်းတွင်ကား သူ့ခေတ်အခြေအနေကိုသာ ဖေါ်ပြပေသည်။ သို့တည်းမဟုတ် သူ့ခေတ်ကို ဆက်ခံသော ခေတ်အဆက်ဆက်၏ အခြေအနေကိုသာ ဖေါ်ပြပေသည်။ မနုခေတ် လူ့အဖွဲ့အစည်းမှာ ဘုရားသခင် ဖန်ဆင်းပေးသည်ဟူသော အဖွဲ့အစည်းမျိုးဖြစ်သည်။ မင်း,မှူး,မတ်, မင်းစိုးရာဇာများ၏ခေတ်ဖြစ်သည်။ ယင်းဓမ္မသတ်၏သဘောမှာပင်လျှင် တရားဥပဒေသဘောဌှ် လူလူချင်း ခွင့်တူညီမျှမှုကိုပေးထားခြင်း မရှိပေ။

ကောတိလျ သို့မဟုတ် စာဏကျနီတိတွင်လည်း အလားတူပင်၊ စာဏကျ
သက်သက်၌ နိုင်ငံရေး လုပ်ဖွယ်လုပ်ရပ်တို့ကိုသာလျှင် ဖေါ်ပြ၏။ ထို့ကြောင့် ကောတိ
လျကို နိုင်ငံပြုသုခမိန်ဟု ဆိုရမည်ထက် နိုင်ငံရေးသမားဟု ဆိုရမည်ဖြစ်သည်။ ဤကျမ်း
တွင် ဖေါ်ပြထားသည်တို့မှာ တိုင်းတပါးကို အောင်နိုင်ရေးအတွက် အတောမသတ် စိတ်
ဆန္ဒဖြင့်စက်ယန္တရားများသဖွယ် ကျွမ်းကျွမ်းကျင်ကျင် နိုင်နင်းစွာဖြင့် အလုပ် လုပ်သွား
ရန်သဘောဖြစ်၏။လူတို့၏ပင်ကိုယ်ဘာသာဝမှာအားနည်း ပျော့ညံ့ခြင်းဟု တွက်ချက်၍
လူအများကို စက်သဘောဖြင့် တိတိကျကျ လှုပ်ရှားနိုင်ရေးကိစ္စတွင်သာ အာရုံကြီးမား
၏။ဤအမြင်မှာ နိုင်ငံရေး သုခမိန် မက်ကီယာဗယ်လီ *Machiavelli*၏ အမြင်ဖြစ်သည်။
ဥရောပတိုက်သား ဂျာမနီတို့၏ ဟစ်တလာခေတ် သဘောမျိုး ဖြစ်သည်။

ဝါစာယန၏ကာမသျှတ္တရမှာလည်း ကိုယ်ခန္ဓာအာရုံခံစားမှု၌သာ အဓိကထား
သည်ဖြစ်၍ ချစ်ခြင်းမေတ္တာ၏ မွန်မြတ်သော အဓိကစေ့ဆော်မှုသဘောကို မရှုမမြင်
ဘဲ လွှစ်လျူပြုခဲ့လေသည်။

သူမြတ် ဗာလုဗာကား အထက်ပါ ကျမ်းပြုဆရာများကဲ့သို့ မဟုတ် အထက်ပါ
ပုဂ္ဂိုလ်များ၏ ကျမ်းတို့ကို ပေါင်းစည်းသော အမြင်ဖြင့် ရှုမြင်လက်ခံတတ်သူဖြစ်သည်။
လူနှင့် ချစ်ခြင်းမေတ္တာကို လူ့ဘောင် ဖွဲ့နှောင်ရေးတွင် ဆက်စပ်နိုင်သော စွမ်းအား
အဖြစ် လက်ခံသည်။ မည်သည့်ဇာတ် မည်သည့်တဝတွင် မွေးဖွားလာခြင်းဟူသော
အချက်ကလူ၏ တန်ဘိုးကို အကဲဖြတ်ရန် မဟုတ်ပေ။ နိုင်ငံရေးရာတွင် မြင့်မားသော
အမြော်အမြင်တို့ကိုသာဦးတည်သည်။ တဏှာပေမရောယှက်သော ချစ်ချင်းမေတ္တာတွင်
လျှို့ဝှက်ခြင်း၊ လှုပ်ရှားခြင်းသဘောတို့ ပါစေသော်လည်း စိတ်၏ စင်ကြယ်ခြင်း၊ ကြည်
ရွှင်ခြင်း၊ အလှအပ သဘောစသည်တို့ကိုသာ အဦးအမြတ်ပေး၍ ယဉ်ကျေးဖွယ်ရာမှု
အမြင်ဖြင့် မေတ္တာ၏ စံပြသဘောများကို ဖေါ်ထုတ်ခဲ့သည်။

ဤသို့လျှင် ကုရယ်လ်ကို ပြုစုရာ၌ လောကီအရေးအားလုံးကိုပါ ငုံမိသည့်ပြင် ထင်ရှားကျယ်ပြန့်သော မိမိ၏ဉာဏ်အမြင်ကိုပါ ပေါင်းစပ်၍ ရေးသားနိုင်ခဲ့ခြင်းကြောင့်၊ ဤကျမ်းမှာ သူ့ခေတ်တွင်၎င်း၊ နှောင်းလူတို့၏ ခေတ်အဆက်ဆက်တွင်၎င်း၊ တည်တန့်စေခဲ့ပေသည်။ ဤသည်ကို အကြောင်းပြု၍ပင် ကုရယ်လ်ကျမ်းကို တမီလ်တို့၏ ဗေဒကျမ်းကြီး **Veda** ဟု တင်စားခေါ်ဆိုခဲ့ကြခြင်းဖြစ်လေသည်။

နှောင်းလူတို့နှင့်တကွ မဓုရအကယ်ဒမီတွင် ပါဝင်ကြသော ပုဂ္ဂိုလ်တို့သည် ဤကျမ်းပြုသုခမိန်ကြီးအား ဂုဏ်ပြုချီးကျူးသောအားဖြင့် စာအမျိုးမျိုးဖွဲ့ကြပြီးနောက် "ထေရုဗာလုဗာ့မာလာ" *Tirualluwa-Mallar* ဟူသော ကျမ်းတစောင်ကိုပင် ပြုစုခဲ့ကြသေးပေသည်။

နောင်ပေါ်ပေါက်လာသည့် စာဆိုတို့သည်လည်း ဤကုရယ်လ် ကျမ်းကြီးမှ အဆိုအမိန့်အချို့ကို ငုံ၍၎င်း၊ အချို့ကို ဇာတ်ဝတ္ထုများဆင်၍၎င်း၊ နီတိကဗျာများဖွဲ့၍၎င်း၊ အမျိုးမျိုးအကျယ်ဖွင့်၍ ရေးသားကြပြန်သည်။

ယခုခေတ်သစ်သို့ မတိုင်မီပင် ကုရယ်လ် ကျမ်းကြီးအား အဖွင့်ကျမ်း ပြုစုခဲ့သူပေါင်း အနည်းဆုံး(၁၀)ဦးမျှ ရှိခဲ့သည်ဟု သိရသည်။ ထိုအထဲတွင် ပါရီမေလလဂ္ဂ *Pari Melalagga* ဆိုသူမှာ နာမည်ကြီး၏။ ထိုပုဂ္ဂိုလ်သည် ဗြာဟ္မဏမျိုးဖြစ်လျက် ခရစ်နှစ် ၁၄-ရာစုအတွင်း ပေါ်ပေါက်ထင်ရှားခဲ့သူ ဖြစ်လေသည်။

နောင်အခါ အိန္ဒိယပြည်တွင် တရားရုံးများ ပေါ်ပေါက်လာသည့်အခါ ကုရယ်လ်ကို ဓမ္မသတ်ကျမ်းတခု အဖြစ်ပင် ခုံလူကြီးများ၊ ရှေ့နေ ရှေ့ရပ်များသည် ကိုးကားညွှန်းဆိုခဲ့ကြရဘူးလေသည်။ သို့သော် ထေရုဗာလုဗာ ခေတ်မှစ၍ ယနေ့တိုင်မျှသော ခေတ်အဆက်ဆက်တွင်ကား များစွာသော လူတို့သည် ဤကျမ်းကို အမျိုးဘာသာ မရွေး လေးလေးစားစားနှင့် ဖတ်ရှုလိုက်စားခဲ့ကြသည်ချည်း ဖြစ်လေသည်။

ကုရယ်လ်ကျမ်းတွင်ပါရှိသော အပိုင်းကြီး သုံးပိုင်း၌ လောကီမှ လွတ်မြောက်ရာ လွတ်မြောက်ကြောင်းတရားတို့ မပါရှိပေ။ ဤသို့ မပါရှိသည်မှာ လူတို့၏အနာဂါတ်ရေးနှင့်ပတ်၍ သူ့ခေတ်တွင် ကြားနာသိရှိရသော ယုံကြည်ယူဆချက်များကို ကျမ်းပြုသူသည် မနှစ်သက်သေး၍သော်၎င်း၊ သို့တည်းမဟုတ် မိမိ၏အမျိုးသားတို့သည် လောကီရေးထက် မြင့်မားသော အကြောင်းတို့ကို သိမြင်နှံ့စပ်နိုင်ရန် အခြေခံနုနယ်သေးသည်ဟု ထင်မြင်ယူဆခဲ့သောကြောင့်၎င်း၊ တခုခု ဖြစ်တန်ရာသည်ဟု အဖွင့်ဆရာတို့က ကောက်ယူလိုကြပေသည်။ သို့သော် အခန်း ၂၅၊ ၂၆၊ ၂၇-တို့တိုင် မောက္ခတည်းဟူသော လွတ်မြောက်ရေး တရားကို အမြွက်မျှ ထည့်သွင်းခဲ့သည်ကိုကား တွေ့နိုင်လေသည်။

# သိရုကုရယ်လ် ၂၁

ကုရယ်လ် ကျမ်းကြီးထဲတွင် ပုဂ္ဂိုလ်တစုံတယောက်ကို ရည်မှတ်၍ အမည်တပ်ခါ "ဘုရား" ဟူသော သဘောဖြင့် သုံးစွဲထားသည် မရှိပေ။ ကုရယ်လ်တွင် ပါဝင်သော အယူအဆတို့မှာ ဘာသာတိုင်းက လက်ခံထားသော သဘောတရားတို့ကို တွေ့နိုင်လေသည်။

ကုရယ်လ်ကို ဖတ်ရသော ခရစ်ယန် ဘာသာဝင်တို့က ဆိုသည်မှာ ဤကျမ်းထဲတွင် သုံးပါးသော အရှင် (ထာဝရဘုရား၊ယေရှုခရစ်နှင့် မယ်တော်မာရီ)တို့၏ ပေါင်းစည်းမှုကို၎င်း၊ သားတော် ပေါ်ပေါက်လာခြင်းကို၎င်း၊ လူတို့အား ကယ်တင်ခြင်းကို၎င်း၊ လူတို့၏ အမှားများနှင့် ဒုက္ခများမှ ပပျောက်စေခြင်း အကြောင်းကို၎င်း၊ နောက်ဆုံးတွင် လူ့နိုင်ငံအား ထိန်းသိမ်းခြင်း အကြောင်းကို၎င်း တွေ့နိုင်ပေသည်ဟု ဆိုပေသည်။

ကုရယ်လ်တွင် ပါဝင်သော အဆိုအမိန့်များသည် လောကကြီး တခုလုံးနှင့် အကျုံးဝင်လျက်လူတိုင်း နှစ်သက်လက်ခံဘွယ် ဖြစ်လေသည်။

---

## ပ ထ မ က ဏ္ဍ

ဂုဏ်အချင်းအရာများဆိုင်ရာ ကဏ္ဍတွင်စာဆိုသည်လူတိုင်းအား လင်သားကောင်းတယောက်၊ ဖခင်ကောင်းတဦး၊ အိမ်နီးချင်းကောင်းတဦး၊ အရည်အချင်းပြည့်မှီသော လူသားတဦးဖြစ်အောင် သွန်သင်ထား၏။ ထိုအကြောင်းတွင် အခန်းပေါင်း ၁၉-ခန်း ရေးသားပြီးသော် ၁၃-ခန်းကို သူတော်စဉ်တို့ ကျင့်ကြံအပ်သော အမှုတို့ကို ပြဆိုထားပေသည်။

ဤနေရာတွင် စာဆိုသည် လူသားအားလုံးတို့အား မေတ္တာထားရေးနှင့်ဆည့်သည်များအား ဝတ်ပြုရေးကို အဓိက အရည်အချင်းများအဖြစ် ပြဆိုထားပေသည်။ မေတ္တာတရားကင်းသော လူသားသည် တောအုပ်အလယ်၌ ညှိုးခြောက်သော သစ်ပင်သဖွယ် ဖြစ်ကြောင်း ပုံနှိုင်းပြဆို ထားလေသည်။

ကြင်နာစွာ စကားဆိုခြင်းကိုသီးခြားဂုဏ်အင် တရပ်အဖြစ်လည်း ဖေါ်ပြထား၏။ တပါးသူ၏ အိမ်ရာကိုကျူးလွန်ခြင်း၊ အလိုရမ္မက်ကြီးခြင်း၊မလိုတမာရှိခြင်း၊ အတင်းအဖျင်းပြောခြင်း၊ တပါးသူအား ထိခိုက်နာကျင်စေခြင်းဟူသော အမှုတို့ကို ရှုတ်ချထား၍ တည်ကြည် ဖြောင့်မတ်ခြင်း၊ ခွင့်လွှတ်ခြင်း၊ စိတ်ကောင်းထားခြင်း၊ အလှူ ပေးခြင်းတို့ကို ချီးကျူးထောက်ခံ ထားလေသည်။

လောကီလူသားတို့နှင့် ပတ်သတ်၍ ဤသို့အဆုံးသတ် ဖေါ်ပြထားရာ၌ ချီးမွမ်းခြင်းဟူသော အခန်း ၂၄-တွင် "သက်ရှိထင်ရှားနေသူတို့၌ မတင့်တယ်ခြင်း မရှိရာပေ။ တင့်တယ်ခြင်း(ဝါ) ဂုဏ်သတင်းကျော်ဇောခြင်း မရှိသူတို့အား အသက်ရှင် နေသည် မမည်ပေ" ဟူ၍ ဖေါ်ပြထားပေသည်။



သိရုကုရယ်လ်

ဤသည်တို့ကို ထောက်၍ ထေရဝါဒလုဗ္ဗာသည် သူ့ခေတ်လူတို့အား ကြည်ရွှင်ခြင်း၊ တက်ကြွခြင်း၊ ဝန်ထမ်းခြင်းအစရှိသော ဂုဏ်ပုဒ်တို့နှင့် ပြည့်စုံသော လောကကြီး အဖြစ် ထူထောင်စေလိုဟန်မှာ ထင်ရှားပေသည်။ သို့သော် လူတယောက်၏ ဘဝ ဆိုသည်မှာ လောကီကိစ္စမျှနှင့် ပြီးဆုံးသည် မဟုတ်ပေ။ လူတယောက်သည် အိမ်ထောင်ရှင်ကောင်းတယောက် အဖြစ် လူမှု အဆောက်အအုံ အတွင်း၌ ကျင်လည်၍ မိမိ နေရာကို ဆက်ခံမည့်သားသမီးများကို မွေးဖွားပေးရာ၏။ ဤသို့အဆက်မပြတ်သည့် လူ့ဇာတ်ကို ကပြရန် အလုပ်လုပ်ပေးနေစဉ်၌ ပင်လျှင် တမလွန်ဖြစ်သော ဘဝအကြောင်းကိုစဉ်းစားရသည်။ မိမိသည် ကောင်းစွာကျင့်ကြံဆောင်ရွက်သော ဘဝဖြင့် လောကီတွင် အဆင့်အခြေမြင့်ပေပြီ။ သို့သော် ထို့ထက်မြင့်စွာ အားထုတ်အပ်သော အခြေတို့ ရှိပေသေးသည်။ ထိုအခြေတွင် ပို၍မှန်ကန်တော်တည့်စွာ အားထုတ်အပ်သော လုပ်ငန်းများရှိနေသည်ကို တွေ့ရ၏။ ထိုအခြေကား သူတော်စဉ် ဘဝဖြစ်၏။ ထို့ကြောင့် ဘဝတွင် ပို၍စည်းကမ်း တင်းကြပ်သော ဘဝမျိုးကို ကျင်လည်ရန် ရှိသေး၏၊ ထိုအခြေတွင် လူတိုင်းအား ကြင်နာမေတ္တာထားရသည်၊ အသားစားခြင်းကို ရှောင်ရသည်။ ကိုယ်ကို ဒုက္ခခံ၍ အားထုတ်လျက် စိတ်ကို တည်ငြိမ်အောင် ဆောက်တည်ရသည်။ ထိုနည်းဖြင့် ဝိညာဉ်ဆိုင်ရာ အမြင်နှင့် တန်ခိုးစွမ်းအား တိုးပွား များလာရသည်။ သစ္စာတရားကို မြဲစွာမှီခိုအားထားခြင်းဖြင့် စိတ်ကို သန့်စင်စေရ၏။ ဒေါသတရားကိုငင်း၊ ပိုးမွှားတိရစ္ဆာန်ရှိသည့် သတ္တဝါအားလုံးအား သတ်ဖြတ် လိုစိတ်ကိုငင်း၊ နိုင်နင်းအောင် နှိမ်နင်းရ၏။ ဤဘဝကား သူတော်စဉ်တဦး၏ဘဝပင်။ သူတော်စင်တို့ကျင့်ထုံးမျိုးကို အိမ်ထောင်ရှင်တို့လည်း အနည်းငယ်ပင် ဖြစ်စေတတ်နိုင်သမျှ ပြုကျင့် အပ်ကြသည်။ ထို့ကြောင့် ဤကဏ္ဍ၏ အပိုင်းတွင် သူတော်စဉ်တို့ အတွက်ဟု ဆိုထားသော်လည်း အိမ်ထောင်ရှင် အားလည်း ရည်ညွှန်းချက် ရှိလေသည်။

ဤသို့သူတော်စဉ် ဘဝထွင်စည်းကမ်း ကျင့်ဝတ်တို့ တင်းကြပ်စွာ ကျင့်ကြံအားထုတ်သော အကျိုးကြောင့် စိတ်ဝိညာဉ်ကို ဖုံးလွှမ်းလျက်ရှိသော အဝိဇ္ဇာတို့ တလွှာချင်း တလွှာချင်း ပယ်ကွာကျပေလိမ့်မည်။ သို့ဖြစ်သောကြောင့် ဤဘဝဟူသည်ဘာမျှမဟုတ်၊ အိပ်မက်ပမာ၊ အရိပ်ပမာမျှသာ ဖြစ်ပေသည်။ ယနေ့ ဤကိုယ်သည် မနက်ဖန် ဤကိုယ်မဟုတ်တော့ပြီ။ ဤသည်တို့ကို သိမြင်၍ ဘဝတွင် နှောင်ဖွဲ့မိသော အနှောင်အဖွဲ့တို့ကို တိတိပိုင်း၍ ဖြတ်၏။ ထို့နောက် သစ္စာတရားကို ရှာဖွေ တွေ့ရှိလေတော့သည်။

ဤအခန်းတွင် သူတော်စဉ်အတွက် အရေးကြီးသော အချက် တချက်ကို နောက်ဆုံးမှပင် ဖေါ်ပြသည်။ ထိုအချက်ကား အခြားမဟုတ်၊ တပ်မက်ခြင်း တဏှာ ဖြစ်လေသည်။ တဏှာ မပြတ်သေးသမျှ သာမန် ပုထုဇဉ်သော်၎င်း၊ ရသေ့ သူတော်စဉ်တို့သော်၎င်း၊ မိမိ၏ ငြိမ်းချမ်းခြင်းကို မရနိုင်သေးပေ။ ထို့ကြောင်း တပ်မက်ခြင်း တဏှာ အကြောင်းကို အဆုံးသတ်၍ ဖေါ်ပြထားသည်။

သိရကုရလ်ယ်

အခန်း (၃၇) ကံကြမ္မာဟူသော အခန်းကား ဗုဒ္ဓဘာသာတို့ ခံယူကြသည့်ကံ၊ ကံ၏ အကျိုးသဘောနှင့် အတူတူပင်၊ ဟိန္ဒူကျမ်းများ အလိုအားဖြင့် ကမ္မဟုလည်း ခေါ်၏ကံ၊ ကံ၏အကျိုးကို ဗုဒ္ဓဘာသာတို့အား ရှင်းလင်းဖွယ် လိုမည်မဟုတ်ပေ။

ကံကြမ္မာဟူသော အခန်းကို ဂုဏ်အချင်းအရာများဆိုင်ရာကဏ္ဍ၏ အဆုံးသတ်မှ ထည့်သွင်းခြင်းမှာ စာဆို ပုဂ္ဂိုလ်တွင် အကြောင်းထူးရှိနိုင်သည်ဟု ယူဆဖွယ် ဖြစ်လေသည်။ အကြောင်းမှာ ဤအခန်းမတိုင်မီ စာဆိုသည် လူတို့၏ ကျင့်ဝတ် နီတိများကို ဖေါ်ပြခဲ့၏။ သို့ဖေါ်ပြရငြား သော်လည်း ကောင်းမကောင်း ညွှန်ပြရုံမှတပါး မိမိမှာ ဥပဒေထုတ်ပြန်နိုင်သော အာဏာစက်ရှိသည့် ပြည့်ရှင်မင်းစသောပုဂ္ဂိုလ်မျိုးမဟုတ်ပေ။ ထို့ကြောင့်ဤနီတိကို တပါးသူတို့လိုက်နာစေရန် အာဏာပိုင်သောဆင့်ဆိုချက်သဘော မျိုးလိုပေသည်။ သို့ဖြစ်ရာ လူတယောက်အား မိမိပြုသော အမှု၏ အကောင်း အဆိုး အကြီးအသေးကို လိုက်၍ ခံစားစံစားရမြဲဖြစ်သည် ဟူသော နိယာမတရားကို ပြဆိုခြင်း ထက် အဘယ် အမိန့်အာဏာသည် ပို၍စူးရောက်နိုင်ပါမည်နည်း။ ဤ အ ကြော င်း ဖြင့် ဤအခန်းကို ဤနေရာတွင် ရွေး၍ထည့်ခြင်း ဖြစ်တန်ပေသည်။

ဒုတိယပိုင်း ပြည့်စုံကုံလုံမှု ဆိုင်ရာ ကဏ္ဍကား ဆိုပြီးသကဲ့သို့ ပြည့်ရေးစွာမှု ဖြစ်ပေသည်။ ကျမ်းတစောင်လုံး၏ အခန်းအနည်းအများကို ရေတွက်ကြည့်လျှင် ဤကဏ္ဍသည် ပထမကဏ္ဍထက် နှစ်ဆရှည်လျား၍ တတိယ ကဏ္ဍထက် သုံးဆခန့် ရှည်လျားသည်ကို တွေ့ရသည်။ ဤအချက်ထောက်၍ ဤကဏ္ဍအား စာဆိုပုဂ္ဂိုလ်၏ အရေးပေးပုံကို တွက်ချင့် နိုင်ပေသည်။

ဤကဏ္ဍကို ပြည့်စုံကုံလုံမှု(ဝါ)စီးပွားဥစ္စာ ဆိုင်ရာဟူ၍တပ်ရသော အကြောင်းမှာ ထေရုဗာလုဗာ သူမြတ်၏ စိတ်ကူး မူရင်းသဘောပင် ဟုတ်ဖွယ် မရှိပေ။ အဘယ့်ကြောင့်ဆိုသော် စာဏကျဟုတွင်သော ကောတီလျကလည်းမိမိ၏ အဋ္ဌသျှတ္တရကျမ်းကို ဤအဓိပ္ပါယ်ဖြင့် အမည်ပေးခဲ့ခြင်း ဖြစ်သည်၊ စာဏကျထက်စောသော မဟာဘာရတဇာတ်ထဲတွင်ပင် ဤအသုံး အနှုန်းနှင့် ပတ်သက်၍ ခြေရာကောက်ယူရသည်မှာ ဥစ္စာစီးပွားတို့မည်သည် တိုင်းပြည်နိုင်ငံ ငြိမ်ဝပ်အေးချမ်းမှသာ လုပ်ကိုင် ဆောင်ရွက်၍လွယ်ကူစွာ ဖွံ့ဖြိုးတိုးတက်လေ့ ရှိရာ နိုင်ငံသာယာမှ စီးပွားဝပြောသည်ဟု ဆိုလိုရင်းဖြစ်ပေသည်။ ထို့ကြောင့်ပင်အခန်း ၅၆။ အပိုဒ် ၈–တွင် "စီးပွားဥစ္စာတို့သည် တရားမဲ့သောဘုရင်၏ အာဏာစက်အောက်၌ နေရသူတို့တွင် ဆင်းရဲခြင်းထက်ပိုသော ကြေကွဲ ဝမ်းနည်းခြင်းကို ဖြစ်စေ၏" ဟူ၍ ပြဆိုထားလေသည်။

ဤကဏ္ဍတွင် စာဆိုသည် မင်းမှူးမတ်တို့အား အဓိကဆိုလိုရင်း ဖြစ်သော်လည်း သာမန် လူတန်းစားတို့အားလည်း မမေ့မလျော့အပ်သော လုံ့လရှိစေရန်၊ ရေးသား ထားခြင်း ဖြစ်ကြောင်း (ဝါ)လူသာမန်တို့လည်း အလိမ္မာ တိုးအပ်ကြောင်း ရည်ရွယ် သည်ဟု ယူဆနိုင်၏။

ဥပမာအားဖြင့် အခန်း ၅၄၊ အပိုဒ်၁ တွင် ကြည့်ပါ။ "အပျော်ကျူးသဖြင့်မေ့မေ့လျော့လျော့နေတတ်ခြင်းသည် ဒေါသကြီးဖြင့် မကောင်းမှုကိုဖြစ်စေခြင်းထက် ဆိုးဝါး၏" ဟူ၍ လူတိုင်းဆင်ခြင်အပ်သော ကိစ္စကို ဖေါ်ပြထား၏။

အခန်း ၄၇၊ အပိုဒ် ၂-ကို ကြည့်ပါဦး။ အကြင်သူတို့သည် တစုံတရာကိုမပြုလုပ်မီ မိမိတို့ဘာသာ ကောင်းစွာ ကြံဆပြီးသည့်နောက်၊ ရင်းနှီးသော မိတ်ဆွေများနှင့်တိုင်ပင်ပြီးမှ ဆောင်ရွက်ခြင်းဖြစ်ပါက မည့်သည့်အမှုမှ အလွန် ခက်ခဲတော့မည် မဟုတ်ပေ၊ ဤအပိုဒ်မှာလည်း လူအားလုံး သိအပ်သည် မဟုတ်တုံလော။

ဦးစွာ ပထမ ဤသို့ပြဆိုပြီးနောက် စာဆိုသည် နိုင်ငံအုပ်ချုပ် မင်းလုပ်သူတို့၌ မိမိအုပ်ချုပ်ရသော နိုင်ငံကို စီစဉ်တကျ တိုးတက်ရေးကို ကွပ်ကဲနိုင်သော အရည်အချင်း ရှိရမည် ဆိုထားလေသည်။ ထိုပုဂ္ဂိုလ်သည် တိုင်းပြည်တွင် မင်းမဲ့ ဥပဒေမဲ့ဖြင့် ဗတာ ဝါဒ ထွန်းကားမည့် ဘေးကို စက်ဆုပ်သူ ဖြစ်ရပေမည်။

ထို့ကြောင့် အခန်း ၇၄၊ အပိုဒ် (၅) တွင် မတရားမင်းမဲ့ ဝါဒကို စက်ဆုပ်သင့်ကြောင်း ရေးသားထားသည်၊ အခန်း ၇၅ နှင့် ၅၆-မှ ၅၇-အထိမှာ အုပ်ချုပ်ပုံလွဲမှားခြင်းကို ညွှန်းဆိုထားလေသည်။

အခန်း (၅၅) တွင် မင်းတို့သည် ဥပဒေ၏ အထက်က မရှိရာ၊ မျက်နှာလိုက်ခြင်း၊ တရားမျှမှု မရှိခြင်းတို့လည်း ကင်းရှင်းရာ၏ဟူ၍ ပြောဆိုထားသည်ကို တွေ့နိုင်ပေသည်။

မင်းသည် မိမိလက်အောက်ရှိ တိုင်းသူပြည်သားတို့အား၎င်း၊ မှူးမတ်တို့အား၎င်း လွတ်လပ်စွာ ပြောဆို ဝေဖန်နိုင်ခွင့် ပေးရ၏။ သို့မှသာ မင်းလုပ်သူ မှားယွင်းသောအခါဖြစ်စေ၊ မိမိအစိုးရ မှားယွင်းသော အခါဖြစ်စေ ထောက်ပြ၍ အမှားကို ပြုပြင် အကြံပေးနိုင်မည် ဖြစ်သည်၊ ဤသဘောကို အခန်း ၃၉(၇)၊ အခန်း ၄၅ (၇)၊ အခန်း ၄၅ (၈) စသည်တို့၌ ဖတ်ရှုနိုင်သည်။

အုပ်ချုပ် မင်းလုပ်သူတို့သည် စည်းစိမ်ယစ်၍ မနေရာ။ တရားမျှတမှု ထွန်းကားရန်အတွက် အစဉ်သတိပြုလျက် မတရားမှု ပေါ်ပေါက်လျှင် အရေးယူပြုပြင်ပေးနိုင်ရန် သတိရှိရာ၏။ တိုင်းပြည်၏ ဥစ္စာဓနနှင့် သယံဇာတပစ္စည်းတို့ကို တိုးပွားအောင်ပြုရန်မှာ မင်း၏ ဝန်တာဖြစ်၏၊ တိုင်းသူပြည်သားတို့အားလည်း ပြည်တွင်းရန်၊ ပြည်ပရန်တို့မှ ကာကွယ်ပေးသင့်၏၊ ဤသဘောများကို အခန်း ၃၉၊ ၅၄၊ ၆၀၊ ၆၂၊ စသည်တို့နှင့် အခန်း ၅၅၊ အပိုဒ် (၉) နှင့် အခန်း ၅၆၊ အပိုဒ် (၁၀) တို့၌ တွေ့နိုင်ပေသည်။

အုပ်စိုးသောမင်းသည် စစ်ရေး နှင့် ငြိမ်းချမ်း စည်ပင်ရေးဟူသော နှစ်မျိုးလုံးကို ပြည့်စုံအောင် လေ့လာကျွမ်းကျင်ပြီးဖြစ်ရာ၏။ မိတ်ပြုရာတွင် လူတော်လူကောင်းများကိုသာ ရွေးချယ်လျက်၊ လူညံ့လူယုတ်များကို ပယ်စွန့်ရာ၏။ (အခန်း ၄၅၊ ၄၆)၊

တဖန် အခန်း ၄၄-တွင် ပြည့်ရှင်မင်းသည် မိမိ၏ စိတ်အနေကို အစဉ်သဖြင့် တည်ငြိမ်စေလျက် မကောင်းသောစိတ်များ မည်သည့်အခါမှ မမွေးမြူမိစေရန် သတိထားအုပ်ကြောင်းကို ပြဆိုထား၏။

မင်းမှုထမ်းတို့အား ရွေးချယ်ခန့်ထားရာတွင် စံနစ်တကျ ဂရုပြု၍ ရွေးချယ် ခန့်အပ်ကြောင်းကို အခန်း ၅၁၊ ၅၂ တို့၌ ဖေါ်ပြထား၏။ အမှုကိစ္စအားလုံးကို ကိုယ်တိုင်သိရှိ ဆောင်ရွက်အပ်ကြောင်းကို အခန်း ၅၃၊ အပိုဒ် (၁၀)နှင့် အခန်း ၅၆၊ အပိုဒ် ၃ တို့၌ ဖေါ်ပြထား၏။ စုံစမ်းထောက်လှမ်းသော အထောက်တော်များသည်လည်း မင်း၏ အားထားအပ်သော သူများဖြစ်ကြောင်းကို အခန်း ၅၉-တွင် ဖေါ်ပြ၏။

မင်းသည် နိုင်ငံတွင် အချုပ်အချာ အာဏာကိုကိုင်၍ အုပ်ချုပ်စိုးမိုးရသူဖြစ်ရာ လူတိုင်းအား အညီအမျှ အုပ်ချုပ်မိသည်ဖြစ်အောင် အားထုတ်နိုင်ခြင်းဟူသော ဂုဏ်ရည်ကို ခိုင်မြဲအောင် ပြုကျင့်ရသည်။ ဤအကြောင်းကို အခန်း ၅၇-တွင် ဖေါ်ပြထားသည်။ ထိုအရာအားလုံးထက်ပို၍ကား မင်းသည် မြဲမြံသော ပုဂ္ဂိုလ် ဖြစ်အပ်၏။ ဝန့်စားသော ပုဂ္ဂိုလ်ဖြစ်အပ်၏။ အားနည်း ပျော့ညံ့၍ ဆုံးဖြတ်ချက် တခုခု ပြုလုပ်ရန်ကိစ္စတွင် ချီတုံချတုံ ဖြစ်တတ်သော ပုဂ္ဂိုလ်မျိုး မည်သည့်အခါမှ မဖြစ်အပ်ကြောင်းတို့ကို အကျယ်ချဲ့၍ ဖွင့်ဆိုထားလေသည်။

မှူးမတ်တို့၏ အကြောင်းကို ဤကျမ်းတွင် ပြသရာ၌ မှူးမတ်တဦးသည် အမှုကိစ္စအားလုံးကို သိသူဖြစ်အပ်ကြောင်း၊ လိမ္မာရေးခြားသော ပုဂ္ဂိုလ် ဖြစ်အပ်ကြောင်း အကြောင်းအကျိုး ချင့်ချိန်ဝေဖန်တတ်သူ ဖြစ်အပ်ကြောင်း၊ စိတ်ထားဖြူစင်သူ ဖြစ်အပ်ကြောင်း၊ မင်းမှုမင်းရေးကို သိသူ ဖြစ်အပ်ကြောင်း၊ လူ့စိတ်သဘောကို အကဲခတ်တတ်သော ပုဂ္ဂိုလ်ဖြစ်အပ်ကြောင်းတို့ကို အကျယ်တဝင့် ညွှန်ပြထား၏။

မှူးမတ်တို့မည်သည် မင်း၏ နန်းတော်၌ ခစားသူဖြစ်၍ အုပ်ချုပ်ရေး ဗဟိုအချက်အချာ၌ နေရသူပီပီ မည်သည်ကို ဆိုသင့်သည်၊ မည်သည်ကို နှုတ်လျှာထိန်းသိမ်းအပ်သည်ဟူသည်ကိုလည်း သိရမည့် ပုဂ္ဂိုလ်ဖြစ်၏။ တိုင်းတပါးသို့ သံကြီး တမန်ကြီးအဖြစ်သွားရသောအခါလည်း မိမိ၏သခင်၏ သစ္စာကိုစောင့်သိရှိသေလျက်ဂုဏ်သိက္ခာနှင့်အညီ ရည်မွန်သိမ်မွေ့စွာ ပြောဆို ကျင့်ကြံ ဆက်ဆံအပ်ကြောင်းကို ပြဆိုထား၏။ တချိန်တည်းမှာပင် မိမိ၏ အကြီးအကဲ အတွက် အကျိုးစီးပွား တိုးတက် ကြောင်းကိုလည်း မျက်ခြည်မပြတ်သင့်ကြောင်း ပြဆို၏။ နောက်ဆုံးတွင်ကား မှူးမတ် ပညာရှိလုပ်သူသည် လွှတ်ရုံး စသည်တို့၏ အဆောင်အရွက် အားလုံးကို သိရှိကျွမ်းကျင်ပြီးသူဖြစ်စေရာပေသည်။ ဤအချက်များကို အခန်း ၆၄မှ-၇၃-အထိပါဝင်သော အပုဒ်များ၌ လေလာနိုင်ပေသည်။

ခ

ဤကျမ်းတွင် ဖေါ်ပြထားရာ၌ တိုင်းရေးပြည်ရေးတွင် အဓိက အား ဖြင့် အကောင်းအဆိုးဖြစ်အောင် ပြုပြင်ဆောင်ရွက်နိုင်သော ပုဂ္ဂိုလ် ၆–မျိုး ရှိသည်။ ထိုအထဲတွင်မှူးမတ်တို့မှာ တမျိုးဖြစ်သည်။ ကျန်ငါးမျိုးမှာ စစ်တပ်၊ လူထု၊ ဥစ္စာဘဏ္ဍာ၊ မဟာမိတ်နှင့် ကတုတ်ခံတပ်များ ဖြစ်လေသည်။ ဤသို့ ပိုင်းခြားခြင်းသည် အိန္ဒိယ ရှေးဆရာများ၏ အဆိုအမိန့်နှင့် ကိုက်ညီလေသည်။ ၆–မျိုး ခွဲခြားထားကြောင်းကို အခန်း ၃ ၉– အပိုဒ်တွင် ဖတ်ရှုနိုင်သည်။

ဋ

မှူးမတ်တို့မှလွဲ၍ အခြားငါးမျိုးဖြစ်သော အင်္ဂါရပ်တို့၏ အကောင်းဖက်၊ အဆိုးဖက်တို့ကို စာဆိုသည် အခန်းပေါင်း ၂၂-ခန်းမျှဖြင့် ညွှန်ပြရေးသား ထားလေသည်။ ဤတွင် တိုင်းသူပြည်သား လူအများနှင့် ပတ်သက်သော အကြောင်းတို့ကို အခန်း ၇၄-တွင်ဖတ်ရှုနိုင်သည်။ အခန်း ၉၁-မှ ၉၄-တို့မှာ မင်းညီမင်းသားတို့နှင့် မလျော်သော အမှုများကို ရေးသားထားခြင်း ဖြစ်သည်။ အခန်း ၉၅-မှာ သမားကောင်း တဦးက မင်းညီမင်းသားတို့အား နေမှုထိုင်မှုအစုစုကို ကျန်းမာရေးအတွက် အကြံပေး ညွှန်ကြားထားချက်ပင် ဖြစ်သည်။ ဤသို့ အခန်းများဖြင့် ခွဲခြား၍ ဆိုရပြားသော်လည်း မင်းညီမင်းသား ဆိုင်ရာ၌ မင်းနှင့်သာ သက်ဆိုင်သည် မဟုတ်ဘဲ၊ ဆင်းရဲသား အစရှိသော လူအများ၏ လိုက်နာအပ်သော ကျင့်ဝတ်များလည်း ဖြစ်ပေသည်။

ဒုတိယပိုင်းတွင် ကျန်ရှိသော ၁၃-ခန်းကား အထွေထွေပိုင်းဟု ဆိုထား၏။ သို့သော် ဒုတိယပိုင်းတွင် ပထမနှင့် ဒုတိယအခန်းစုတို့သည် သီးခြားဖြစ်၍ ဤအခန်းစုကိုလည်း သီးခြား သတ်မှတ်သင့်၏။အဘယ့်ကြောင့် ဆိုသော် ဆိုလိုရင်းသည် သီးခြားအစုအဝေးဖြင့်ပေါ်လွင်နေသောကြောင့်တည်း။ဤအစု၌ အခန်း ၉၇-နှင့် ၉၉-တို့သည် အထူး မှတ်ဖွယ်ကောင်း၏ဟု ဆိုကြပေသည်။

ဒုတိယ ကဏ္ဍ၏ အဆုံးပိုင်းတွင် အခန်း ၁၃-ခန်း ပါရှိ၏။ ထိုအခန်း တို့ကား မြင့်မြတ်ခြင်း၊ ဂုဏ်ရှိခြင်း၊ ကြီးကျယ်ခမ်းနားခြင်း၊ ယဉ်ကျေး ဖွယ်ရာခြင်း၊ စိုက်ပျိုးလုပ်ကိုင်ခြင်း၊ တောင်းရမ်း စားသောက်ခြင်း၊ သိမ်ငယ်ခြင်း အစရှိသော အကြောင်းတို့ကိုဖော်ပြထား၏။ ဤသည်တို့မှာ ကိုယ်ကျင့်တရားနှင့် ပတ်သက်သော စာဆို၏ ယူဆချက် စံပြသဘောများ ဖြစ်လေသည်။

ဤနေရာတွင် မိုက်မဲသူ တဦးနှင့် လိမ်မာရဲရင့်သူ တဦးကို နှိုင်းယှဉ်ထားရာ၌ မိုက်မဲသူ၏ အကြောင်းကို အခန်း ၈၄-အပိုဒ် ၃-တွင်၎င်း၊ တတ်သိလိမ်မာ၍ ရဲရင့်စွာဖြင့် မင်းကဲ့သို့ကျင့်တတ်သူတဦး၏ အရည်အသွေးကို အခန်း ၃၉-အပိုဒ် ၂ တွင်၎င်း၊ တွေ့နိုင်ပေသည်။ အခန်း ၈၄-တွင် အရှက်အကြောက်နည်းခြင်း၊ စိတ်ဆောက်တည်မှု မရှိခြင်း၊ ချစ်ခင် ကြင်နာမှုကင်းခြင်း၊ နာခံကျိုးနွံ မှုကင်းခြင်း စသည်တို့ ပါဝင်သည်။ ဤကား မိုက်မဲသူ တဦး၏ အရည်အသွေး လေးရပ်ဖြစ်သည်။ အခန်း ၃၉ - တွင် သတ္တိရှိခြင်း၊ လှူဒါန်းပေးကမ်းခြင်း၊ ဉာဏ်ပညာ ရှိခြင်း၊ ခိုင်မာစွဲမြဲခြင်း စသည်တို့ကို မင်းကဲ့သို့ လိမ်မာရဲရင့်သော ပုဂ္ဂိုလ်တို့၏ အရည်အချင်းဟူ၍ ဖော်ပြထား၏။

လယ်ယာ စိုက်ပျိုးရေးနှင့် ပတ်သက်၍ ဖော်ပြထားရာ၌ ကျမ်းပြု ပုဂ္ဂိုလ်သည် မည်မျှ လူဆင်းရဲတို့၏ ဘဝနှင့်နီးစပ်ကြောင်းကို သိသာနိုင်လေသည်။ လယ်ယာစိုက်ပျိုးရေးဟူသည်မှာ အိန္ဒိယနိုင်ငံတွင် အဓိက လုပ်ကိုင်စားသောက်ကြသော လုပ်ငန်းကြီးဖြစ်သည်။ လူ၁၀–ယောက်လျှင် ၉–ယောက်တို့သည် စိုက်ပျိုးရေးနှင့် မလွတ်မကင်းပေ။ ဤကျမ်း၏ အစတွင် ထေရုဗာလုဗာသည် မိုး၏ ကောင်းမြတ်ခြင်းဟူသော အကြောင်း



ကို ဖော်ပြထားသကဲ့သို့ ဒုတိယ ကဏ္ဍ၏ အဆုံးတွင်လည်း လယ်ယာ စိုက်ပျိုးခြင်း၏ အရေးကြီးပုံကို ဖော်ပြထားလေသည်။ စာဆိုသည် တော ကျေးလက်သားဖြစ်၍ စိုက်ပျိုးရေး၏ အရေးပါပုံကို ကောင်းစွာ သိရှိလေသည်။

တတိယ ကဏ္ဍတွင် စာဆိုဖွဲ့နွဲ့ထားသော မေတ္တာဇာတ်လမ်းမှာ ယောကျ်ားပျိုကလေးနှင့် မိန်းမပျိုကလေး တဦးတို့သည် အမှတ်မထင် ရွာပြင်တောစပ်၌ တွေ့ဆုံခဲ့ကြသည်။ သူတို့သည်တဦးကို တဦး မြင်မြင်ချင်း မေတ္တာသက်ဝင် ချစ်ခင်မိခဲ့ကြ၏။ မျက်စိအောက်က မပျောက်မခံနိုင်သော အခြေသို့ တဆင့် တက်မိကြသည်။ ဤသို့ ချစ်မေတ္တာနှောင်ကြိုး ပတ်ဖွဲ့မိသောအခါ သူတို့သည် တဦးကို တဦး သစ္စာနှံကြလျက် အိမ်ထောင်သည်များ ဘဝသို့ လျှို့ဝှက်စွာ ရောက်သွားခဲ့ကြလေသည်။ မည်သို့သော အခမ်းအနားမျိုးမှလည်းမပြုလုပ်၊ မည်သို့သော အသိအမှတ် ပြုခြင်းမျိုးမှလည်း လူသိရှင်ကြား မပြုကြဘဲ၊ တဦး၏ မေတ္တာကို တဦးက ယုံကြည်သော စိတ်ဖြင့်သာ မေတ္တာနယ် ကျွံမိကြခြင်း ဖြစ်လေသည်။ သို့သော်ထိုခေတ်ကမူကား ဤသည်ပင်လျှင် တမီလ်အမျိုးသားတို့ လူ့အဖွဲ့အစည်း၌ လက်ထပ်ထိမ်းမြားခြင်းဆိုင်ရာသဘောအတွက် လုံလောက်သော အကြောင်းခံ ဖြစ်ပေသည်။

ချစ်သူနှစ်ဦးသည် မိမိတို့ သစ္စာနှံ့ပြီးကြသည့် အကြောင်းကို တိတ်တဆိတ် လျှိုဝှက်ထားကြကာ၊ တနေ့တွင် အခါအခွင့်သာသော အချိန်ရောက်သော် လူသိရှင်ကြားဖွင့်ဟ ပြောဆိုကြရန် ရည်ရွယ်ရင်း ရှိကြသည်။ သို့သော်လည်း ထိုအချိန် ကာလသို့ရောက်အောင် နှစ်ဦးစလုံး၌ စောင့်ဆိုင်း နိုင်စွမ်း မရှိကြတော့ပေ။ တဦး၏ ရင်ခွင်တွင်တဦးက ဝင်ရောက် ခိုလှုံလိုငြားလည်း မိဘမောင်ဖွားများ မသိသေးသည်က အခက်အခဲကြီးဖြစ်၍ နေသည်။ ဤအကြောင်းများကို အခန်း ၁၁၄-တွင် ပြဆိုထား၏။ ဤသို့ လူမသိ သူမသိ တဦးနှင့် တဦး ချစ်ခင်နှစ်သက်မိကြသော ဇာတ်လမ်းမှာ ရှေးကထဲကပင်ရှိခဲ့လေသည်။ တိတ်တဆိတ် ချစ်ခဲ့မိရာမှ နောင်အခါတွင် မေတ္တာမှန်တို့၏ သွားရာလမ်းဖြစ်သော ပေါင်းဖက်ရခြင်းနှင့်လည်း ကြုံကြိုက်ရလေသည်။ သို့သော် မပေါင်းဖက်ရမီစပ်ကြား၌ ချစ်သူယောကျ်ားပျိုမှာ မနေနိုင်မထိုင်နိုင် ပူလောင်ကြေကွဲရ၏။ တနည်းနည်းဖြင့် မိမိချစ်သူ၏ မိဘဆွေမျိုးများ သိရှိရန် အားထုတ်ရ၏။ ဤတွင် သူတို့ရပ် သူတို့ရွာ၌ လုပ်လေ့ရှိသော အလေ့အထတခုမှာ အုန်းလက်များကို ခုတ်ဖြတ်၍ လူထိုင်နိုင်လောက်အောင် စု၍ စည်းသည်။ ယောကျ်ားပျိုသည် ထိုအုန်းလက် စည်းပေါ်တွင်ခွ၍ထိုင်ရ၏။ ထိုအခါ သူ့မိတ်ဆွေ ကာလသားများက သူ့ကို ဤအနေအထားဖြင့်ထမ်းပိုးလျက် မေတ္တာဖွဲ့ သီချင်းများကို သီဆိုကာ မြို့ရိုးရွာရိုးတွင် လျှောက်၍ လှည့်၏။ ဤသို့ပခုံးပေါ်က လိုက်ရသော်လည်း မိမိထိုင်ထားရသော အုန်းလက်၏ ဆူးများကမခံသာအောင် စူးတတ်၏။ မညီညွတ်သော အုန်းလက်များကြောင့် အနေရ အထိုင်ရခက်လှ၏။ ဤဝေဒနာသည် ချစ်သူ၏ရင်တွင် ခံစားရခြင်းမျိုးနှင့် ဆင်ဆင်တူလေသည်။

ဤသို့အနုန်းလက်ကို စည်း၍ မေတ္တာ သီချင်းသံများကို ကာလသား တစုက သီဆိုကာ လှည့်လည်သွားသည် ရှိသော် ရပ်ရွာရှိ လူငယ်များက သူ့ ကိုနောက်ပြောင်ကြ၏။တခါတရံ သူချစ်သော မိန်းခလေး၏ အမည်ကို သိရှိသူတို့က ဖေါ်ထုတ်ကာ ပြောင်လှောင်ကြ၏။ ဤသို့ဟာစ်အော်ပြောင်လှောင်သော အသံတို့သည် တယောက်စကား တယောက်နားမှ တဆင့် မိန်းခလေး၏ မိဘဆွေမျိုးများထံသို့ ရောက်ရ လေတော့သည်။ ထိုအခါ မိန်းကလေးရှင်၏ မိဘဆွေမျိုးတသိုက်မှာ မိန်းခလေးအား မေးမြန်းရ၏။ လွန်ပြီးကိစ္စဖြစ်၍ မတတ်သာသည့် အ ဆုံး တွင် လူငယ်တို့၏ ချစ်ခြင်းကို မခွဲနိုင်တော့ဘဲ ပေါင်းသင်း စုံဖက်၍ ပေးလိုက်ရလေသည်။

မိဘ သဘော ကျ လက်ခံပြီး၍ အတူတကွ နေထိုင်ရသောအခါ ချစ်စခင်စ ဇနီး မောင်နှံတို့ဘာဝ ပျော်ရွှင်ကြမြဲ ဓမ္မတာပင်။ သို့သော် ပျော်ရွှင်ခြင်း ဆိုသည်မှာ ကြာရှည် မခံပြန်ပေ။ ခင်ပွန်းသည်မှာ တိုင်းပြည်အတွက် စစ်ထွက်ရန် တာဝန်ရှိလာ၏။ ဤအကြောင်းကို ဇနီးအား ပြောပြ၏။ စစ်မြေမှ ပြန်လာလျှင် ထယ်ဝါ ဝင့်ကြွားစွာ ပြန်လာပါမည်ဟု ခွင့်ပန်၏။ သို့သော် ဇနီးသည်မှာ ခွဲရမည့်အရေးကိုတွေး၍ပင်မရပေ။ အကယ်၍သာ မောင်စစ်ထွက်သွားလျှင် မယ်သည် လွမ်းနာကျ၍သာ သေရပါတော့မည်ဟူသော အဖြစ်မျိုးသို့ ရောက်မည်ဟု "ခွဲခွါထွက်သွားရခြင်းနှင့် မပတ်သက်သော အကြောင်းများကိုသာ အကျွန်ုပ်ကို ပြောပါ။ ထိုသို့မဟုတ်ဘဲ အမြန်လာပါမည်ဟူ၍ နှစ်သိမ့်သော စကားမျိုးကို ပြောလိုလျှင် ထိုအချိန်တိုင်အောင် အသက်ရှင်၍ ကျန်ရစ်မည့် သူအားသာ ပြောကြားပါလော့" ဟူ၍ အမျိုးသမီးက မောင့်ကို တောင်းပန်ရ၏။

ပြောပြောဆိုဆိုနှင့် မောင်သည် မယ့်ကို စွန့်လျက် ထွက်ခွါသွားရ၏။ စစ်မက်ရေးရာတို့မည်သည်မှာ အိမ်သူသက်ထားတို့ မျှော်လင့်နေမည်ဟူသော အကြောင်းကြောင့် မြန်မြန်ပြီးရိုးရှိသည် မဟုတ်ပေ။ အရေးအခွင့်ကို ထောက်၍ လိုအပ်လျှင် လိုအပ်သလို အချိန်ရှည်ကြာတတ်မြဲ ဖြစ်ပေသည်။ ထို့ကြောင့် ပြန်ခဲ့ပါမည်ဟူ၍ ကတိပြုသောရက်တွင် မောင်သည် ပြန်မရောက်နိုင်တော့ပေ။

မောင် မရောက်မီ စပ်ကြား၌ မယ့်ရင်တွင်းတွင် ခံစားရသော ဝေဒနာတို့သည် ပူလောင်လှပါ၏။ ဤအကြောင်းတို့ကို စာဆိုသည် တတိယ အခန်းကဏ္ဍ၌ (၁၁)ခန်း ဖွဲ့လျက် စပ်ဆိုထား၏။ နောက်ဆုံးတွင်ကား မောင်သည် စစ်မြေမှ ပြန်ရောက်လာသည်။ မယ်ကား ချိန်းရက်အတိုင်း ပြန်ရောက်မလာသော မောင့်ကို ပြစ်တင်သောစိတ်ဖြင့် မျက်နှာချင်းဆိုင်၏။ အပြင်ပန်းအားဖြင့် မည်မျှပင် ငြူစူပြစ်တင်လိုငြားလည်း ရင်တွင်းကမူကား မောင့်ရင်ခွင်တွင် ပြေးဝင်ခိုလှုံလိုစိတ်က ပြင်းထန်နေ၏။ ဤသည်ပင်လျှင် အချစ်၏အရသာ ဖြစ်ပေသည်။ ရင်တွင်းရှိ မေတ္တာကို အပြင်တွင် တမျိုးလှည့်စား၍ မြိုသိပ်ထား၏။ မယ့်နှုတ်ခမ်းသည် စူ၏။ မယ့်မျက်လုံး အစုံတို့မှာ မျက်စောင်းများခဲ၍ထား၏။ မယ့်နှုတ်ဖျားမှ ထွက်လာသော စကားတို့မှာ သီးရင့်၏။



သို့သော် နောက်ဆုံးတွင်ကား ချော့မော့ နှစ်သိမ့်ရခြင်းသည်သာလျှင် အဆုံး၌ အောင်ပွဲခံ၏။ ဤသည်ပင် အချစ်ကို အရသာထူးကဲစေသော ဆားမည်သည် မဟုတ်

ပါလော။

တတိယ ကဏ္ဍမှာတမီလ် အမျိုးသားတို့၏ ကဗျာလင်္ကာ စပ်ဆိုမှု အလေ့အလာ နယ်ပယ်ဖြစ်သော အချစ်ကိစ္စဖြစ်သည်။ ဆန့်ကျင်ဖက်လိင်တို့၏ ချစ်ခြင်းကိစ္စဖြစ်သည်။ ကုရယ်လ်ကျမ်းကြီးကို ဦးစွာပဌမ ပြန်ဆိုသူများအနက် တဦးဖြစ်သော မစ္စတာဒရူးကမူ ဤတတိယကဏ္ဍကို ဥရောပတိုက်ဆိုင်ရာ ဘာသာစာပေတခုခုနှင့် ပြန်ဆိုရေးသားရလျှင် ဘာသာပြန် ဆိုသူအား ညစ်ညမ်းသူ၊ ယုတ်ညံ့သူဟု ပြောစရာ ဖြစ်ပေမည်ဟု ဆိုခဲ့လေသည်။

အခြားဘာသာပြန် ဆရာတဦးဖြစ်သော ဒေါက်တာပုပ်ကား ဤသို့မယူဆဘဲ တတိယကဏ္ဍ တခုလုံးကို အကုန် အစင်ပြန်ဆို၍ ရေးသားဖေါ်ပြခဲ့သည်။ ဒေါက်တာပုပ်ကပြောသည်မှာ ကျွန်ုပ် အထင်အားဖြင့် ပညာရှိ၍မြင့်မြတ်သော ကျမ်းပြုဆရာသည် မိမိ၏ ရည်ရွယ်ချက်၌ စင်ကြယ်ကောင်းမြတ်ခြင်းကို အခြေခံ၍ ရေးသားထားခဲ့သည်ဟု ဆိုလေသည်

အခြားတဦးဖြစ်သော ဘုန်းတော်ကြီး ဂျေကူးပါးကလည်း ဒေါက်တာပုပ်နှင့် သဘောချင်းတူသည်။ သူကဆိုသည်မှာ တတိယကဏ္ဍသည် ပဌမကဏ္ဍများ၏ တန်ဖိုးနှင့် ရသကို ဖျက်ဆီးရန် အကြောင်းတစုံတရာ မရှိဟူ၍ ဖြစ်သည်။

နောက်ထပ် ဘာသာပြန်သူ တဦးဖြစ်သော မစ္စတာ အာယားကလည်း ဤတတိယကဏ္ဍကို သတိကြီးစွာဖြင့် ဘာသာပြန်၍ စေ့စေ့ငုငုထည့်သွင်းဖေါ်ပြလေသည်။ ဤတတိယကဏ္ဍတွင်ပင် တမီလ်တို့၏ ဒေသ၌ လူငယ်တို့ ဘာဝ တဦးနှင့် တဦး ချစ်ခင်နှစ်သက်၍ ပေါင်းသင်းစုံဖက်ရန် မည်သို့ ကြိုးစားရပုံ၊ မည်သို့ ပူပန်ရပုံတို့ကို တွေ့ရှိနိုင်သည်။

အမျိုးသမီးများနှင့် ပတ်သက်၍ စာဆိုသည့် အမျိုးသမီးများကို နိမ့်ကျသော သူများဟူ၍ ရှုမြင်ခြင်းမရှိပေ။ ထိုခေတ်က အမျိုးသမီးစာဆို အများ ပေါ်ပေါက်ခဲ့သည်ကိုလည်း တွေ့နိုင်သည်။ အမျိုးသမီးစာဆိုများ ရှိခြင်းကို ထောက်၍လည်း သူတို့သည် ယောကျ်ားများ နည်းတူ လက်ရေတပြင်စီး ပညာ သင်ယူနိုင်ခဲ့ကြသည်ကို သိနိုင်ပေသည်။ ဖြစ်နိုင်သော အကြောင်းတခုမှာ တမီလ်တို့ ဒေသတွင် အရိယန် အယူအဆများ ပြန့်နှံ့လာခြင်းကြောင့် မိန်းမတို့အား နိမ့်ကျသော အခြေတွင်ရှိ သူများဟု သဘောထားလိုကြစေရန် ဖန်တီးပေးသည်ဟု ထင်ရသည်။ သို့သော် ကုရယ်လ်ကျမ်းကြီးတွင်မူ

ဤသို့သော သဘောထားမျိုးကို မတွေ့ရပေ။

ထေရဝါဒလူဗာ၏ သဘော၌ မိမိအိမ်ထောင်ကို ကောင်းစွာ ပြုစုလုပ်ကျွေးသော အိမ်ထောင်သားတဦး၏ဘဝကား ရဟန်းတဦး၏ ဘဝကဲ့သို့ပင်မြင့်မြတ်ကြောင်း ဂုဏ်ရှိကြောင်း မြင်ခဲ့လေသည်။

အိမ်ယာထောင်မှု ကိစ္စနှင့် ပတ်သက်၍ အကြင်ယောကျ်ား တဦးသည် ဇနီးအများကိုယူရန် အလေ့အလာကို အားပေးရေးသားခြင်းလည်း မရှိခဲ့ပေ။ စာအုပ်တခုလုံးတွင် တွေ့ရသည်ကား တလင်တမယား စံနစ်အကြောင်းပင် ဖြစ်၏။ တလင်တမယားစံနစ်ဖြင့် နေထိုင်ဆက်ဆံရေးသည် အမျိုးသမီးတို့၏ အဆင့်အတန်းကိုမြင့်မားစေရာ ရောက်ပေသည်။ ဤကျမ်းမှာ လွန်ခဲ့သော နှစ်ပေါင်း ၁၅၀၀-ခန့်က ရေးသားထားခဲ့ခြင်းကြောင့်လည်း အမျိုးသမီးတို့နှင့် ပတ်သက်၍ ခေတ်သစ် အတွေးအခေါ်မျိုးထားရှိသည်ဟု မဆိုနိုင်သည့်တိုင် အမျိုးသမီးတို့အား တန်းတူအခွင့်အလမ်း ရှိသင့်သည်ဟု ယူဆခြင်းကို တွေ့နိုင်ပေသည်။

ကျမ်းပြုဆရာသည် လူ့ကျင့်ဝတ်ကို ဖေါ်ပြသည်ဖြစ်စေ၊ နိုင်ငံ အုပ်ချုပ်သူတို့၏ ကျင့်ဝတ်ကို ဖေါ်ပြသည်ဖြစ်စေ၊ လောကတွင် အောင်မြင်ကြောင်းတရား နည်းလမ်းများကို ဖေါ်ပြသည်ဖြစ်စေ၊ ချစ်သူတို့၏ စိတ်လှုပ်ရှားမှုများကို ဖေါ်ပြသည် ဖြစ်စေ၊ ဤသို့ဖေါ်ပြရသောအခါတိုင်း၌ စိတ်သဘော၏ အတွင်းသားကို ငုံမိအောင် နှိုက်နှိုက်ကျွတ်ကျွတ်လေ့လာနိုင်သူ ဖြစ်ကြောင်း တွေ့ရပေမည်။ ထို့ကြောင့် ဤကျမ်းကို ပြုစုသော စာဆိုသူမြတ်အားလောကီကျင့်ဝတ် နေရာ၌ စာဏကျ၊ကာမန္တက၊ မက္ကိယာဗယ်လီ၊ ကွန်ဖျူးရှပ် စသည်တို့ထက် သာလွန်ကြောင်းကိုင်း၊ အချစ်အကြောင်းကို ဖွဲ့ဆိုသည့်နေရာတွင် ကာလီဒါသ၊ ရှိတ်စပီးယားစသည်တို့သည် သူ့ကိုမလွန်ကဲ နိုင်သည်ကိုင်း တွေ့ရမည်ဖြစ်သည်ဟု အဖွင့်ဆရာများက ဆိုထားလေသည်။ ထို့ကြောင့် အိန္ဒိယပြည်တောင်ပိုင်း မိုင်လာပူ ဒေသ ဇာတိ သာမန်ရက်ကန်းသည် တဦးသည် တကမ္ဘာလုံးနှင့် သက်ဆိုင်၍ လာပေသည်ဟု ဆိုစရာဖြစ်ပေသည်။

ဤကျမ်းကို ဖတ်ရှုသော သူတို့၏ စိတ်ထဲတွင် ထင်မြင်လာမည့် အချက် တချက်မှာ ဂုဏ်သိက္ခာရှိခြင်း၊ တရားစောင့်ခြင်း၊ ယောကျ်ား ပီသခြင်း အစရှိသည် တို့သည် အမှုအားလုံးကို အောင်မြင် နိုင်သည်ဟူသော အကြောင်းကိုင်း နိမ့်ကျသော အလုပ်များ ဒုစရိုက်များသည် မိမိ၌ သာယာဘွယ်ပင် ဖြစ်စေကာမူ မပြုအပ် ကြောင်းကိုင်း ထင်ရှားစွာ သဘောပေါက်မိမည် ဖြစ်ပေသည်။ ဤအချက်ကား ဤကျမ်း၏ အဓိကအချက်ပင် ဖြစ်သည်။

ဤမျှအားဖြင့် အခန်း ၇၉-တင်ပါဝင်သော အပိုဒ်များမှာ ဤကျမ်း၏ တန်ဖိုး

ကို ဆိုသလောက်မမြင့်မားဟု ပြောစရာဖြစ်ဟန် ရှိသော်လည်း ကျွန်ုပ်တို့ သတိပြုရမည်မှာ၊ လူတယောက်၏ တဦးချင်းကိုယ်ကျင့်တရားနှင့် နိုင်ငံတနိုင်ငံအတွက် ပြုဘွယ်ဝတ်တို့ ခြားနားကြောင်းပင် ဖြစ်လေသည်။ မိမိ၏ တကိုယ်ရေ ဘဝတွင် ခွင့်လွှတ်ခြင်း ဆိုသည်မှာ အလွန်ကြီးကျယ်သော ဂုဏ်အင်္ဂါ တရပ်ဖြစ်၏။ သို့သော် မိမိသည် တိုင်းပြည်အုပ်ချုပ်မင်းလုပ်ရသော သူဖြစ်ပါက ခွင့်လွှတ်ခြင်းကို အခါခပ်သိမ်း ကျင့်သုံးနိုင်မည် မဟုတ်ပေ။အပြစ်ရှိသူတို့အားအပြစ်ရှိသည်အလျောက်ဆုံးမ ပဲ့ပြင်ရာ၏။ထိုမျှမကသေး ရန်သူဟူ၍ ပေါ်ပေါက်နေလျှင် တိတ်ဆိတ်စွာ ငြိမ်သက်နေ၍ မဖြစ်။ ထိုရန်သူ

## သိရုကုရယ်လ်

### ၃၁

အင်အား ကြီးမား၍ မိမိတိုင်းပြည်ကို မထိပါးရလေအောင် နှိမ်နင်းရာ၏။ အကယ်၍ အိမ်နီးချင်း နိုင်ငံက မိမိကို တော်လှန်ခြားနားသည် ဖြစ်အံ့၊ အန္တရာယ် မပြုနိုင်အောင် စီမံရမည်သာ ဖြစ်၏။ ဤအချက်များကို အခန်း ၈၈–အပိုဒ် ၉–နှင့် အခန်း ၈၉- အပိုဒ် ၁၀–တို့၌ ဖေါ်ပြထားသည်ကို တွေ့ရလိမ့်မည်။ သို့သော် တိုင်းပြည်အုပ်ချုပ် မင်းလုပ်သူတို့မည်သည်မှာ မိမိတိုင်းသူ ပြည်သားများ ကိုဒင်း၊ အိမ်နီးချင်း နိုင်ငံ များကိုဒင်း စိတ်ထင်သလို ပြုကျင့်နိုင်ကြသည် မဟုတ်ပေ။ မတရားသော နည်းဖြင့်လည်း အိမ်နီးနားချင်း နိုင်ငံများကို သိမ်းသွင်းအပ်သည် မဟုတ်ပေ။ ဤကျမ်းရှိ အခန်း ၆၇–အပိုဒ် ၁၀–တွင် ဖေါ်ပြထားသည့် အတိုင်း မတရားသော နည်းဖြင့် ရရှိသော ဥစ္စာတို့ကို စုဆောင်း သိမ်းဆည်းရသည်မှာ မဖုတ်ရသေးသော မြေအိုးတွင် ရေထည့် သည်နှင့် တူပေသည်။

---

## ဤကျမ်းနှင့် ပတ်သက်၍

ခြုံ၍ပြောရလျှင် ကုရယ်လ်ကျမ်းသည် တမီလ်အမျိုးသားတို့အတွက် အိမ်ထောင်ရှင်များအားဧင်း၊ ရသေ့ရဟန်းတို့အားဧင်း၊ အုပ်ချုပ် မင်းလုပ်သူတို့အားဧင်း၊ ကျင့်ဝတ်နည်းနာများကို ဖော်ပြသော ကျမ်းဖြစ်ပေသည်။

ဤကျမ်းကို ပြုစုရခြင်းနှင့်ပတ်သက်၍ ဆိုရိုးအစဉ်တခု ရှိသည်မှာ အိန္ဒိယပြည်ရှိ အရိယန်လူမျိုးတို့၌ ဗေဒကျမ်းကြီးများ ပေါ်ထွန်းနေသကဲ့သို့ တမီလ်အမျိုးသားတို့၌လည်း ဗေဒကျမ်းကဲ့သို့ ကိုးစားလက်ခံရန် ကျမ်းတစောင် ပြုစုပေးရန်ဟူသော မေတ္တာရပ်ချက်ကို တုံ့ပြန်သောအားဖြင့် ပြုစုခဲ့ခြင်းဖြစ်သည်ဟု ဆိုပေသည်။ သို့သော်လည်း ဤကျမ်းမှာ ဘာသာရေး လက်စွဲကျမ်းမဟုတ်။ လူ့ဘောင် အဖွဲ့အစည်း အတွင်းရှိ လူ့တန်းစား အသီးသီးတို့ ကျင့်ကြံ လိုက်နာအပ်သော ကျင့်ဝတ်ထုံးများကို ဖော်ပြထားသည့် နီတိကျမ်းတစောင်သာ ဖြစ်ပေသည်။

ထေရဗာလုဗာ သူမြတ်သည် ဤကျမ်းကိုပြုစုရာ၌ မြင့်မားရှည်ဝေးသည့် ကိစ္စဖြစ်သော တမလွန်ဘဝ၊ သံသရာမှ လွတ်မြောက်ကြောင်းဖြစ်သော အခြေကို မျှော်ခေါ်ခြင်း အစရှိသည်တို့ကို တမင်ဖယ်ရှားလျက် လူတို့နေ့စဉ် တွေ့ကြုံနေရသော လက်တွေ့ဘဝ လက်တွေ့ ကိစ္စများကိုသာ အမှီပြု၍ ရေးဖွဲ့ခဲ့ခြင်း ဖြစ်သည်။

စာဆိုမှာ ဂိုဏ်းဂဏသမားမဟုတ်၊ ထို့ကြောင့် ဘာသာရေးနှင့်ပတ်သက်၍ မိမိလက်ခံယုံကြည်လိုသည့် ဂိုဏ်းဂဏတခုတည်းကိုသာ ရေးသားဖော်ထုတ်၍ ပြရမည် ဆိုသော် ဘာသာရေး တည်းဟူသော နယ်ပယ်သည် ကျဉ်းမြောင်း သွားလိမ့်မည်။ ထို့ကြောင့်ပင် ဂိုဏ်းဂဏ အယူအဆတို့တို လက်ခံ ယုံကြည်တတ်သူ မဟုတ်သူ တဦးပြီးပြီး ဘာသာရေး ကိစ္စများကို ဤကျမ်း၌ ရှောင်ရှားခဲ့ဟန်တူသည်။ သို့ငြားလည်း

သံသရာမှ လွတ်မြောက်ရန် အရေးမှာ မိမိပြုစုသော ကျမ်းမှလူတို့၏ မူလ ကျင့်ဝတ်ကို လိုက်နာကျင့်ကြံလျှင် လွတ်မြောက်ရန် အခြေခံကို ရလိမ့်မည်ဟူလည်း ဤပုဂ္ဂိုလ်သည် ယူဆခဲ့ဟန် တူသည်။

ဤကျမ်းစာအုပ်တွင်ပါရှိသော ပဌမကဏ္ဍနှင့် ဒုတိယကဏ္ဍဖြစ်သော အပိုင်းကြီး နှစ်ပိုင်းကို ပြုစုရာတွင် ကျမ်းပြုဆရာသည် အရိယန်လူမျိုးတို့ လက်ခံယုံကြည်သော သင်္ဂဟ တရားများကို နှိုးနှယ်၍ အခြေပြုခဲ့သည်ဟု ယူဆရသည်။ ဤကျမ်းကို မပြုစုမီ သူသည် သက္ကတဘာသာဖြင့် ရေးသားထားသော မူလကျမ်းများကိုဂင်း၊ သို့တည်းမဟုတ် သက္ကတဘာသာမှ ဘာသာပြန်ဆိုပြီးသော ကျမ်းများကိုဂင်း လေ့လာဖတ်ရှုခဲ့ပြီး ကြောင်း ထင်ရှား၏။ အခြားထင်ရှားသော အချက်တရပ်ကား မနုရသေ့ကြီး ရေးသား စီရင်သည့် မာဏဝမ္မ သျှတ္တရခေါ် ကျမ်းနှင့် ကောတိလျ (စာဏကျ) ပြုစုသည့် အတ္ထသျှတ္တရ ခေါ် ကျမ်းတို့ကို မှီငြမ်းပြုခြင်းဖြစ်သည်။ ထို့ပြင်တဝလည်း သက္ကတဘာ သာဖြင့် ရေးသား ပြုစုထားသော ပဥ္စတန်တျ၊ ဟိတောပဒေသ၊ ရာမာယန၊ မဟာဘာရ တ၊ နီတိသာရ အစရှိသော ကျမ်းတို့ကို သူလေ့လာပြီးစီးကြောင်း ထင်ရှား၏။

အထူးသဖြင့် ကောတိလျ၏ အတ္ထသျှတ္တရကို မှီငြမ်းပြုကြောင်းကား အထူး ထင် ရှားသည်။ သို့သော် ကျမ်းတအုပ်လုံး၌ စီစဉ်ပုံ ဖေါ်ပြပုံတို့မှာ မိမိကိုယ်တိုင်၏ ချီးမွမ်း ဖွယ်ဖြစ်သော မူပိုင်အတွေး အခေါ် အမြော်အမြင် များပါကြောင်း သေချာပေသည်။

ဤကျမ်းကို ပြုစုရာတွင် ခရစ်ယန်ဘာသာ အဆိုမိန့်မှ တိုက်ရိုက်ယူငင်သည်ဟူ သောအချက်ကိုကား မတွေ့ရပေ။ သို့သော် ဗုဒ္ဓဘာသာ၏ လွှမ်းမိုးမှုကား မပါဘဲမရှိဟု ယူဆရသည်။

အချို့ကမူကား ဤကျမ်းသည် ကောတိလျ၏ အတ္ထသျှတ္တရကို တမီလ် အမျိုး သားတို့အတွက် ထေရဗာလုဗာက သင့်လျော်အောင် တိုက်ရိုက် ကူးယူ သည်ဟု ဆိုကြ သည်။ ဤအချက်မှာလည်း ဖြစ်နိုင်ဘွယ် မရှိပေ။ အဘယ်ကြောင့် ဆိုသော် ကူရယ်လ် ကျမ်းထဲတွင် ဖေါ်ပြပါရှိသော နိုင်ငံရေးရာအမှုအခင်းကိစ္စတို့နှင့် အခြားကျမ်းများတွင် ဖေါ်ပြပါရှိသော နိုင်ငံရေးရာ အမှုကိစ္စတို့၌ မတူသော အချက်မှာ နှစ်ချက်ရှိ၏။ ပဌမအချက်မှာ ကောင်းသော အကျိုးတရားကို ရရှိရန်အလို့ ငှာ ကောင်းသော အကြောင်းတရားကို စွန့်ပယ်၍ပင် ဖြစ်စေ ပြုအပ်သည်ဟု ဆိုလိုချက် မပါခြင်းပင် ဖြစ်သည်။ အတ္ထသျှတ္တရကျမ်းတွင်ကား နိုင်ငံ အတွက်ဆိုလျှင် လိမ်လည် ကောက်ကျေ့

သုခမိန်မဣ္စိယာဗယ်လီ၏ အယူအဆ ဖြစ်သည်။ ဤအတွက် အထောက် အထားကို အခန်း ၅၅ - အပိုဒ် - ၆၊ အခန်း ၆၆၊ အပိုဒ်၁၀၊ အခန်း ၁၀၂ - အပိုဒ် - ၆ စသည် တို့၌တွေ့နိုင်သည်။

နောက်တချက်မှာ ကူရယ်လ်ကျမ်းတွင် ဘုရင်မင်းတို့မည်သည် ဘုရားသခင် ဖန်တီးပေးသော ရာထူးကို ဆောင်ရွက်ရခြင်းဖြစ်သည်။ ဘုရားရှင်၏ တန်ခိုးအာနုဘော်



မျိုးရှိသည် ဟူသော အယူအဆမျိုးကို ဖေါ်ပြထားခြင်း မရှိပေ။ မင်းသည် လောက ဓမ္မကြောင်းတို့နှင့်အညီ သာမန်လူသား တဦး ပြုကျင့် ဆောင်ရွက် သကဲ့သို့ ဆောင်ရွက်ရာ၏ဟု ဆိုထား၏။ မင်းလုပ်သူသည် ဤသို့ လူရိုသေ ရှင် ရိုသေဖြစ်စေအပ်သော ကျင့်စဉ်မှ လွဲဖယ်သည်ရှိသော် မိမိရရှိသော တန်ခိုး အာဏာတို့ပင် ပျက်ပြား နိုင်၏ ဟူ၍ ဆိုထားသည်။ ဤအကြောင်းကို အခန်း ၅၅၊ အပိုဒ် ဂ - တွင် တွေ့နိုင်သည်။ အခန်း ၅၆ - တွင် ရှင်ဘုရင်သည် ဆိုးသွမ်း၍ တိုင်းသူ ပြည်သားတို့အား ဖိစီး နှိပ်ကွပ်ခြင်း၏ မကောင်းမှုကို ဖေါ်ပြထား၏။ အခန်း - ၃၉၊ အပိုဒ် - ဂ တွင်ကား ရှင်ဘုရင်ကို ဘုရားနှင့်နှိုင်းထား ၏။ သို့သော်ဘုရင်ရာထူးကိုလက်ခံ ဆောင်ရွက်ရသောကြောင့် ဘုရားဟု ဆိုလို ရင်း မဟုတ်ဘဲ၊ တိုင်းသူပြည်သားတို့အား ရင်ဝယ်သားကဲ့သို့သဘောထားကာ တရားနှင့် အညီ စောင့်သုံးသော မင်းတို့ကိုသာလျှင် ဘုရားဟူ၍ တင်စားခေါ်ဆို ထားခြင်း ဖြစ်သည်။

အထက်ပါအချက်နှစ်ချက်ကိုကြည့်လျှင် ကုရယ်လ်ကျမ်းသည်အတ္တသျှတ္တ ကိုတိုက်ရိုက် ကူးယူဖော်ပြထားခြင်း မဟုတ်ကြောင်းကို သိသာပေသည်။ ထိုမျှမက စာဆိုသည်သူနှင့် ခေတ်ပြိုင် ပညာရှိများထက် အထွေးအခေါ် အရာ တွင် မည်မျှ ရှေ့ကပြေး၍ နေသည်ကို တွေ့နိုင်ပေသည်။







သိဂ္ဂုကုရယ်လ်

# ဂုဏ်အချင်းအရာများ ဆိုင်ရာ ကဏ္ဍ

(အခန်း-၁ မှ ၃၈။)



## သိရကောင်းရာ
### ပဏ္ဏာမ

## အခန်း (၁)

(အခန်း–၁ ၅ ၄) ၁။

### ဘုရားရှင်အား ဂုဏ်ပြုခြင်း။

အက္ခရာအားလုံးတို့တွင် ကကြီးသည် အစအဦး ဖြစ်သကဲ့သို့ လောဝ၇ ဘုရားရှင်သည် အစအဦး ဖြစ်၏။

ကမ္ဘာကြီးတွင်

၂။ စင်ကြယ်သော ဉာဏ်တော်ကို ပိုင်ဆိုင်တော်မူသည့် ဘုရားရှင်၏ ခြေတော်ရင်းတွင် ဦးမခိုက်သော သူအား တပည့် ခံခြင်းသည် အဘယ်သို့သော အကျိုးကို ရနိုင်ပါမည်နည်း။

၃။

အလုံးစုံသော နှလုံးသားတို့ကို စိုးပိုးတော်မူသော အရှင်၏ ခြေတော်ရင်းတွင် စုရုံးမိသူတို့သည် ကမ္ဘာအားလုံးတို့၏ အထက်တွင် စံနေနိုင်လိမ့်မည်။

၄။

လိုအင်ဆန္ဒမရှိသော၊ မလိုတမာမရှိသော ဘုရားရှင်၏ ခြေတော်ရင်းတွင် စုရုံးမိသူတို့အား မကောင်းမှုတို့သည် အခါခပ်သိမ်း မကျရောက်တော့ပေ။

၅။

ဘုရားရှင်၏ ဂုဏ်တော်၌ ပျော်မွေ့သူတို့အား အမှောင်ကို အားပြု၍သော အပြစ်နှစ်မျိုးတို့သည် မကျရောက်နိုင်ပေ။

ဖြစ်ပေါ် ၆။

အာရုံငါးပါး၏ ဆန္ဒတို့ကို ပယ်ဖျက်နိုင်စွမ်းသော ဘုရားရှင်၏ မှန်ကန်သော လမ်းစဉ်ကို လိုက်နာသူတို့အား ရှည်မြင့်စွာ အကျိုးပေးလိမ့်မည်တည်း။

၇။

ပြိုင်စံကင်းသော ဘုရားရှင်၏ ခြေအစုံတွင် ဦးခိုက်မိသူတို့မှတပါး အခြားသော သူတို့သည် စိတ်၏ ပူပင် သောကကို ဖျောက်နိုင်စွမ်း မရှိကြပေ။

၈။ ဂုဏ်တော် အပေါင်းနှင့်ပြည့်စုံသော ဘုရားရှင်အား ခြေတော်ရင်းတွင် ဆည်းကပ်သူတို့မှလွဲ၍ တပါးသော သူတို့သည် ဒုစရိုက်ပင်လယ်ပြင်ကြီးကို ကူးဖြတ်ရန် မတတ်နိုင်ကြပေ။

၉။

ရှစ်ပါးသော ဂုဏ်တော်တို့ဖြင့် ပြည့်စုံအပ်သည့် ဘုရားရှင်အား မကိုင်းညွတ်သော ဦးခေါင်းသည် အသိဉာဏ် မရှိသော ဦးကျောက်ကဲ့သို့ အချည်းနှီးသာတည်း။

၁၀။

ဘုရားရှင်အား ဆည်းကပ်သူတို့မှလွဲ၍ အခြားသော သူတို့သည် တို့၏ သံသရာမှ လွတ်မြောက်နိုင်မည် မဟုတ်ပေ။

မေးဖွားခြင်း

# သ်ရကုရယ်လ်

အခန်း (၂)

## မိုး၏ ကောင်းမြတ်ခြင်း။

၁။ မိုးလေ မှန်မှန် ရွာသွန်းခြင်းကြောင့် သာလျှင် ဤကမ္ဘာမြေကြီးသည် ထွန်းကားစည်ပင်၍ နေလေသည်။ ထို့ကြောင့် မိုးအား နတ်သုဓါဟု ခေါ်ထိုက်ပေတော့သည်။

၂။ မိုးသည် သူတို့အား အစာ ရေစာ ပေး၏။
ရေစာ ဖြစ်၏။
ထို့ဖြောင့် မိုးသည်ပင်စစ် ယာစာ

၃။

မိုးတိမ်တို့မှ မိုးရွာမချသောအခါ ရေပတ်လည် ဝိုင်းလျက်ရှိသောတွင် ငတ်မွတ် ခေါင်းပါးခြင်းဘေးနှင့် ကြုံတွေ့ရမည်သာ။

အကျိုးစီးပွားကို ဆောင်တတ်သော မိုးသည် ဖြိုင်ဖြိုင် မရွာနိုင်သည့် အခါတွင် လယ်သမားသည် ထွန်ရေး ငေ်၍ ဖြစ်နိုင်တော့မည် မဟုတ်ပေ။

၅၊

မိုးသည် ဖျက်ဆီးတတ်၏၊ တနည်းအားဖြင့်လည်း ပျက်စီးသွားခြင်းတို့ကို လည် ဆောက်တည် ပေး၏၊ ဤနှစ်မျိုးလုံးကို ပြုနိုင်စွမ်းပေသည်၊

ပြန် ့

၆၊ မိုးပေါက်တစက်မျှ မကျရောက်လျှင် မြက်ပင် တပင်မျှ တွေ့ကြရမည် မဟုတ်ပေ၊

၇၊

ပင်လယ်ရေကို မိုးတိမ် ဖြစ်နိုင်သော မိုးမင်းသည် မိုးရေကိုပြန်၍ မရွာသွန်းပါက သမုဒ္ဒရာ ပြင်ကျယ်ကြီးပင် ဖြစ်သော်လည်း ခန်းခြောက်ရာ၏၊

၈။ မိုးတိမ်တို့ ခန်းခြောက်သောအခါ
နိုင်တော့မည် မဟုတ်ပေ။

လူတို့သည် ကောင်းကင်မှ နတ်တို့အား ပူဇော်

၉။

မိုးသာလျှင် မရွာသွန်းပါက အပြောကျယ်သော ဤကမ္ဘာကြီးတွင် ကိုယ်ကို ဆုံးမခြင်း၊ အလှူဒါနပြုခြင်း တည်းဟူသော တရားတို့သည် ထွန်းကား နိုင်တော့ မည် မဟုတ်ပေ။

၁၀။ ရေဖြင့် ကင်း၍ လူ့ကျင့်ဝတ်တို့ကို မဖြည့်စွမ်းနိုင်သည်ဟုဆိုအံ့၊ ရေသည် မိုးမှ ဖြစ်၍ စီးဆင်းရသောကြောင့် မိုးမရွာလျှင် လူ့ကျင့်ဝတ် တရားတို့ ပျက်ပြယ် ကုန်ရာ၏။

သိရကုရယ်လ်

## အခန်း ( ၃ )

ရသေ့-ရဟန်းတို့၏ ကြီးမြတ်ပုံ။

၁။ ကျမ်းဂန်တို့၏ အဓိက ဆိုလိုရင်း အချက်တချက်မှာ ရသေ့ ရဟန်းတို့သည် ကိုယ်ကျင့် သိက္ခာကို လိုသောကြောင့် အလိုဆန္ဒ အားလုံးကို စွန့်ပစ်သည် ဟူသည်ကို ထင်ရှား စေခြင်းပင်တည်း။

၂။ မိမိတို့ဆန္ဒကို ရှုန်း[illegible] ကြသော [illegible] တို့၏ ကြိုးမြှင့်မှုကို [illegible] ပြုရမည်ဆိုလျှင် [illegible] ကြီးမား လှပေသည်။

၃။

နှစ်မျိုးသော အခြေတို့၏ အကြောင်းကို သိမြင်နားလည် သူတို့သည် ပြည့်စုံကာ ကမ္ဘာအရှည် ထွန်းလင်းကြ ပေတော့သည်။

ဂုဟ်နှင့် ၄။

အကြင် သူသည် မိမိ၏ ဟာရုံ ငါးပါးကို ပညာဖြင့် ထိန်းသိမ်းနိုင်သည် ထိုသူသည် သာလွန်ခြင်း တရား၏ မျိုးစေ့ ဖြစ်တော့သည်။

ဖြစ်အုံး။ ၅။

ကောင်းကင်ကို အစိုးရသော ဣန္ဒာသိကြားမင်း၏ ခွန်အားရှိမှုသည် အာရုံငါးပါးကို အောင်နိုင်ခြင်း၏ သာဓကပင် ဖြစ်လေသည်။

၆။ ကြီးမြင့်သူတို့သည် ခက်ခဲသော အမှုတို့ကို ပြုနိုင်၏။ ခက်ခဲသော အမှုမျိုးတို့ကို ပြုနိုင်စွမ်း မရှိပေ။

သိမ်ဖျင်းသော သူတို့ကား ၇။

အမြင်၊ အကြား၊ အထိအတွေ့၊ အနံ့၊ အရသာ ဟူသော အာရုံငါးပါး၏ အကြောင်းကို သိသူသည် ကမ္ဘာလောကကြီးအား ခါးစောင်း တင်နိုင်မည် ဖြစ်၏။

ဂ ။

စကားအရာ၌ ပြည့်စုံသူတို့၏ ထုတ်ဖော် မပြောဆိုခြင်းသည် ကြီးမြင့်မှုကို ဖော်ပြ ပေလိမ့်မည်။

ထိုပုဂ္ဂိုလ်တို့၏ ၉။

ကောင်းမြတ်ခြင်း ဟူသော နေရာအမြင့်သို့ရောက်ပြီး သူတို့၌ အမျက်ကို ထိန်းပင် ထိန်းနိုင်သော်လည်း တခဏမျှ အတွက်တွင် မတွန်းလှန်နိုင်ပေ။

၁၀။ ကောင်းမြတ်ခြင်းနှင့် ပြည့်စုံ သူတို့အား အန္တနာဟူ၍ စင်စစ်ခေါ်၏၊ အဘယ်ကြောင့် ဆိုသော် သတ္တဝါအားလုံးအား ကြင်နာ သနားစိတ် ရှိသောကြောင့်တည်း။

# သိရုကုရယ်လ်

## အခန်း ( ၄)

## ကောင်းမြတ်ခြင်း၏ စွမ်းအား။

၁။ ကောင်းမြတ်ခြင်းသည် ကောင်းကင်ဘုံနှင့်ရင်း၊ စီးပွား ဥစ္စာနှင့်ရင်း၊ ဖက်စပ်၍နေ၏၊ ထိုအခါ ဤအရာထက် မြင့်မားသော ပစ္စည်းများကို အဘယ်သူ လိုအပ်ပါဦး မည်နည်း။

၂။ ကောင်းမြတ်ခြင်း တရားကို ကျင့်ကြံ အားထုတ် ခြင်းထက် ကောင်းသော တရားမရှိပေ။ ထိုတရား ပျက်ပြားခြင်းထက် ဆိုးဝါးသော အကြောင်းလည်း မရှိပေ။

၃။ ကောင်းမြတ်ခြင်း ဟူသော တရားကို မပြတ် အားထုတ် ပါလော့။

ဖြစ်နိုင်သည့် နည်းဖြင့် တတ်အားသမျှ

၄ ။

အပြစ် မြူမတင်သော စိတ်ဖြင့် ဆောင်ရွက်ခြင်းတို့သည် ကောင်းခြင်းတရား ဖြစ်၏၊ ထိုမှတပါး အခြား အရာတို့သည် ကောင်းမြတ်ခြင်း မရှိနိုင်။

၅ ။

ဆန္ဒ၊ ဒေါသ၊ ဘယ၊ မောဟတို့ဖြင့် ကင်းသော မြတ်ခြင်းအမှု ဖြစ်ပေသည်။

ဆောင်ရွက်မှုသည် ကောင်း

၆။ ကောင်းမြတ်ခြင်း တရားကို နောင်ခါမှ ပြုကျင့်မည်ဟု စိတ်မကူးပါနှင့်။ ယခုပင် ကောင်းမြတ်သော တရား၌ တည်အပ်ပါစေ။ ထိုတရားသည် သင့်အားသေခြင်း တရား ကျရောက်သည့် ခဏ၌ သေခြင်း ကင်းသော အကူအညီတမျိုး ဖြစ်စေလိမ့်မည်။

၇။ ကောင်းမြတ်ခြင်း ဟူသော မှုကို စာအုပ်များတွင်ပြ၍ မနေပါနှင့်။ ဤကား ကောင်းမြတ်ခြင်းဟူသော ဝေါယာဥ်ကို ထမ်းသူနှင့် ဤကား ထိုဝေါယာဥ် စီးသူဟူသည်ကို မျက်ဝါး ထင်ထင် ပြသပေးပါလော့။

၈။ တနေ့မပြတ် ကောင်းမှု တစုံတရာကို ပြုနေသူအား ထိုသို့ပြုသော အမှုသည် နောင်မွေးဖွားရမည့် သံသရာတို့အတွက် အကာအဆီးအပိတ် အဆို့ ဖြစ်စေသော ကျောက်တုံး ဖြစ်ပေလိမ့်မည်။

၉။ ကောင်းမြတ်ခြင်းကိုမှီ၍ ဖြစ်ပေါ်သော ကြည်ရွှင် ချမ်းမြေ့မှု သည်သာလျှင် အစစ်အမှန်ဖြစ်၏။ ထိုမှတပါး အခြားသော အရာတို့သည် အစစ် အမှန်လည်း မဟုတ်၊ ချီးကျူး အံ့သြဘွယ်လည်း မရှိပေ။

၁ ၀ ။

ဆောင်ရန်အမှု ဟူသမျှသည် ကောင်းမြတ်ခြင်း တရားဖြစ်၏။ ဟူသမျှသည် ဒုစရိုက်တရား ဖြစ်၏။

ရှောင်ရန် အမှု

၄

■

သိပ္ပကုရယ်လ်

အိမ်ထောင်သည်တို့၏ အရည်အချင်းများ။

အခန်း (၅)

(အခန်း-၅ ပု ၂၄)

အိမ်ထောင်သည် ဘ၀။

၁ ။

အကြင်သူသည် သူတော်စင် ၁ုံးမျိုးတို့အား လမ်းမှန် ကမ်းမှန် ဖြစ်စေရန် ထောက်ပံ့နိုင်သည် ဖြစ်အံ့၊ ထိုပုဂ္ဂိုလ်သည်သာလျှင် စစ်မှန်သော အိမ်ထောင် ရှင် ဖြစ်သည်။

၂။ အကြင် သူသည် တွယ်ရာမဲ့သူတို့အားရင်း၊ ဆင်းရဲသူတို့အားရင်း၊ ကွယ်လွန်သူတို့အားရင်း၊ စောင်မ ကြည့်ရှုနိုင်သူ ဖြစ်ပါက အိမ်ထောင်သည် ဘဝတွင် ထွန်းကားနိုင်ပေသည်။

၃။ အိမ်ထောင်ရှင် တဦး၌ ပူဇော်အပ်သော အဝိကတာဝန် ငါးရပ်ရှိ၏။ ယင်းတို့မှာ မိဘ ဘိုးဘွား များတို့အားရင်း၊ ဘုရားများအားရင်း၊ ဧည့်သည်များအားရင်း၊ ဆွေမျိုး များအားရင်း၊ မိမိကိုယ်ကိုရင်း၊ ပူဇော်သော ဝတ်တရားများ ဖြစ်လေသည်။

၄။ အကြင်အိမ်ထောင်ရှင်တဦးသည် ၃၄ ရိုက်ပုံကို ကြောက်ရွံ၍ မိမိ၏ အစာရေစာ အဖို့အဝကို တပါးသူနှင့် မျှတ ခွဲဝေခြင်း ရှိပါက ထိုသူ၏ သား မြေး တို့သည် မည်သည့် အခါမှ မအောင်မမြင် ရှိလိမ့်မည် မဟုတ်ပေ။

၅။ အိမ်ထောင်သည် ဘဝတွင် ချစ်ခြင်း မေတ္တာနှင့် ကောင်းမြတ်ခြင်း မင်္ဂလာတို့ ရှိသည် ဖြစ်ပါက ၎င်းအချက် နှစ်ချက်လုံးသည် တာဝန်နှင့် ရလဒ်တို့ နှစ်မျိုးလုံး ဖြစ်ပေသည်။

၆။

အိမ်ထောင်သည် အဖြစ်တွင် ကောင်းမြတ်ခြင်း ပြည့်စုံအောင် ကျင့်သော သူအား အခြား အဖြစ်တခုသို့ ရောက်သောအခါ မည်သို့ဖြစ်စေပါမည်နည်း။

၇။ အနာဂတ် ပျော်ရွှင်ရေးအတွက် လုပ်ဆောင်သူတို့တွင် ရှင်များ၌ အံကြီးမြတ်ဆုံး ပုဂ္ဂိုလ် ဖြစ်ပေသည်။

၈။ အကြင် အိမ်ထောင်ရှင် တဦးသည် ရသေ့ သူတော်စင်တို့အား မိမိ နည်းဖြင့် ကူညီ ဆည်းကပ်ပါက ဂုဏ်မနိမ့်ပေ။ ရသေ့ ရဟန်းဘဝနှင့် နေသူတို့ထက်ပင် အခက်အခဲများကို ကျော်လွှားနိုင်သေး၏။

၉။ အိမ်ထောင်ရှင် ဘဝသည် ကောင်းမြတ်သော အခြေ စင်စစ်ဖြစ်၏။ အခြား သော အခြေတို့သည် တပါးသူတို့ ကဲ့ရဲ့ ပြစ်တင်ဘွယ် မဟုတ်ပါက ကောင်း မြတ်သော ကိစ္စများသာ ဖြစ်ပေသည်။

၁၀။ အကြင် သူတဦးသည် လောကတွင် ပြုအပ်သော အိမ်ထောင်ဖက်ဖြင့် အတူ နေထိုင်ခြင်းကို တရားနှင့် အညီ ပြုပါက ကောင်းကင်ရှိ ဘုရားတို့နှင့် တတန်း စားတည်း ထားအပ်ပေသည်။

၅

## သိရုကုရယ်လ်

**အခန်း (၆)** **ဇနီးသည်၏**

**ကောင်းမြတ်သောဂုဏ်။**

၁။ အကြင် အမျိုးသမီးသည် အိမ်ထောင်ထိန်းသိမ်းရန် သင့်လျော်၍ ခင်ပွန်းသည် ရှာဖွေ၍ ရအပ်သော ဥစ္စာ ပစ္စည်းကို စံနစ် တကျ သုံးစွဲတတ်ပါက အိမ်ထောင် တွင် ကူညီသူတဦး ဖြစ်ပေသည်။

၂။ အကြင် အမျိုးသမီး၌ အိမ်ထောင် ထိန်းသိမ်းနိုင်မှု အရည်အခြင်း ချို့တဲ့ပါက အခြားသော အိမ်ထောင်ရေး အချင်းအရာတို့ ပြည့်စုံငြားလည်း အချည်းနှီးပင် ဖြစ်သည်။

၃။ ထိုအမျိုးသမီး၌ ဤအရည်အသွေး ရှိပြီးပါက အဘယ်အရာကို လိုပါသေးသနည်း။ ဤအရည်အသွေးမျိုး မရှိဟု ဆိုပါက အဘယ်အရာသည် ရှိဦးတော့မည်နည်း။

## ၄။ ထာဝစဉ် စင်ကြယ်သော မိန်းမထက် အဘယ်မည်နည်း။

၅။

## ဇနီးသည်သည် တန်ဘိုး ရှိဦး

အကြင်မိန်းမသည် အိမ်ရာထတွင် ဘုရားကို ရှိမခိုးမူ၍ ခင်ပွန်းသည်ကိုသာ ရှိခိုး၏၊ ထိုမိန်းမ မျိုးသည် မိုးကိုရွာစေဟုဆိုက မိုးရွာပေလိမ့်မည်။

၆။ အကြင် မိန်းမသည် မိမိကိုယ်ကိုလည်း မပြတ်စောင့်ထိန်း၍ ခင်ပွန်းသည်အားလည်း ဝတ်မပျက် ရှိငြားအံ့၊ ထိုမိန်းမ၏ ဂုဏ်သတင်းသည် အစွန်းအထင်းမရှိ ဖြစ်ပေသည်။

၇။ အကြင် မိန်းမအား အစောင့်အကြပ် အနှောင်အတဲတို့သည် အဘယ်သို့ ထိန်းချုပ်နိုင်မည်နည်း။ ထိုမိန်းမ၏ စင်ကြယ်မှုသည်သာ သူ၏ အကြီးအကဲ ဖြစ်သော အစောင့်အကြပ် ဖြစ်သည်။

၈။ သူတော်ကောင်း တရားတို့ ထွန်းကားရာ အရပ်တိုင်း၌ ခင်ပွန်းသည်ကို ရှိ ကျိုးသော မိန်းမတို့သည် ချီးမွမ်းထောပနာကို ခံရမည် ဖြစ်သည်။

၉။ စင်ကြယ်မှုကို တန်ဘိုးမထားသော မိန်းမ၏ ခင်ပွန်းသည် အများ၏ ကဲ့ရဲ့သော ရှေ့မှောက်တွင် ဝင့်ဝင့်ကြွားကြွား သွားလာနိုင်မည် မဟုတ်ပေ။

၁၀။ မိန်းမ၏ တန်ဘိုးမှာ မိမိခင်ပွန်း၏ ကောင်းမြတ်မှုပင် ဖြစ်သည်။ လိမ်မာသော သား သမီးတို့မှာမူကား ကောင်းမြတ်ခြင်း၏ကျောက်မျက်ရတနာကလေးများ ဖြစ်ကြပေသည်။

6

သိမှုကုရယ်လ်

အခန်း (၇)

သားသမီး ရတနာ။

၁။

အကျိုးကျေးဇူး တကာတို့တွင် လိမ္မာတတ်သိသော သားသမီးတို့ကို မွေးရခြင်းသည် အခြားမည်သည့် အကျိုး ကျေးဇူး နှင့်မှ မတူပါပေ။

၂။

လိမ္မာ ယဉ်ကျေးသော သားသမီးတို့ကို ရရှိသော သူတို့အား ဖြစ်သော မကောင်းမှုတို့သည် ပသက်ရောက် နိုင်ကုန်။

ဘဝခုနစ်တွေ

၃။ အကြင်သူတို့သည် သားများအား စီးပွားရတနာများဟု ခေါ်ကြသည်၊ အဘယ်ကြောင့်ဆိုသော် ထိုသားများ၏ အဖို့ငှာ အလုပ်လုပ်ကြ၍ အကျိုးပွားစီး စေသောကြောင့် ဖြစ်သည်။

၄။

မိဘများမှာ မိမိတို့၏ သားသမီးများ လက်ထဲတွင် ဆုပ်ကစားလျက်ရှိသော ထမင်းဆုပ်များသည် နတ်သုဓါထက်ပင် အရသာ ထူးကဲကြပေသည်၊

၅။

သားသမီးများနှင့် ထိတွေ့ရခြင်းသည် ကိုယ်ခန္ဓာ၏ သာယာမှုဖြစ်၍ အသံကို ကြားရခြင်းသည် နား၏ အရသာပင် ဖြစ်ပေသည်၊

သူတို့၏

၆။

မိမိတို့ ကလေးများ၏ မပီကလာ ပီကလာ အသံစာစာများကို မကြားဘူးသေးသူများကသာ စောင်းသံ၊ ပြွေသံတို့သည် ချိုမြလှ၏ဟု ဆိုကြပေသည်။

၇။ ဖခင်သည် သားအား ပေးသင့်သော အမွေမှာ
ပညာရှိတို့၏ အစုအဝေးတွင်
အလျင် ရောက်ရှိစေခြင်းပင်တည်း။

၈။ ဤကမ္ဘာမြေကြီး၏ အင်အား ထင်ရှားသော
သူတို့အတွက် မိမိတို့၏ သား
သမီးများတို့အား ပညာတတ်စေခြင်းသည် ကြည်ရွှင်မှုတပါးပင် ဖြစ်ပေသည်။

၉။ မိခင်သည် မိမိသားငယ်အား ပညာရှိဟူ၍
တပါးသူတို့ခေါ်သည်ကို ကြားရလျှင်
ထိုသားငယ်အား မွေးဖွားစဉ်က
ဝမ်းမြောက်ရခြင်းထက်ပင် ပိုကဲ၍ ဝမ်း
မြောက်ခြင်း ဖြစ်ရလိမ့်မည်။

၁၀။ သူ့ဖခင်သည် ဤကလေးအား အဘယ်သို့
စည်းကမ်းမျိုးဖြင့် ဆုံးမ ပြုပြင် ခဲ့ပါ

သနည်းဟူ၍ အများကပိုင်း၍ ချီးမွမ်းခံရခြင်း အမှုသည် သားက ဖခင်အား

ဆပ်နိုင်သော ကျေးဇူးတရား ဖြစ်ပေသည်။

**2** ?

## သိရုကုရယ်လ်

### အခန်း (၈)

### ချစ်ခြင်းမေတ္တာ။

၁။ ချစ်ခြင်းမေတ္တာအား ဖုံးပိတ်၍ရကောင်းသော အဖုံးအပိတ်ဟူ၍ ရှိပါမည်လော၊ ချစ်ခင်သူ တဦး၏ မျက်လုံးအိမ်မှ ကျသော ကြေကွဲသည့်မျက်ရည်သည် အတွင်း၌ရှိ မေတ္တာကို ဖော်ပြတတ်ပေသည်။

၂။ မေတ္တာတရားနှင့် ကင်းသော သူတို့သည် မိမိ၏ပစ္စည်းအားလုံးကို ကိုယ့်ဘို့ပစ္စည်းဟုဖြစ်သာ သတ်မှတ်၏၊ မေတ္တာတရားရှိသော သူတို့မှာမူကား မိမိ၏ အရိုးအရေများကိုပင် တပါးသူတို့ပိုင်သည်ဟု သဘောထားနိုင် လေသည်။

၃။ ဝိညာဉ်နှင့် ခန္ဓာကိုယ်တို့ ပေါင်းစပ်ခြင်းသည် ရှေးဘဝက မေတ္တာနှင့် ကောင်းမြက်ခြင်းတို့၏ အကျိုးဆက်ကြောင့် ဖြစ်သည်ဟု ဆိုကြပေသည်။

၄။ ချစ်ခြင်း မေတ္တာသည် လိုအင်ဆန္ဒကို ဖြစ်စေ၏၊ ထိုလိုအင်ဆန္ဒကပင် အတိုင်းအရှည်မရှိသော ကောင်းမြတ်သည့် အဆွေခင်ပွန်း ဘဝကို ရစေ၏။

၅။ ကောင်းကင်ဘုံ၏ ချမ်းမြေ့ခြင်းနှင့် မိုးအောက်မြေပြင်၏ ပျော်ရွှင်ခြင်းတို့သည် အိမ်ယာထောင်ဖက်ဘဝ၏ ကောင်းမြတ်ခြင်းနှင့် ချစ်ခြင်းမေတ္တာတို့၏ အသီးအပွင့်ဖြစ်သည်ဟု ဆိုစမှတ် ရှိကြသည်။

၆။ ချစ်ခြင်း မေတ္တာသည် ကောင်းမြတ်ခြင်း၏ မိတ်ဖက် ဖြစ်သည်ဟု ပညာမဲ့သူတို့ ဆိုကြသည်။ သို့သော် ထိုသို့မဟုတ်၊ ၎င်းသည် ဒုစရိုက်ကိုလည်း အားပေးကူညီ တတ်သည် ဖြစ်၏။

၇။ အရိုးမရှိသော သတ္တဝါတို့အား နေမင်းက လောင်ကျွမ်းစေသကဲ့သို့ ချစ်ခြင်း မေတ္တာ ကင်းသော ဝိညာဉ်အားလည်း ကောင်းမြတ်ခြင်းက လောင်မြိုက် စေပေလိမ့်မည်။

၈။ ချစ်ခြင်းမေတ္တာ ကင်းမဲ့သော အိမ်ထောင်ရှင် တဦး၏ အခြေကား လွင်တီးခေါင် ကန္တာရထဲတွင် ညှိုးနွမ်းသော သစ်ပင်နှင့် ပမာတူ၏။

၉။ ခန္ဓာကိုယ်၏ အတွင်းပစ္စည်းဖြစ်သော မေတ္တာတရား ကင်းမဲ့သော သူတို့အား အပြင်ပစ္စည်းများက အဘယ်သို့ ကူညီနိုင်ပါမည်နည်း။

၁၀။ ခန္ဓာကိုယ် ဟူသည်မှာ ဝိညာဉ်၏ တည်ရာဖြစ်လေ၏။ ထိုဝိညာဉ်သည် မေတ္တာ ရှိရာကို လျှောက်သွားရာဖြစ်၏။ မေတ္တာကင်းသော သူတို့၏ ခန္ဓာကိုယ်သည် အရိုးကို အရေပြား ဖုံးထားသော ရုပ်ဝတ္ထု သက်သက်မျှသာတည်း။

၈

# သိရကုရယ်လ်

**အခန်း** (၉)

၁။

ဧည့်ဝတ် ပျူငှါခြင်း။

အိမ်ယာထောင်ခြင်း၊ ပစ္စည်းဥစ္စာ ရှာဖွေခြင်းတို့၏ သဘောမှာ ဖေါ်ရွေ ပျူငှါ
ခြင်းဟူသော ကောင်းမှုကို ပြုရန် အစီအမံ ဖြစ်ပေသည်။

၂။ အကြင် သူသည်
ဧည့်သည်တို့အား

အာယုဝဍ္ဍန ဆေးကို သုံးဆောင် နေသည်ပင်ဖြစ်စေ၊ မိမိ၏ ၃။
အိမ်ပြင်တွင် ရှိစေလိုပါက သင့်လျော်မည် မဟုတ်ပေ။

မိမိ ထံသို့ လာသော ဧည့်သည်တို့အား နေ့စဉ် ကျွေးမွေး
ရှင်သည် ဆင်းရဲ ဒုက္ခ ကျရောက်ခြင်းရှိမည် မဟုတ်ပေ။

ပြုစုသူ အိမ်ထောင် ၄။

ဧည့်ကောင်း စောင်ကောင်း တို့အား ပြုံးချိုစွာ ဆီးကြို လက်ခံသော သူ၏
အိမ်တွင် လက္ခမီ နတ်သမီးသည် ကောင်းစွာ သီတင်း သုံး၏။

၅။

ညှော်သည်တို့အား စားဦးစားဖျားကိုကျွေး၍ မိမိမှာမူ ကြွင်းကျန်သည်တို့ကိုသာ စားသုံးသော ပုဂ္ဂိုလ်၏ လယ်မြေကား မျိုးကျဲစိုက်ပျိုးရန်ပင် လိုပါဦးမည်လော။

၆။ အကြင် သူသည် ကြွရောက်လာသော ဧည့်သည် များကိုလည်း ဝတ်ပြု၏။ နောက်ထပ် လာရောက်မည့် ဧည့်သည် များအားလည်း ကြိုဆိုငံ့လင့်၏။ ထိုသူ မျိုးအား ကောင်းကင်ဘုံသားတို့သည် ခရီးဦး ကြိုဆိုမည် ဖြစ်သည်။

၇။ ကောင်းကျိုးဆောင်မှု၏ အကျိုးကျေးဇူးများကို ကျွန်ုပ်တို့သည် အတိုင်းအတာ ဖြင့် တွက်ချက်၍ မရနိုင်။ ဧည့်သည်များ၏ ဂုဏ်ထူးသည်သာ အတိုင်းအတာ ဖြစ်ပေသည်။

၈။ ဧည့်ဝတ်ပျူငှါ မရှိခဲ့သော သူတို့သည် တနေ့တွင် ဤသို့သော စကားကို ဆိုရ ပေအံ့။ "ငါသည် ကြိုးစား အားထုတ်ခဲ့၍ ဥစ္စာ ဘဏ္ဍာတို့ကို စုဆောင်းခဲ့သော် ငြားလည်း ယခုသော် နှစ်သိမ့်မည့်သူ မရှိပြီ" ဟူ၍ ဖြစ်သည်။

၉။ ဧည့်ဝတ်ကျေပြွန်မှု မရှိခြင်းသည် မိုက်မဲခြင်းဖြစ်၍ ချမ်းသာခြင်းတို့၏အလယ်၌ ဆင်းရဲနွမ်းပါး နေရ ခြင်းနှင့် အလားတူ၏။ ထို့ကြောင့် ဤအကျင့် အကြံ သည် မိုက်မဲသူတို့၏ ဥစ္စာ ဖြစ်ပေသည်။

၁၀။ အနိစ္စ–ပန်းသည် ရနံ့ကို ရှူရုံမျှဖြင့် ကွယ်ပျောက်သကဲ့သို့ ဧည့်သည်အား မျက်နှာလွှဲခြင်းသည် ဧည့်ခံခြင်းကို ပျက်ပြားစေ၏။



## သီရကုရယ်လ်

အခန်း (၁၀)

## နှုတ်ချိုသာခြင်း။

၁။ ချိုသာသော စကားတို့သည် မေတ္တာစိတ်မှ စီးဆင်းလာ၏။ ထိုစကားတို့သည် လှည့်ပတ် ဖျားယောင်းခြင်း ကင်း၍ ကောင်းမြတ်သော သူတို့၏ နှုတ်၌ တည်ပေသည်။

၂။

ပြုံးရွှင်သော မျက်နှာဖြင့် ပြောအပ်သော ချိုသာသည့် စကားသည် ကြည်သာစွာ ပေးအပ်သော လက်ဆောင်ထက် သာလွန်၏။

၃။

ပြုံးရွှင်သော မျက်နှာထားဖြင့် ချိုသာစွာ ပြောအပ်သော နှလုံး သည်းပွတ်မှ ပွင့်လျှံလာသည့် စကားသည် ကောင်းမြတ်ခြင်းစင်စစ်ပင် ဖြစ်သည်။

၄။

စိတ်နှလုံးကို ရွှင်ပြုံးစေတတ်သော စကားကို ဆိုသူတို့၌ ဆင်းရဲရသော ဒုက္ခသည် မကျရောက်နိုင်ပေ။

ဝမ်းနည်းခြင်း တိုး၍

၅။

နှိမ့်ချသော စိတ်ထားနှင့် ချိုသာသော စကားတို့သည် လူတို့၏ အဆင်းတန်ဆာများဖြစ်သည်၊ ထိုအရာများမှ လွဲ၍ အခြားမဟုတ်နိုင်၊

၆။

ကောင်းသော အကြံအစည်နှင့် ကောင်းသော စကားတို့ကို ဆိုသူ၌ သည် လျော့ပါး၍ အကျိုးတို့သည် တိုးပွား၍ လာလိမ့်မည်၊

အပြစ်တို့

၇။

ချိုသာကြင်နာသော စကားသည် ဤဘဝ၌ မှန်ကန်ခြင်းကို တမလွန်၌ ကုသိုလ် အကျိုးပေး ထွန်းကားစေ၏။

ဖြစ်စေ၍ နောင်              ၈။

ချိုသာသော စကားသည် ကိုယ်ကျိုး ရည်ရွယ်ချက် မပါသည့်ဖြင့်
၎င်း၊ နောင်တမလွန်၌၎င်း ကြည်ရွှင်မှုကို ဖြစ်စေ၏။

ဤဘဝ၌              ၉။

ချိုသာသော စကား၏ ကြည်ရွှင်စေတတ်ခြင်းကို သိရှိသူသည် အဘယ့်ကြောင့်
ကြမ်းတမ်းသော စကားကို သုံးပါမည်နည်း။

၁၀။ သဘောကြိုက်ညီနိုင်သော အချိန်၌ သဘော မကြိုက်ညီဘွယ်သော စကားကို
ဆိုခြင်းသည် မှည့်သော အသီးကို ရနိုင်ပါလျက် မမှည့်သော အသီးကို တမင်
စားသုံးခြင်းနှင့် တူ၏တည်း။



သိရုကုရယ်ယ်

**အခန်း (၁၁)**
ကျေးဇူးသိတတ်ခြင်း။

၁။ ကျေးဇူး တရားတို့ မထွန်းကားသော အရပ်၌

ကျေးဇူးတခု ပြုရခြင်း၏ အကျိုး

ပေးသည် ကောင်းကင် မိုးမြေတို့ အမျှထက်ပင်

ကြီးပါသေး၏။

၂။ သေးငယ်သော အမှုကို ပြုရသည် ဖြစ်စေ၊

လိုအပ်နေစဉ် ကူညီရခြင်းသည်

တန်ဘိုးအားဖြင့် ဤကမ္ဘာကြီးထက် ကြီးမားပေသေး၏။

၃။ ကျေးဇူး အတုံ့အပြန်ကို မမြော်ကိုးဘဲ ပြုသော အမှု၏

တန်ဘိုးသည် သမုဒ္ဒရာ

ကြီးထက်ပင် ကြီးမားပေသေး၏။

၄။

မိမိ ပြုလိုက်သော ကျေးဇူးသည် နှမ်းစေ့မျှသာ ရှိပါမူလည်း ကျေးဇူး သိတတ်

သောသူ အတွက်ကား ထန်းပင်ကြီးတမျှ ကြီးမားသည် ထင်ပေလိမ့်မည်။

၅။

ကျေးဇူးတရားတို့၏ အတိုင်းအတာသည် ထိုကျေးဇူးတရား၏ ပမာဏ ပေါ်တွင်

မဟုတ်။ ၎င်းကို ခံယူရရှိသူ၏ တန်ဘိုးသည်သာလျှင် အတိုင်းအတာ ဖြစ်၏။

၆။ အပြစ်မဲ့သူတို့၏ ကောင်းကျိုးဆောင်မှုကိုလည်း

မမေ့ရာ။ မိမိဒုက္ခရောက်စဉ်

ကူညီခဲ့သူတို့အားလည်း စွန့်ပစ်၍ မထားရာပေ။

၇။

ပညာရှိတို့သည် ဘ၀ ခုနစ်ထွေကို အဆက်ဆက် ကျင်လည်ရသည်ပင်ဖြစ်စေ၊ တကြိမ်က မိမိတို့၏မျက်ရည်ကို သုတ်ပေးခဲ့သူတို့အား မေ့လျော့မည်မဟုတ်ပေ။

၈။

ကျေးဇူးတရားကို မေ့လျော့ခြင်းသည် မကောင်း၊ မိမိခံစားရသည်ကို မိမိအား နာကျင်အောင် ထိခိုက်စဉ်ခဏ၌ပင်လျှင် မေ့ပျောက် နိုင်ပါက ကောင်းမြတ်

လှ၏။

၉။

တစုံတဦးက ပြုသောအမှုသည် လူ့သက်မှုတမျှပင် ကြီးလေးစေကာမူ၊ ယခင်က ပြုဘူးသော ကျေးဇူးကို အမှတ်ရပါက မေ့ပျောက်နိုင်၏။

၁၀။

အခြား တပါးသော ကောင်းမြတ်မှုတို့ကို ကျူးလွန် ဖျက်ဆီး ခဲ့သူမှာ ပြေပျောက် လွတ်ကင်းနိုင်စရာ ရှိ၏။ ကျေးဇူးတရား တခုကို ထိန်မြှုးခဲ့သူ အတွက်ကား ပြေပျောက် လွတ်ကင်းဖွယ်ရာ မရှိပါပေ။

၁၁

# သီရုကုရယ်လ်

## အခန်း (၁၂)

## မျှတခြင်း။

၁။

လူမျိုး သုံးပါးတို့အား မျှတစွာ ဆက်ဆံနိုင်ခြင်း အမှုသည် ထူး ဝိသေသ တရပ် ဖြစ်ပေသည်။

ထူးခြားသော ဂုဏ် ၊

၂။

မျှတ ဖြောင့်မှန်စွာ ကျင့်သုံး တတ်သူတို့၏ အကျိုးစီးပွားသည် ပျက်ပြားသည် ဟူ၍မရှိ။ သားစဉ် မြေးဆက် မွေ့လျော် ခံစားနိုင်ပေလိမ့်မည်။

၃။

မိမိအား အကျိုးကျေးဇူး ဖြစ်စေမည့် ကိစ္စတခုကို ပင်လျှင် ထိုကိစ္စသည် ကင်းပါက လက်ဝယ် ရောက်လာသည် ဖြစ်စေ၊ စွန့်လွှတ်ရာ၏။

မျှတမှု

၄။ လူပြောင့်ကိုဖြင်း၊ လူလိမ်ကိုဖြင်း၊ ထိုသူတို့၏
• ပင် အကဲ ဖြတ်နိုင်၏။

စဉ်ဆက် သားမြေးတို့ကို ကြည့်၍

၅။ အရှုံး အမြတ် ဟူသည်တို့မှာ အကြောင်းတရား ကင်းမဲ့စွာ ပေါ်ပေါက်လာကြသည် မဟုတ်ပေ၊ ပညာရှိတို့၏ အရည် အသွေးကား အရှုံး၌ဖြစ်စေ၊အမြတ်၌ဖြစ်စေ မကွဲပြားတဲ့ မျှတမှုကို ထိန်းသိမ်းတတ်ခြင်း ဖြစ်ပေသည်။

၆။

အကြင်သူသည် မျှတခြင်းမှ ဖဲကြဉ်၍ ဆောင်ရွက်သည်ဖြစ်အံ့။ ထိုသူ၌ 'ငါသည် ပျက်စီးလတံ့' ဟူသောထင်မြင်ခြင်းကို ရစေရာသည်။

၇။

ကြီးမြတ်သော လူတို့သည် မျှတမှုကို အရေးထားသော သူတို့အား ဟု ထင်မြင်ခြင်း ရှိလိမ့်မည် မဟုတ်ပေ။

ဆင်းရဲသည်

၈။ ပညာရှိတို့၏ ပစ္စည်းကား မိမိ၏ စိတ်ထားကို မယိမ်းမယိုင်သတောဖြင့် ချိန်ခွင် ညှာ ညီသကဲ့သို့ ရှိစေခြင်းသာတည်း။

၉။ လိမ်လည် လှည့်ဖျားခြင်း ကင်းသော စကားတို့သည် အတွင်း သတောမှုက အစဥ် မဖြောင့်မတ်မှု ကင်းပါမှ မှန်ကန်ခြင်း ဖြစ်ပေသည်။

၁၀။ ကုန်သည်တို့၏ မှန်ကန်သော ပစ္စည်းကား တပါးသူ၏ ဥစ္စာကို မိမိ ဥစ္စာကဲ့သို့ စောင့်ရှောက်ခြင်းပင် ဖြစ်သည်။



သိရုကုရယ်လ်

**အခန်း (၁၃)**

ကိုယ်ကို ထိန်းချုပ်ခြင်း။

၁။ မိမိကိုယ်ကို ထိန်းသိမ်းနိုင်ခြင်းသည် လူတယောက်အား ဘုရားရှင်တို့ အလယ် သို့ ပို့ဆောင်နိုင်၏။ မိမိကိုယ်ကို ထိန်းသိမ်းရန် လိုအပ်နေလျှင်ကား ထိုသူအား အမိုက်မှောင်ဆုံး ဖြစ်သော ငရဲသို့ ပို့ဆောင်နိုင်ပေသည်။

၂ ။

ကိုယ်ကို ထိန်းချုပ်နိုင်ခြင်း အမှုအား ရတနာ တပါးကဲ့သို့ စောင့်ရှောက်ပါလေ၊ ထို့ထက် ကြီးမားသော ကောင်းမှုကား လူတို့တွင်မရှိတော့ပြီ ဖြစ်၏။

၃။ အကြင် သူသည် ကိုယ်ကို ထိန်းချုပ်ခြင်းအား ပြုအပ်သည်ဟူ၍ သိ၏၊ ပြုလည်း ပြုကျင့်၏။ ထိုသို့ ပြုခြင်းကြောင့် ပညာရှိတို့ သိစေပြီးလျှင် ထူးခြားသော ဂုဏ်ထူးကို ဆောင်ပေသည်။

၄။ အကြင်သူသည် မိမိ၏ စောင့်ထိန်းအပ်သော အမှုကို မယိမ်းမယိုင် ပြုကျင့်အံ့။ ထိုသူသည် တောင်ကြီးထက်ပင် မိုးမောက် မြင့်မားပေ၏။

၅။ စိတ်ထား နှိမ့်ချခြင်းသည် လူအားလုံးအတွက် သင့်မြတ်လှ၏။ သို့သော် ချမ်းသာ သူတို့ အတွက်ကား စိတ်ထား နှိမ့်ချခြင်းသည် သာလွန်သော ဂုဏ်တပါးပင် ဖြစ်ချေသည်။

၆။ အကြင် သူသည် တဘဝတွင် အာရုံငါးပါးကို လိပ်ကဲ့သို့ ယက်၍ (အတွင်းသို့) ထိန်းသိမ်းနိုင်သည် ဖြစ်အံ့၊ ထိုကောင်းမှုသည် ဘဝ ခုနစ်ဆက်တိုင် ကြည်ရွှင်ခြင်းကို ဖြစ်စေ ပေလိမ့်မည်။

၇။ အခြားတပါးသော အင်္ဂါအစိပ်အပိုင်း များကို မထိန်းသိမ်း ပါမူလည်း လျှာကိုကား ထိန်းသိမ်းပါလေ၊ လျှာကိုမထိန်းသိမ်းနိုင်လျှင် မကောင်းသော စကားကို ဆိုမိသဖြင့် ဝမ်းနည်းကြေကွဲဘွယ် ဖြစ်ရတတ်၏။

၈။ မကောင်းသော စကားတခွန်းကို ဆိုမိရုံဖြင့် ကောင်းမှုသည် မကောင်းမှု ဖြစ်နိုင်၏။

၉။ မီးလောင်၍ ဖြစ်သော အနာသည်
အနာတား မကျက်နိုင်တော့ပေ။

ကျက်နိုင်၏။ နှုတ်လျှာ သင့်၍ ဖြစ်သော ၁၀။

ဒေါသကို တားဆီးနိုင်၍ ထိန်းချုပ်မှုတွင် အောင်မြင်သောသူ
တော်တည့် မှန်ကန်ခြင်း တရားသည် ဆိုက်ရောက်လာရပေမည်။

အိမ်တံခါးသို့

၁၃

# သိရကုရယ်လ်

အခန်း (၁၄)

မှန်ကန်သောအကျင့်။

၁။

အကျင့်တရား ကောင်းခြင်းသည် ထူးကဲသာလွန်ရန် လမ်းစဖြစ်၏၊ ကိုယ်ကျင့်တရားကို အသက်ထက်ပင် မြတ်နိုး စောင့်ရှောက်ရာ၏၊

ထိုကြောင့်

၂။ ကိုယ်ကျင့်တရားကို ကြိုးကုပ်စွာ စောင့်ရှောက် ပါလော့။ ယင်းကို သိရှိ၍ ကျင့်ကြံ အားထုတ်ခြင်းသည် မည်သည့် အရာနှင့်မျှ မတူသော အကူအညီ တရပ် ဖြစ်ပေသည်။

၃။ ကိုယ်ကျင့်တရားကောင်းခြင်းသည် ဘဝ၏အမှန်တကယ်ကြီးမြင့်မှုဖြစ်၏။ ကိုယ်ကျင့်တရား မကောင်းခြင်းသည် မကောင်းသော ဘဝတွင် နစ်မွန်း စေနိုင်၏။

၄။ ဗြဟ္မဏပင် ဖြစ်၍ ဗေဒကျမ်းများကို မေ့လျော့သွားသော် ပြန်၍ ဖတ်ရှု လေ့လာနိုင်၏။ ထို ဗြဟ္မဏ၌ ကိုယ်ကျင့်တရား ပျက်ပြားသွားလျှင်ကား သူ၏ မွန်မြတ်သော ဘဝသည်ပင် အဖတ်ဆည်ရန် မတတ်နိုင်တော့ပေ။

၅။ မြို့စူ စောင်းမြောင်း တတ်သူ၌ ဥစ္စာပစ္စည်း ကင်းသကဲ့သို့ ကိုယ်ကျင့်တရား မရှိသော သူ၌ ကြီးမြင့် ထင်ရှားခြင်း ကင်း၏။

၆။ စိတ်ဓာတ် ခိုင်ကျည်သော သူတို့၌ ကိုယ်ကျင့်တရား မပျက်ယွင်းနိုင်၊ အဘယ့်ကြောင့် ဆိုသော်၊ ဤသို့ ပျက်ယွင်းလျှင် ကျရောက်သော ဘေးဒုက္ခတို့ကို သိထားသော ကြောင့်တည်း။

၇။ ကိုယ်ကျင့်တရား ရှိခြင်းကြောင့် ကြီးမြင့်မှုကို ရရှိ၏၊ ကိုယ်ကျင့်တရား မရှိခြင်းကြောင့် မခံသာအောင် ဂုဏ်ဒြပ် ပျက်ပြားခြင်းကို ရရှိ၏၊

၈။ ကိုယ်ကျင့်တရား ကောင်းခြင်းသည် တော်တည့် မှန်ကန် ခြင်း၏ မျိုးစေ့ဖြစ်၏၊ ကိုယ်ကျင့် မကောင်းခြင်းသည် ဝမ်းနည်း ကြေကွဲဘွယ်၏ အကြောင်းဖြစ်၏၊

၉။ ကိုယ်ကျင့် တရားကို ကောင်းအောင် ပြုသူတို့သည် မကောင်းဟူသော စကားကို မေ့လျော့ယောင်မှား၍ မျှပင် မဆိုကြလေ၊

၁၀။ များစွာသော ကိစ္စတွင် သိရှိကျွမ်းကျင်ကြကုန် သော်လည်း လောကီနှင့်အညီ ကျင့်ကြံဆောင်ရွက်နည်းကို မသိသေးသော သူတို့မှာ အသိပညာ ခေများသာ ဖြစ်ပေသေးသည်၊

## သိဂုကုရယ်လ်

**အခန်း (၁၅)** တပါးသူ၏

၁။

ကာမပိုင်ကို မလွန်ကျူးခြင်း။

တပါးသူ၏ ကာမပိုင်ဖြစ်သော မိန်းမကို မိုက်မှားစွာ နှစ်လိုခြင်း သဘောသည် တော်မှန်မှုကို သိရှိသော သူနှင့် ပစ္စည်းဥစ္စာ ပိုင်ဆိုင်ခွင့်ကို သိရှိသော သူတို့၌ မတွေ့ရလေ။

၂။

မတော်မှန်မှု၏ ပြင်ပ၌ နေသူတို့အနက် တပါးသူ၏ အိမ်တံခါးဝတွင် နေသူတို့ကား အမိုက်ဆုံးသော သတ္တဝါများ ဖြစ်ကြသည်။

ခြေချ၍

၃။ ထိုသူတို့၌ မိမိအား ယုံမှတ်သော မိတ်ဆွေ၏ ဇနီးအား မကောင်းမှုကို ဖြစ်စေလိုသူများ ဖြစ်သောကြောင့် သေဒဏ်းတမန်များနှင့် မထူး အတူတူပင် ဖြစ်ကြလေ၏။

၄ ။

မည်မျှပင် ကြီးမြတ်သောသူ ဖြစ်စေ၊ တပါးသူ၏ အိမ်ယာကို ကျူးလွန်မိသောပြစ်မှုကို မချင့်တွက်ဘဲ ပြုမှားပါက အချီးနှိမ်ပင်ဖြစ်တော့သည်။

၅ ။

အကြင်သူသည် တပါးသော ပုဂ္ဂိုလ်၏ အိမ်ယာကို လွယ်လွယ်နှင့် ပြုမိမှားပါက မိမိရရှိမည့် အပြစ်သည် ကမ္ဘာပတ်လုံး မဆုံးဘဲ ကပ်ငြိ၍ နေလိမ့်မည်။

၆။ တပါးသူ၏ အိမ်ယာကို ကျူးလွန်မိသော သူတို့၌ မုန်းတီးခြင်း၊ ဒုစရိုက်မှု၊ ကြောက်ရွံ့ခြင်း၊ လူလုံးမလှခြင်း တည်းဟူသော အပြစ် လေးမျိုးတို့သည် ဖယ်ခွါ၍ မရနိုင်တော့ပေ။

၇။ အကြင်သူသည် တပါးသူ၏ ဇနီးမယား ဖျားရှိ၍ တပ်ငြိမြင်း မရှိဘဲ၊ လမ်းမှန် အတိုင်း လုပ်ကိုင် ဆောင်ရွက် နိုင်ပါက၊ ထိုသူသည် တော်တည့် မှန်ကန်သော ပုဂ္ဂိုလ်ဟု ချီးမွမ်းထိုက်ပေသည်။

၈။ တပါးသူ၏ ဇနီးအား စောင်းငဲ့၍မှ မကြည့် တတ်သော ပုဂ္ဂိုလ်သည် မြင့် မြတ်သော ယောက်ျားဖြစ်၍ ကြီးမြတ်သော ပုဂ္ဂိုလ်တို့၏ ဂုဏ်နှင့် ပြည့်စုံသူ ဖြစ်သည်။

၉။ "ကြောက်မက်ဖွယ်သော ဒုက္ခတို့ ပင်လယ် ဝေနေသည့် ဤလောကတွင် ကောင်းမှုကို ရရှိနိုင်သူကား အဘယ်သူနည်း" ဟု အမေးစကားရှိ၏။ ထိုသူမျိုးကား အခြားမဟုတ်၊ တပါးသူ၏ ဇနီးကို လက်ဖျားနှင့်မျှ မတို့ သူပင်တည်း။

၁၀။

အကြင်သူသည် ကောင်းမှု ကင်းကွာလျက် မကောင်းမှုတို့ကိုသာ ပြုနေသည် ဖြစ်အံ့၊ ထိုသူပင်လည်း တပါးသူ၏အိမ်ယာကို မကျူးလွန်က တော်ပေသေး၏။



# သိရုကုရယ်လ်

သည်းခံခြင်း။

အခန်း (၁၆)

၁။ မြေကြီးသည် မိမိအား တူးဆွသော သူတို့အားပင် သည်းခံခြင်းဖြင့် ခွင့်ပြု ထားသေး၏၊ ထို့ကြောင့် ကျွန်ုပ်တို့သည်လည်း ကဲ့ရဲ့ ပြစ်တင် လာသောသူ တို့အား သည်းခံရာ၏။ ၎င်းသည် ပထမတန်း ဂုဏ်အချင်း အရာ ဖြစ်ပေသည်။

၂။ မိမိက တုံ့ပြန်နိုင်သည့် ဖြစ်စေကာမူလည်း၊ မိမိအား ကဲ့ရဲ့ ပြစ်တင်လာသူ၊ တို့အား သည်းခံရာ၏။ ထို့ထက် ထိုကိစ္စကို မေ့ပျောက်ပစ်နိုင်ပါမူ အကောင်းဆုံး ဖြစ်ပေ၏။

၃။ သဒ္ဓါကြည်ဖြူမှုကို ပယ်ရှားခြင်းကား ဆင်းရဲတကာတို့ထက် ဆင်းရဲခြင်းဖြစ်၏ မသိနားမလည် သူတို့ကို ခွင့်လွှတ်ခြင်းကား ခွန်အားကြီးခြင်း တကာတို့ထက် ကြီးခြင်း ဖြစ်သည်။

၄ မိမိကိုယ်တွင် ကြီးမြင့်ခြင်းကို တည်ရှိလိုငြားအံ့၊ မိမိ၏ အမှု အကျင့် တို့တွင် သည်းခံခြင်းကို ပါရှိ နေစေရာ၏။

၅။ ပညာရှိတို့သည် ရန်ခံတတ်သောသူတို့အား တန်ဖိုးမထားတတ်ကြပေ၊ သို့သော်၊ သည်းခံတတ်သော သူတို့အားမူ ရွှေကဲ့သို့ အမြတ်တနိုး ပြုကြမည်ဖြစ်သည်။

၆။ ရန်ခံတတ်သော သူ၏ ကျေနပ် တင်းတိမ် မှုကား တရက်သာ ခံ၏၊ သည်းခံ၍ သဘောထားကြီးသောသူအား ချီးမွမ်းခြင်းမူကား ကမ္ဘာအရှည် တည်မြဲမည် ဖြစ်သည်။

၇။ ရန်လိုသူတို့သည် မိမိအား နာကျင်အောင် ပြုကြပါစေ၊ ထိုသို့ ပြုသော အမှုဖြင့် မိမိတို့ဘာသာ ကြေကွဲခြင်း ဖြစ်ရလိမ့်မည်သာ၊ ကိုယ်က မူကား ဂုဏ်သိက္ခာ ပျက်ပြားစေမှုကို မပြုခြင်းသည် အကောင်းဆုံး ဖြစ်ပေသည်။

၈။ သည်းခံတတ်သောသူသည်၊ ရန်လို၍ အလွန်အကျူးပြုတတ်သူတို့အား သည်းခံ ခြင်း အမှုဖြင့် အောင်နိုင် စေရာ၏။

၉။ စော်ကားမော်ကား ပြုသူတို့၏ ကြမ်းတမ်းစွာ ရေရွတ်သောစကားကို ခံနိုင်စွမ်း သူတို့သည် ရသေ့ရဟန်း တို့ထက်ပင် စင်ကြယ်ပေသေး၏။

၁၀။ အစာမစားဘဲ တရားကျင့်နိုင်သူတို့သည် မြတ်လှပါ၏။ သို့သော် တပါးသူတို့၏ မရည်မွန်သော စကားဆိုရေးကို သည်းခံသူတို့မှာ ထိုထက်မြတ်ပေသည်။

သိရုကုရယ်လ်

# အခန်း (၁၇)

## ဝန်တိုမှုကင်းခြင်း။

၁။

ဝန်တိုမှု ကင်းခြင်းကို ကိုယ်ကျင့်တရား ကောင်းခြင်းနှင့် မြတ် ပြုတတ်ပါစေလော့။

၂။

အလားတူ အလေးအ ... ထူးကဲခြင်း တကာတို့တွင် ထူးကဲမှုသည် မရှိပါလေ။

လူတိုင်းအား ဝန်တိုမှု ကင်းခြင်းနှင့် ညီတူသော

၃။ အကြင်သူသည် တပါးသူ၏ ချမ်းသာ ကြွယ်ဝမှုကို အားရ ဝမ်းသာ မရှိပါဘဲ လျက် မလို ဝန်တိုခြင်းသာ ဖြစ်ပေါ်ငြားအံ့။ ထိုသူအား "ဂုဏ်ထူးကိုရင်း၊ ဥစ္စာစီးပွားကိုရင်း၊ လိုသောသူ မဟုတ်"ဟု ဆိုရပေမည်။

၄။ အမြော်အမြင် ရှိသော သူသည် လွန်လွန် ကျူးကျူး အပြစ် ပြုခြင်းမှ ရအပ်သော ကြေကွဲဖွယ်ရလဒ်ကို သိရှိသောကြောင့် မနာလို ဝန်တိုမှုဖြင့် မကောင်းမှု ကျူးလွန်ခြင်း မရှိပေ။

၅။

မနာလိုဝန်တိုမှုကို အမြတ်တနိုး ပြုသောသူမှာ မိမိ၏ ရန်ဖက်က ခွင့်လွှတ်ငြားသော်လည်း မိမိ၏ စိတ်ထားက ပျက်စီးခြင်းသို့ ပို့ဆောင် ပေးလိမ့်မည်။

၆။ အကြင် သူသည် တပါးသူအား ပေးကမ်းသည်ကို မရှုစိမ့်နိုင်သည် ဖြစ်အံ့။ တနေ့တွင် မိမိ၏ ဆွေမျိုးသားချင်းများနှင့် မိမိ၏ အဝတ်အစားများပါ ပျက်စီး ဆုံးပါးခြင်းနှင့် ကြုံကြိုက် ရမည်တည်း။

၇။

ဝန်တိုတတ်သော သူအား လက်ရှမီနတ်သမီးပင် မစောင့်ရှောက်နိုင် တော့သည် ဖြစ်၍ မိမိ၏အစ်မတော်( မူဒေဝီ )နတ်သမီးအား လွှဲပြောင်းပေးရလိမ့်မည်။

၈။

အကုသိုလ် ပြုသူ၏ ဝန်တိုမှုသည် ဤဘဝတွင် မိမိ၏စည်းစိမ်ကို စေ၍ နောင်ဘဝတွင် ငရဲသို့ ကျရောက် စေလိမ့်မည်။

ပျက်ပြား ၉။ ဝန်တို တတ်သူ၏ ကြွယ်ဝခြင်းနှင့် နှိုင်းယှဉ်တွေးဆ ကြည့်သင့်၏။

ဖြောင့်မှန် တတ်သူ၏ ဆင်းရဲ ခြင်းတို့ကို

၁၀။ ဝန်တိုတတ်သူသည် မည်သည့် အခါမှ ကြီးမြင့်ခြင်းမရှိ။ ဝန်တိုခြင်း ကင်းသူသည် မည်သည့်အခါမှ ကြီးမြင့်ခြင်းနှင့် ကင်းသည် မရှိပေ။



# သိရုကုရယ်လ်

## အခန်း (၁၈)

## လောဘရမက် မကြီးခြင်း။

၁။

အကြင်သူသည် မျှတမှု ကင်းမဲ့လျက် တပါးသူပိုင် ဥစ္စာကို တပ်မက်မိသည်၏ ဓဏ္ဍ မိမိ၏ မိသားစုတို့သည် ပျက်စီး၍ အပြစ်ရောက်ရ၏။

၂။

မျှာခြင်းကို လိုလားသောသူတို့သည် အလိုရမက်မကြီးကြပေ။ ညှံ့သော အမှုမျိုးကိုလည်း မပြုလုပ်ကြပေ။

ဤနှယ် ယုတ် ၃။

တကယ်မြတ်သော ပျော်ရွှင် ချမ်းသာကို အလိုရှိသူတို့သည် ဤဘဝ၏ အသေး အဖွဲ့မျှသော ပျော်ရွှင် ချမ်းသာမျိုးကို ရရှိရန် မတရား မပြုလုပ်ကြပေ။

၄။ မိမိတို့၏ အာရုံကို ထိန်းသိမ်းနိုင်ပြီး၍ မကောင်းမှုတို့မှ ကင်းရှင်းသော ပညာရှိ တို့သည် တပါးသူတို့၏ ဥစ္စာကို တပ်မက်ခြင်း မဖြစ်ကြပေ။ငါတို့တွင် ခိုကိုးရာမဲ့ ဖြစ်နေပါသည်ဟုလည်း မပြောကြပေ။

၅။ အကြင်ပုဂ္ဂိုလ်တဦးသည် ကျယ်ပြန့်၍ တိကျသော ပညာတို့ကို တင်ပြောက် စေပါမူလည်း လောဘ၏ စေစားရာသို့ လိုက်၍ မည်သည့် အရာကိုမဆို အဆင် ခြင်မရှိ မက်မောနေပါက အဘယ်သို့ အကျိုးထူးအံ့နည်း။

၆။ အကြင်ပုဂ္ဂိုလ်သည် ဘုရားရှင်၏အလိုကို ဖြည့်၍ လမ်းစဉ်အတိုင်း လိုက်နေရပါ သော်လည်း လောဘရမက် ကြီးမြဲ ကြီးလျက် မကောင်းသော နည်းနာများကို တွေးတောနေဆဲဖြစ်နေလျှင် ပျက်စီးရမည်သာတည်း။

၇။ လောဘရမက်ကို အချောပြု၍ ရရှိမည့် အကျိုးကို အလိုမရှိပါနှင့်။ လောဘ၏ အသီး အပွင့်ကို စားသုံးရခြင်းသည် ထယ်ဝါမှု မရှိပါလေ။

၈။ စီးပွားဥစ္စာတို့၏ မပျက်မစီးနိုင်ရာသော အကြောင်းကား အဘယ်နည်းဟု အကယ်၍ မေးမြန်းအံ့၊ အဖြေကား တပါးသူတို့၏ ပစ္စည်းကို အလိုရမက်မကြီးခြင်း ဖြစ်လေသည်။

၉။ လက်ရှမီနတ်သမီးသည် တပါးသူတို့၏ ပစ္စည်းကို လိုချင်လောဘမရှိသော သူ၏ တော်တည့် မှန်ကန်မှုကြောင့် ထိုသူထံ လာရောက်၍ မဆိုင်းမတွ အကူအညီ ပေးရာ၏။

၁၀။ အကျိုး အပြစ်ကို မမြော်ဘဲ သူတပါး၏ ပစ္စည်းကို လိုချင်တပ်မက်သော သူတို့အား ပျက်စီးခြင်းသည် ရောက်ရှိလိမ့်မည်။ လိုချင်လောဘကင်းသော စိတ်ထားရှိသူမှာမူကား အောင်မြင်ခြင်းကို ရရှိလိမ့်မည်။

၁၉

## အခန်း (၁၉) ၇

### ။ပချောတပ်ကြောင်း။

၁။ အကြင်သူသည် တော်တည့် မှန်ကန်မှု အကြောင်းများကို မပြောဘဲလျက် ဒုစရိုက်မှုများတွင် ကျင်လည်၍ မနေစေကာမူလည်း၊ ထိုသူအား "ဤသူကား ဂုံးမချောသူတည်း" ဟူ၍ အပြောခံရမှု ကောင်းမြတ်၏။

၂။ တစုံတဦး၏ ရှေ့မှောက်၌ သူ့အား ပြုံးရွှင်စွာ ဆက်ဆံ၍ ကွယ်ရာတွင် သူ၏ ပျက်စီးရာ ပျက်စီးကြောင်းကို ပြောခြင်းမှာမူကား ဒုစရိုက်မှု တကာတွင်၎င်း၊ ကိုယ်ကျင့် ပျက်စီးခြင်းတို့တွင်၎င်း အကြီးဆုံးဖြစ်၏။

၃။ လိမ်လည်လှည့်ဖြား၍ ဂုံးချောနေရခြင်းထက် သေရသည်က မြတ်၏။ အဘယ့်ကြောင့်ဆိုသော် သေရခြင်းတွင် ဂုဏ်ရှိသေးသောကြောင့် ဖြစ်၏။

၄။ တပါးသူတဦး၏ ရှေ့တည့်တည့်မှ မညှာမတာ ပြောတတ်စေကာမူလည်း ထိုသူ၏ နောက်ကွယ်တွင် အပြစ်ကို မဆင်ခြင်ဘဲ မပြောလေနှင့်။

၅။ တော်တည့် မှန်ကန်မှုများကိုသာ ဂုဏ်တင်၍ နှုတ်က ပြောနေတတ်သူ၏ အနှစ်မပါ ဗလာသဘောကို တပါးသူ၏ အကြောင်းအား ကွယ်ရာတွင် ပြောဆိုနေကာမှ သိရလိမ့်မည်။

၆ ။

တပါးသူ၏ မကောင်း သတင်းကို လွှင့်နေသူအား ထိုသူ၏ ကိုယ်ကျင့် တရားကိုလည်း စုံစမ်း၍ မကောင်းသတင်း အလွှင့်ခံရတတ်လေသည်။

၇။

ဂုံးစကားဆိုရ၍ ပျော်ရွှင်ရယ်မောနေသူတို့သည် မိတ်ဆွေဖွဲ့ခြင်း အမှုကို မပြုတတ်ကြသောကြောင့် မကြာမီ မိတ်ဟောင်းများ၏ ဖယ်ကြဉ်ခြင်းကိုလည်း ခံရတတ်၏။

၈ ။

မိတ်ဆွေရင်းများ၏ အကြောင်းကို စကားတင်းဆိုမြဲဖြစ်သောသူတို့သည် တစိမ်းတရံဆန်တို့အကြောင်းကိုမူကား အဘယ်သို့ ပြောပါလိမ့်မည်နည်း။

၉။

ဤကမ္ဘာကြီးသည် သူကောင်းများ၏ ကောင်းမှုဖြင့် မကောင်းစကား ပြောတတ်သူတို့၏ အလေးချိန်ကိုပါ ထမ်းရွက်ထားရလေသည်။

၁၀။ လူတို့သည် အခြားသူအား အပြစ်မြင်တတ်ကြသကဲ့သို့ မိမိတို့အပြစ်ကို မြင်တတ်ပါက ဂုံးချောမှုဟူသော ဒုစရိုက်မျိုးပေါ်ပေါက်ရန် ရှိပါသေးသလော။



# သိရုကုရယ်လ်

## အခန်း (၂၀)

## စကားဖျင်း မပြောအပ်ခြင်း။

၁။ အကြင်သူသည် တပါးသူတို့ မနှစ်သက်သော စကားဖျင်းတို့ကို ပြောခြင်းဖြင့်

လူအားလုံး၏ ဝိုင်းပယ်ခြင်းကို ခံရတတ်၏။

၂။ လူအများ၏ ရှေ့၌ စကားဖျင်းကို ပြောဆိုခြင်းသည်

မိတ်ဆွေများအား မညှာ
မတာပြုခြင်းထက် ဆိုး၀ါး၏။

၃ ။

အကြင်သူသည် စကားဖျင်း များစွာကို ပြောဆိုနေပါက ထိုသူ၌ လိုအပ်နေကြောင်းကို အများက ဆိုကြလိမ့်မည်။

ဂုဏ်သိက္ခာ

၄။ ပရိသတ်ဗိုလ်ပုံ အလယ်၌ သိမ်ဖျင်းသော စကားတို့ကို ပြောဆိုသူသည် အကျိုး ထူး မရသည့်ပြင် ကောင်းမှုဟူသမျှ မိမိထံမှ ရှောင်ရှားသွားလိမ့်မည်ဖြစ်၏။

၅။ ဂုဏ်သိက္ခာ ရှိပြီးဖြစ်သော ပုဂ္ဂိုလ်ပင်လျှင် သိမ်ဖျင်းသော စကားတို့ကို ပြောဆို

ပါက ဂုဏ်အင်နိမ့်လျော့သွားတတ်၏။

၆။ သိမ်ဖျင်းသော စကားကို ပြောသူတို့အား လူဟု မခေါ်ပါနှင့်၊ လူ့ အနှစ်ဟု ခေါ်

ပါလော့။

၇။ အကြောင်း ထူးခြားခြင်း မရှိသည့် စကားကို ပြောလိုက ပြောပါလော့။ ပညာရှိတို့မှုကား အကျိုး မပြီးသည့် စကားကို မပြောခြင်းက သင့်မြတ်ပေ၏။

၈။ ကြီးမားသော အကျိုးကို မြှော်မြင်တတ်သော ပုဂ္ဂိုလ်တို့သည် အကျိုးမပြီးသည့် စကားကို မပြောကြပေ။

၉။ အပြစ်ကင်း၍ ပညာနှင့် မှုမရှိသော ပညာရှိတို့သည် ကို မေ့လျော့၍မျှပင် မဆိုကြပေ။

အကျိုး မရှိသော စကား

၁၀။ စကားတစုံတရာ ပြောရမည်ဆိုသော် အကျိုးရှိသည့် စကားကိုသာ ဆိုပါလော့။ အကျိုးမရှိသည့် စကားများကိုကား မပြောပါလင့်။



သိရကုရယ်လ်

အခန်း (၂၁)

၁။

ဒုစရိုက်ကို ကြောက်ခြင်း။

ဆိုးသွမ်း သူတို့သည် ဒုစရိုက်ကို မကြောက်ကြပေ။
ဒုစရိုက်ကို ကြောက်ကြပေသည်။

တော်ဖြောင့်သူတို့ကား ၂။

မကောင်းဆိုးဝါး မှုသည် မကောင်းမှုကို ပွားများစေသည့်
ကို မီးထက်ပင် ကြောက်သင့်ပေသည်။

အားလျော်စွာ ၎င်း
၃။ ရန်သူကိုပင် မကောင်းသောအမှုကို
ခေါ်နိုင်ပေသည်။

မပြုပါက ဂုဏ် တကာတို့၏ ထိပ်ခေါင်ဟု

၄။ မေ့လျော့ ပေါ့တန်စွာဖြင့်ဖြစ်ဖစ တပါးသူ၏ ပျက်စီးကြောင်းကို အားမထုတ်ပါလင့်။ ဤသို့ အားထုတ်သူကို ဖြန်ကန်ခြင်းတရားက ပျက်စီးအောင် တဖန်အားထုတ်မည်သာတည်း။

ငါသည် ဆင်းရဲပေ၏''ဟု ရေရွတ်လျက် မကောင်းမှုကို မကျူးလွန်ပါနှင့်၊ ဤသို့ ပြုပါက သင်သည် ပို၍ပင် ဆင်းရဲမွဲတေနိုင်ပေသည်။

၆။ ဆင်းရဲကြေကွဲမှု ဖိစီးခြင်း မခံလိုသူတို့သည်
ဖြင့် မကျူးလွန်စေရာပေ။
တပါးသူအားလည်း မကောင်းမှု

၇။ မည်သို့သော ရန်ငြိုး ရန်ဖွဲ့ ရှိစေကာမူလည်း လူတို့သည် အသက် ရှင်နိုင်၏။ ဒုစရိုက်ရန်ငြိုးဖွဲ့မိသည်ဆိုပါလျှင်ကား ၎င်းသည် နောက်မှ တကောက်ကောက် လိုက်လျက် သတ်ပေလိမ့်မည်။

၈။ ဒုစရိုက်ကြောင့် ဖြစ်သော အဖျက်တရားတို့သည်
ဖွယ် လိုက်၍ ဒုက္ခပေးနေမည်ဖြစ်သည်။

အကြင်သူသည် မိမိကိုယ်ကို ချစ်နှစ်သက်ငြားအံ့။
အပွဲဖြစ်သော မကောင်းမှုကိုမှ မပြုသင့်ပေ၊

ထိုသူသည် မည်မျှ အသေး

၁၀။ ပျက်စီးခြင်းတရားမှ ကင်းဝေးသူတို့သည် ဝုစရိုက်ကို မကျူးလွန်သူတို့သာ ဖြစ်ကြောင်းကို သိပါလေ့။ ထိုသူတို့သည် မှန်ကန်ခြင်း ဟူသော လမ်းကြောင်းမှ ဘယ်ညာတို့သို့ တိမ်းယိမ်းသည် မရှိပေ။



# သိရုကုရယ်လ်

## အခန်း (၂၂)

### ကောင်းမှုပြုခြင်း။

၁။ ကောင်းမှုကုသိုလ်ပြုခြင်းသည် အတုံ့အလှဲကို မြှော်ကိုးခြင်း မရှိပေ၊ မိုးကို ပေးသော မိုးတိမ်တို့အား ကမ္ဘာကြီးက မည်သည့် အတုံ့အပြန်များ ပေးဘူးပါသနည်း။

၂။ လူကောင်း သူကောင်းတို့၌ ကြိုးစား ပမ်းစားရှာ၍ ကောင်းမှု ကုသိုလ်ပြုရန် အတွက်သာ ဖြစ်ပေသည်။

ရအပ်သော ပစ္စည်းသည်

၃။ ကောင်းကင်တွင်ရင်း၊ ကမ္ဘာမြေပေါ်တွင်ရင်း၊ ညီမျှသော ကောင်းမှုကို မတွေ့နိုင်ပေ၊
ကောင်းမှုကုသိုလ် ပြုခြင်းနှင့်

၄။ ကောင်းမှုကုသိုလ် ပြုရန်ဝတ္တရားကို သိတတ်သော သူသည်သာလျှင် မှန်ကန်စွာ အသက်ရှင်ခြင်း ဖြစ်၏၊ ထိုသို့ပြုလုပ်ရန် မသိတတ်သော သူမှာမူကား သေသူနှင့် ထပ်တူပင် ဖြစ်တော့၏။

၅။

ပညာရှိ၍ ကောင်းမှုပြုလိုသည့် ဥစ္စာကြွယ်ဝသောသူ၌ ပြည့်စုံ ချမ်းသာခြင်းကား အရပ်ထဲတွင် သုံးစွဲရသော ရေကန်ကြီးတွင် ရေအပြည့် ရှိထားသည်နှင့်

တူပေသည်။

၆။ ကုသိုလ်ကောင်းမှု ပြုလိုစိတ်ရှိသော ပုဂ္ဂိုလ်၏ ချမ်းသာခြင်းကား အရပ်ထဲတွင် သီးမျိုး ဝေဆာလျက်ရှိသော အပင်ကြီး တပင် ရှိခြင်းနှင့် တူလေသည်။

၇။

ကောင်းမှုဖြင့် လှူဒါန်းပေးကမ်းလိုသော သူ၏ လက်တွင်း၌ ရှိသော ဥစ္စာသည် ရောဂါစိုးပျောက်သော ဆေးဘက်ဝင်လှသည့် သစ်ပင်နှင့် တူလေသည်။

၇။

တာဝန်ကို သိသော မြော်မြင်တတ်သူတို့သည် စီးပွားဥစ္စာပင် မကြွယ်ဝသော အခါ၌လည်း ကောင်းမှုကုသိုလ် ပြုလိုစိတ် ကုန်ခမ်းမည် မဟုတ်ပေ။

၉။ ကုသိုလ်ကောင်းမှု ပြုတတ်သောသူသည် မိမိအား ကူညီရန် လာရောက်တောင်းခံကြသော သူတို့အား မပေးကမ်း မစွန့်ကြဲ နိုင်သော အခါတွင် မိမိကိုယ်ကို ဆင်းရဲသည် ဟု စိတ်တွင် မြင်ရလေသည်။

၁၀။ ကောင်းမှု ပြုခြင်းကြောင့် ဆုံးရှုံးမည်ဆိုလျှင် ထိုဆုံးရှုံးမှုသည် မိမိကိုယ်ကို ရောင်း၍ပင် အရှုံးခံထိုက်သော ဆုံးရှုံးမှုမျိုးပင် ဖြစ်သည်။

။။

# အခန်း (၂၃)

## အလှူပေးခြင်း။

၁။

ခိုကိုးရာမဲ့ သူတို့အား ပေးကမ်းရခြင်းသည် အလှူအစစ်ဖြစ်၏။ အခြားသော နည်းဖြင့် ပေးကမ်းခြင်းတို့ကား ချေးငှားခြင်းမျှသာ ဖြစ်လေသည်။

၂။

တောင်းခံခြင်းသည် ကောင်းကင်ဘုံသို့ ရောက်ရှိရာ လမ်းကြောင်းဟူသည့်တိုင် မကောင်းမှု ဖြစ်၏။ ပေးကမ်းခြင်းသည် ကောင်းကင်ဘုံသို့ ရောက်ရှိရာ လမ်းကြောင်း မဟုတ်ဟူသည့်တိုင် ကောင်းမှုဖြစ်၏။

၃။ နှိမ့်ကျသော အခြေသို့ ရောက်နေစေကာမူလည်း တကိုယ်ကောင်း ဆန္ဒဖြင့် အကျွန်ုပ်တွင် တစုံတရာမရှိ၊ ဟူ၍မပြောခြင်းသည် မြင့်မြတ်သူတို့၏ လက္ခဏာ ဖြစ်၏။ ၉

၄။ လက်ခံ ရရှိသူတို့၏ ကြည်ရွှင်နှစ်သိမ့်ခြင်းကို မမြင်ရသေးသမျှ ပေးကမ်းရသူ၌ ပေးကမ်းရခြင်းကို စိတ်ပါ လက်ပါ မရှိသေးပေ။

ခြိုးခြံစွာ ကျင့်၍ ဆာလောင် မွတ်သိပ်ခြင်းကို ခံနိုင်ရည်ရှိသော သူတို့သည် ခွန်အားကြီးပါ၏။ သို့သော်တပါးသူတို့၏ ဆာလောင် မွတ်သိပ်ခြင်းကို ပယ်

ဖျောက်နိုင် သူတို့ကား ပို၍ ခွန်အား ကြီးမားလေသည်။

၆၊ သူဆင်းရဲတို့၏ မွတ်သိပ် ခြင်းကို ပယ်ရှား မှုသည် မိမိ၏ ဥစ္စာ ပစ္စည်းတို့ကို

(နောင်ရေးအတွက်) စုဆောင်းထားသော နည်းဖြစ်၏၊

၇။ တပါးသူတို့အား မိမိအစာကို ပေးကမ်းဝေငှမြဲ ဖြစ်သော သူတို့၌ ငတ်မွတ်

ဆင်းရဲ ခြင်းဘေးဆိုးသည် ဘယ်သောအခါမှ ကျရောက်လေ့ မရှိပေ။

၈။

မိမိတို့၏ ပစ္စည်းကို စုဆောင်း၍ အကျိုးမဲ့ဆုံးရှုံးပစ်သူတို့သည် ပေးကမ်းရခြင်းကြောင့် ရရှိသော ကြည်ရွှင်မှုမျိုးကို မသိနိုင်ပေ။

၉။

တဦးထည်းထည်း မဝေမမျှဘဲ စီးပွားဥစ္စာကို စားသုံး ရခြင်းက စားသောက်ရခြင်းထက် ပို၍ ပျော်ဘွယ် ကင်းသေး၏။ ·

တောင်းရမ်း ၁၀။

သေခြင်းတရားထက် ပျော်ဘွယ်ကင်းသော အရာသည် မရှိ၊ သို့သော် မလှူမတန်း ရသော အဖြစ်နှင့် နေရပါက သေခြင်းကပင် ပျော်ဘွယ် ကောင်းသေး၏။

4 ၂၃

သိရုကုရယ်လ်

အခန်း (၂၄)

ချီးမွမ်းခြင်း။

၁။

ပေးကမ်း စွန့်ကြဲခြင်းဖြင့် ချီးမွမ်းခြင်း ခံရပါစေလော့။ ဤနည်းထက် အကျိုးထူးသော နည်းသည် မရှိပေ။

လူသတ္တဝါတို့အတွက်

၂။

ဆင်းရဲသူတို့အား ပေးကမ်းတတ်သူ၏ အကြောင်းကို
ပြောဆို၍ နေကြလိမ့်မည်။
တစလောကလုံးက ချီးမွမ်း

၃။

လောကကြီးတွင် ပုဂ္ဂိုလ် တဦးချင်း၏ ထူးချွန်စွာ ဆောင်ရွက်မှု
အပ အခြားသော အရာတို့သည် မပျက်မစီးနိုင်ဟူ၍ မရှိပေ။

ဂုဏ်သတင်းမှ

၄။

ချီးမွမ်းခံရသူတို့၏ ဂုဏ်သတင်းသည် ကမ္ဘာမြေအပြင်ကို လွန်သောအခါ နတ်
တို့၏ ရှေ့၌ပင်လည်း ချီးမွမ်းခံရမည်ဖြစ်သည်။

၅။ ပျက်စီးခြင်း အကြားမှ ကွယ်ဝခြင်းနှင့် သေခြင်းအကြားမှ ရှင်သန်ခြင်းဟူသော အဖြစ်တို့မှာ ဝိညာဉ်အားဖြင့် စင်ကြယ်သူတို့မှတပါး အခြားသူတို့တွင် မဖြစ်ပေါ်နိုင်။

၆။ ဤကမ္ဘာကြီးတွင် ပေါ်ထွန်းရခြင်း တူလျှင် ဂုဏ်သတင်းကျော်စောခြင်းဖြင့် ပေါ်ထွန်းပါစေလော။ သို့မဟုတ်က ကမ္ဘာကြီးတွင် လူဖြစ်မလာရခြင်းကပင် ကောင်းသေး၏။

၇။

ချီးမွမ်းသံသာကို မခံရသူတို့သည် အဘယ့်ကြောင့် ၎င်းတို့အား စက်ဆုပ်သူများအတွက် ပူပန်နေရသနည်း။ မိမိတို့ကိုယ်ကိုကား မပြုပြင်ကြလေ။

၈။ ချီးမွမ်းခံရဘွယ် မရှိသူတို့အား တကမ္ဘာလုံးက ထားလိမ့်မည်။

မတင့်တယ်သကဲ့သို့ သဘော

၉။

ဂုဏ်သတင်းကျော်စောခြင်း မရှိသူတို့အား ထမ်းထားရသော မြေကြီးတွင် မြေဆီဩဇာများ လျော့ပါးရလေသည်။

၁၀။ သက်ရှိထင်ရှားနေသူတို့၌ မတင့်တယ်ခြင်း မရှိရာပေ၊ တင့်တယ်ခြင်း (ဝါ) ဂုဏ်သတင်း ကျော်စောခြင်း မရှိသူတို့ကား အသက်ရှင်သည် မမည်ပေ။



သံ ရု ကု ရ ယ် လ်

**သူတော်စဉ်တို့၏ အရည်အချင်းများ။**

(အခန်း-၂၅ မှ ၃၇) **အခန်း (၂၅)**

ကြင်နာခြင်း။

၁။ ကြင်နာမှုနှင့် ပြည့်စုံခြင်းသည် ကြွယ်ဝမှု ပကာသတို့ထက် ကြွယ်ဝခြင်း ဖြစ်၏၊ ဥစ္စာပစ္စည်းကြွယ်ဝခြင်းမှာ သိမ်ဖျင်းသောသူတို့၌ ဖြစ်စေ၊ ပြင့်ပြတ်သော သူတို့၌ ဖြစ်စေ ရှိနိုင်၏။

၂။ **မကောင်းသော** လမ်းစဉ်ကို လိုက်ပါစေလော့၊ အသင် အမြင် ရှိပါစေလော့၊ ကြင်နာမှု ရှိပါစေလော့၊ မိမိသည် ဘာသာဂိုဏ်းဂဏ အမျိုးမျိုးတို့၏ တရားများကိုပြည့်စုံစွာ လေ့လာထားပြီးပင် ဖြစ်သော်လည်း ကြင်နာခြင်း ဟူသော **တရားကား** ကောင်းကင်ဘုံသို့ ပေါက်မြောက်ရန် အတွက် အကောင်းဆုံးသော အကူအညီ ဖြစ်ပေသည်။

၃။

ကြင်နာစိတ်ထား နိုင်သူတို့သည် မှောင်မိုက်ခြင်း ဆင်းရဲခြင်း တည်းဟူသော ဘဝများသို့ မည်သည့်အခါမှ ရောက်ရှိနိုင်လိမ့်မည် မဟုတ်ပေ။

၄။

တပါးသူ၏အသက်ကို ကြင်နာလေ့ ရှိသူတို့၌ ဝိညာဉ်အတွက် ကြောက်မက်ဖွယ်ဖြစ်သော မကောင်းမှုများသည် မကပ်ရောက်နိုင်ဟု ပညာရှိတို့ဆိုကြ၏။

၅။

ကြင်နာသော သူတို့အား ကြေကွဲ ဝမ်းနည်းဖွယ် အဖြစ်တို့ မကပ်ရောက်နိုင်ဟူသော အချက်မှာ ဤကမ္ဘာမြေကြီးတွင် မျက်မြင်ပင်တည်း။

၆။ ပညာရှိတို့က ဆိုသည်မှာ ကြင်နာခြင်းကင်း၍ ရက်စက်သူတို့သည် ယခင်ဘဝက ကောင်းမှုတို့ကို မပြုခဲ့ဘဲ နောင်လာမည့် ဘဝတွင် ခံစားရမည့် ဒုက္ခဆင်းရဲတို့ကိုလည်း မေ့လျော့ နေသူတို့သာတည်း။

၇။

ဤကမ္ဘာကြီးသည် ဥစ္စာပစ္စည်းမရှိသော သူတို့အတွက် မဟုတ်သကဲ့သို့ နောင်ဖြစ်မည့်ဘဝသည် ကြင်နာမှု မရှိသော သူတို့အတွက် မဟုတ်ပေ။

ဂ။ စီးပွားဥစ္စာ မရှိသောသူတို့သည် တနေ့တွင် ချမ်းသာလာနိုင်၏၊ ကြင်နာခြင်း မရှိသူတို့ကား ခိုကိုးရာမဲ့ ဖြစ်လျက် နောင်တွင်လည်း ကောင်းစားတော့မည် မဟုတ်ပေ။

၉။

ကြင်နာခြင်း ကင်းသူအား ကောင်းမြတ်သူ ဟူ၍ ထင်မြင် ခြင်းသည်တကယ် စစ်မှန်သော အရှင်အား ပညာမဲ့ဟု ထင်မြင်သည်နှင့် အတူတူပင်။

၁၀။ အကြင်သူတဦးသည် မိမိထက် အားနည်းသော သူတို့အား ရက်စက်စွာ တိုက်ခိုက်လိုသည် ဖြစ်အံ့၊ ၎င်းသည်မိမိထက် ခွန်အားကြီးသူတို့ရှေ့တွင် ချောက်ခြားနေမည့်အဖြစ်ကို အမှတ်ရပါစေလော့။

၂၅

# သိရုကုရယ်လ်

## အခန်း (၂၆)

၁။

### အသားမစားခြင်း။

အကြင်သူသည် မိမိ၏ အသားအရေ တိုးပွားရေးအလို့ငှာ တပါးသူ၏ အသားကိုမှီဝဲနေရလျှင် ထိုသူ၌ အဘယ်နည်းဖြင့် ကြင်နာခြင်း တရား ရှိနိုင်မည်နည်း။

၂။

ပစ္စည်းဥစ္စာမရှိသော သူတို့သည် ထိုပစ္စည်းကို ဂရုစိုက်ရန်မလိုသကဲ့သို့၊ ကြင်နာခြင်းမရှိသော သူတို့သည် အသားစားခြင်းကို ဂရုမစိုက်ဘဲ ပြုကြကုန်၏။

၃။

တိုက်ခိုက် သတ်ဖြတ်လိုသော သူတို့သည် လက်နက်စွဲကိုင်ကြသကဲ့သို့ တပါးသူတို့၏ အသားကို စားလိုသူတို့သည် ကောင်းမှုကို ဂရုမထားကြပေ။

၄။ ကြင်နာမှုနှင့် ကြင်နာမှု၏ ဆန့်ကျင်ဖက်တို့ကား အဘယ်နည်းဟု မေးကြ၏။ အဖြေကား၊ အသက်ကို စောင့်ရှောက်ခြင်းနှင့် သတ်ဖြတ်ခြင်းတို့ပင် ဖြစ်သည်။ ထို့ကြောင့် တပါးသူ၏ အသက်ကို မစားအပ်ပေ။

၅။ အသားမစားခြင်းသည် အသက်ရှည်ခြင်း၏ အကြောင်းဖြစ်၏။ ထို့ကြောင့် အကြင်သူသည် အသား စားသည်ရှိသော် ငရဲခံတွင်းထဲသို့ ကျပြီးနောက် ပြန်မထွက်နိုင်တော့ချေ။

၆။ ကမ္ဘာကြီးတွင် စားသုံးရန် အလို့ငှာ အသက်ကို သတ်ခြင်းမပြုပြာ့အံ့၊ အသားရောင်း သူတို့သည် ငွေကြေးအတွက် အသားကို ရောင်းချခြင်း ပြုတော့လိမ့်မည် မဟုတ်ပေ။

၇။

ပညာရှိတို့က အသားဟူသည်ကို ခန္ဓာကိုယ်၏ အဆိပ် အတောက်သဘော ထားကြသည်ဖြစ်၍ ထိုအသားကို မစားအပ်ပေ။

သဖွယ်

၈။ ပညာရှိသော သူတို့သည် စိတ်မှောက်မှားခြင်းမှ ကင်းရှင်းပြီးသည် ဖြစ်၍ တိရစ္ဆာန်တို့၏ ကိုယ်မှ ဖြစ်သော အသားကို မစားကြပေ။

၉။

တိရစ္ဆာန်တို့အား မသတ်ခြင်းနှင့် မစားခြင်း တို့သည် ဆီဦး ထောပတ် အကြိမ် တထောင်မျှ လောင်း၍ ယာဇ်ပူဇော်သည်ထက် ကောင်းလှ၏။

၁၀။ အသက် မသတ်သူ၊ အသားမစားသူ တို့အား သတ္တဝါ အားလုံးတို့က တညီ တညွတ် ဦးခိုက် ပေလိမ့်မည်။

၂၆

သိရုကုရယ်ယ်

## အခန်း (၂၇)

### မြိုးခြိုအားထုတ်ခြင်း။

၁။ ရသေ့သူတော်စဉ် တဦးသည် မိမိ၌ ကျရောက်သော ဆင်းရဲဒုက္ခ များကို ခံနိုင် ရည်ရှိခြင်းနှင့် တပါး သူတို့အား မထိခိုက် မနာကျင်စေခြင်းမှာ တရားအား ထုတ်ခြင်း၏ သဘာဝတွင် ပါဝင်ပေသည်။

၂။ မြိုးခြိုစွာ အားထုတ်ခြင်းကို ပြုလုပ်နိုင်၍ ထိုအကျိုးကို ခံစား နိုင်သူတို့မှာ ယခင် ဘဝက ထိုတရားကို အားထုတ် ခဲ့သူများသာ ဖြစ်၏။ ဤသို့မပြုခဲ့ဘဲ ယခု ဘဝ တွင်မှ အားထုတ်ကြိုးစား၍ ခံစားလိုခြင်းကား အချည်းနှီးတည်း။

၃။ တပါးသူတို့က ခြိုးခြံစွာကျင့်ရန် ပေ့လျော့နေသည့်အမှုတို့ကို ပြုလျက်၊ လောကီချမ်းသာတို့ကို စွန့်လွှတ်သော ရဟန်းတို့အား အစာရေစာ ပေးကမ်း လှူဒါန်းခြင်းကို ပြုရာ၏။

၄။ အကြင်ရသေ့ရဟန်း တဦးသည် မိမိ၏ရန်သူတို့အား ပျက်စီးဆုံးပါးစေလိုလျှင် သော်၎င်း၊ မိတ်ဆွေတို့အား ကြီးကျယ်မြင့်မြတ်စေလိုလျှင် သော်၎င်း၊ မိမိ၏ အကျင့်တန်ခိုးကြောင့် ထိုသို့ပြုနိုင်စွမ်း၏။

၅။

တရားအားထုတ်ခြင်းကို ဤဘဝတွင် ပြုရာ၏၊ အဘယ်ကြောင့် ဆိုသော် ဤသို့ ပြုခြင်းကြောင့် နောင်ဘဝတွင် လိုရာကို ခံစားနိုင်၏။

၆။ ခြိုးခြံစွာ ကျင့်သော သူတို့ကား မိမိတို့တာဝန် ကျေကြ၏၊ တပါးသူတို့ကား လောကီချမ်းသာကို လိုလားနေသည်ဖြစ်၍၊ အနှောင်အဖွဲ့များတွင် မိ၍ နေကာ မိမိကိုယ်ကို ဖျက်ဆီး နေကြသည်ဖြစ်၏။

၇။ ခြိုးခြံမှုကို မကြာခဏ ကျင့်ကြံသော သူတို့သည် မီးတွင် လှော်ထားသော ရွှေကဲ့သို့ အပူဓာတ်ကို ခံပြီးဖြစ်သောကြောင့် သန့်စင်စွာ တောက်ပ၍ နေပေလိမ့်မည်။

၈။ မိမိ၏ စိတ်ဝိညာဉ်ကို ထိန်းချုပ်နိုင်သော သူအား
လုံးတို့က ဦးခိုက်ကြလိမ့်မည်။

၉။

တပါးသော သတ္တဝါအား

တ ရား အားထုတ်သဖြင့် တန်ခိုး စွမ်းအား
သေခြင်းတရားကိုပင်ကျော်လွန် နိုင်၏။

ရရှိသော သူတို့သည် ယမ မင်း၏

၁၀။ လောကတွင် ခြိုးခြံမှုကို ကျင့်သုံးသောသူတို့မှာ နည်းပါးလှ၏၊ မကျင့်သုံးသော သူတို့မှာ များရာစုဖြစ်သောကြောင့် ခိုကိုးရာမဲ့တို့ များပြား၍ ချမ်းသာသူတို့ နည်းပါးကြလေသည်။

၂၇

# သိ ရု ကု ရ ယ် လ်

## အခန်း (၂၈)

## မညီညွတ်သောအကျင့်။

၁။

ဟန်ဆောင် လှည့်ဖျားတတ်သောသူအား
တို့ကပင် ပြက်ရယ် ပြုလေသည်၊
မိမိ၏ ကိုယ်တွင်းရှိ ဓာတ်ကြီးငါးပါး

၂။

မိမိ၏ စိတ်တွင် ဒုစရိုက်မှုများကို လိုက်စား၍ နေပါက သန့်စင်သော သဏ္ဍာန်ရှိကာမျှဖြင့် အဘယ်သို့ အကျိုးထူးမည်နည်း။

၃။ အကြင်သူ တဦးတယောက်သည် တန်ခိုးစွမ်းအား မရှိပါဘဲလျက် (အာရုံနှင့် ခြိုးခြံမှုကို မပြုနိုင်ပါဘဲလျက်) ရှိသူဟု ဟန်ဆောင်နေပါက၊ ကျားရေကို ခြုံ၍ မြက်စားနေသော နွားကဲ့သို့ ပမာတူလိမ့်မည်။

၄။ အကြင်သူတဦးသည် သူတော်ယောင်ဆောင်လျက် ဒုစရိုက်တို့ကို ကျူးလွန်နေပါက၊ ထိုသူမှာ တောတွင်း၌ သားငှက်ကို ချောင်းနေသောမုဆိုးကဲ့သို့သာတည်း။

၅။ အကြင်သူတို့သည် မိမိတို့၏ ဆန္ဒစုအားလုံးကို စွန့်လွှတ်ပြီး၏ဟု ဟန်ဆောင်ပြောဆိုကြသော်လည်း တနေ့တွင်၊ အို-ငါတို့ အဘယ်အမှုကို ပြုခဲ့မိလေချင်းဟူ၍ ဝမ်းနည်းစွာ နောင်တရ မြည်တမ်း ရလိမ့်မည်။

၆။ သက်ရှိလူတို့တွင် မိမိ၏ ဆန္ဒစိတ်ကို မပယ်ရှားနိုင်ပါဘဲလျက်၊ ပယ်ရှားနိုင်သည်ဟု ဟန်ဆောင်နေသော သူတို့သည် အဆိုးဆုံး ဖြစ်ပေသည်။

၇။ လောကကြီးတွင် ကျီးအာသီးကဲ့သို့ အပြင်ဘက်၊ အမြင်ကောင်းလျက် အတွင်းတွင် ဆိုးဝါးနေသူတို့သည် များစွာရှိကြ၏။

၈။ လောကကြီးတွင် ဟန်ဆောင်၍ မျက်နှာဖုံး တပ်ထားသူတို့ များစွာ ရှိကြ၏၊ သူတို့သည် ကိုယ်လက်ကို သန့်စင်စေ၍ ကြီးမြတ်သော အသွင်ကို ဆောင်ကြ၏၊ စိတ်တွင်းမှာမူကား ဖြစ်မှုတို့ဖြင့် ညစ်ညူး၍ နေပေသည်။

၉။ မြားသည် အမြင့်ဖြောင့်သော်လည်း ရန်ပြုတတ်၏။ စောင်းသည် အမြင်ကောက်သော်လည်း သာယာသော အသံကို ပေး၏။ ထိုနည်းတူစွာပင် ဖြောင့်သူနှင့် မဖြောင့်သူတို့အား ပုံပန်းကိုမကြည့်ဘဲပြုသော အမှုကို ဆင်ခြင်ရာ၏။

၁၀။ အကြင်သူသည် ဦးပြည်းခေါင်းတုံးထား၍ရှင်း၊ဆံပင်ကိုစည်းနှောင်၍ရှင်း၊ထားသော်လည်း ပညာရှိတို့ ရှုံ့ချသော အမှုတို့ကို ပြုနေပါက၊ အကျိုးမထူးပေ။



သိရုကုရယ်လ်

**အခန်း (၂၉)**

ပလိပ်လည်အပ်ခြင်း။

၁။ အကြင်သူသည် စက်ဆုပ်ရွံရှာခြင်းကို
မခံရလိုပါက၊အသေးအဖွဲ ကလေး၌ပင်
လိမ်ကောက်ခြင်း မပြုရန် သတိချပ်ရာ၏။

၂။ တပါးသူတို့၏ ဥစ္စာကို ခိုးရန်မဆိုထားဘိ
ကြံစည်ခြင်းကပင် အပြစ်ရှိ၏။

၃။ လိမ်ကောက်၍ ရသောပစ္စည်းသည် တိုးပွားနေသည်
ထင်ရငြားလည်း ပျက်စီး
ခြင်း အဆုံးစွန်သို့ရောက်နိုင်၏။

၄။ တပါးသူအား လိမ်လည်ခြင်းဖြင့်

ရရှိမည့် အကျိုးထူးကို မြော်ကိုးသောသူတို့

အား နောင်အရှည် စိတ်ဆင်းရဲခြင်းမျိုးရရှိလိမ့်မည်။

၅။ တပါး သူတို့၏ မျက်ကွယ်ကို ကြည့်၍ ထိုသူတို့

ပစ္စည်းကို လိုချင် မျက်စိဖြင့်

စောင့်နေသူများ၌ ကြင်နာခြင်းနှင့် မေတ္တာတရားတို့

မရှိကြပေ။

၆။ တပါးသူတို့အား ညာဝါးရန် ထက်သန်နေသူတို့သည်

တရားနှင့် အညီ မြဲမြံစွာ

ကျင့်ကြံ ဆောင်ရွက်ရန် မဖြစ်နိုင်ပေ။

၇။ ဖြောင့်မှန်ခြင်း တည်းဟူသော ကြီးမြတ်သည့်ဂုဏ်ကို

ရရှိသူတို့မှာ လှည့်ဖြား

ခြင်းတည်းဟူသော အောက်လမ်းနည်းကို

အသုံးချသူများ မဟုတ်ကြပေ။

၈။ ဖြောင့်မှန်သော သူတို့၌ စိတ်တွင် ကောင်းမှုများသာ

ကိန်းအောင်း၍ နေ

သကဲ့သို့ မဖြောင့်မှန်သော သူတို့၌

လှည့်ဖြားလိုသောစိတ်သာ အစဉ်ရှိ၏။

၉။ လိမ်လည်ခြင်းမှတပါး အခြားသော အမှုတို့ကို

မပြုတတ်သူတို့သည် မိမိတို့၏

ကျူးလွန်သော အပြစ်ကြောင့်သာ ပျက်စီး ဆုံးပါးရာ၏။

၁၀။ လိမ်လည်တတ်သူ တို့သည် မိမိခန္ဓာကိုယ်ကိုပင် အစိုးမရနိုင် ဖြစ်သော်လည်း၊

ဘုရားနှင့် သူတော်ကောင်းတို့ကမူ လိမ်ညာမှုကင်းသူတို့အား မပြတ်သိန်းစောင့် ရှောက်ရာ၏။

၂၆

# သီရုကုရယ်လ်

## အခန်း (၃၀)

မှန်ကန်ခြင်း။

၁။

မှန်ကန်ခြင်းကား အဘယ်နည်းဟု မေးရန်ရှိ၏။ အဖြေကား မှန်ကန်ခြင်းသည် တပါးသူတို့အား မည်သို့မျှ မကောင်း မပြောခြင်း ပင်တည်း။

၂။ လိမ်လည် လှည့်ဖြားခြင်းမှ ကင်းသော အကျိုးကို
ဒွိပင်လျှင် မှန်ကန်ခြင်း ရှိနိုင်၏။

ဆောင်နိုင်လျှင် မှသာ၁၀ါဒ

၃။

အကြင်သူတဦးသည် သိပါလျက်နှင့် လိမ်လည်၍ မပြောရာပေ၊ ပြောခဲ့လျှင်
ဤအဖြစ်ကို အမှတ်ရ နေခြင်းက မိမိ၏ စိတ်ကို လောင်ကျွမ်း စေလိမ့်မည်။

၄။

အကြင်သူသည် ဖြူစင်သော အကျင့်ဖြင့် လှည့်ဖြားခြင်း ကင်းစွာ
ထိုသူအား လူအပေါင်းတို့ နှစ်သက်လိမ့်မည်။

မှန်ကန်သော သစ္စာတရားကို စိတ်ရောကိုယ်ပါ ပြောဆိုသော သူသည် အလှူပေးသူ၊ ခိုးခြံစွာ အားထုတ်သူတို့ထက် မြင့်မြတ်၏။

၆။ တပါးသူတို့အား လိမ်လည် လှည့်ဖြားမှုဖြင့် နစ်နာစေခြင်း မပြုဟူသော အချက်ကို ချီးမွမ်းခံရခြင်းသည် အခြားသော အကြောင်းကြောင့် ချီးမွမ်း ခံရခြင်းတို့ထက် ကောင်းမြတ်၏၊ ၎င်းသည် ကောင်းမှုအမျိုးမျိုးကို ဆောင်နိုင်၏။

၇။

အကြင် သူ၌ မမှန်ကန်ခြင်းကို ရှောင်ရှားနိုင်သော တန်ခိုးရှိအံ့၊ ထိုသူသည် တပါးသော ကောင်းမှုတို့ကို မပြုသော်လည်း ကောင်းမှုတို့ဖြင့် ပြည့်စုံ၏။

၈။ ခန္ဓာကိုယ်အား ရေမိုးဖြင့် သန့်စင်နိုင်၏။

စိတ်ဓာတ်အား မှန်ကန်ခြင်း သစ္စာ
တရားဖြင့် သန့်စင်နိုင်၏။

၉။ ဆီမီးတိုင် မည်ကာမတ္တဖြင့် မီးရှူး တန်ဆောင် မဟုတ်ကြပေ၊ သစ္စာ တရားတည်းဟူသော ဆီမီးတိုင်သည်သာလျှင် ပညာရှိတို့၏ မီးရှူးတန်ဆောင် ဖြစ်၏။

၁၀။ ကျွန်ုပ်တို့လေ့လာသိရှိဘူးသမျှသော ကောင်းမှုတကာတို့၌ သစ္စာ မှန်ကန်ခြင်း တည်းဟူသော အရာထက် ကောင်းမြတ်ခြင်းသည် မရှိ။

၃၀

သိရုကုရယ်လ်

## အခန်း (၃၁)

### အမျက်မထွက်ခြင်း။

၁။ အကြင်သူသည် တပါးသူတို့အား ထိခိုက်နိုင်စွမ်းသော အခါ ဒေါသကို ချုပ်တည်း၏၊ ထိခိုက်ရန် မစွမ်းသော အခါတွင် ချုပ်တည်းခြင်း မချုပ်တည်းခြင်း တို့ကား အကြောင်းထူး ပါသလော။

၂။

ဒေါသသည် တပါးသူအား မထိခိုက်စေသည့်တိုင် ဆိုးဝါးသော အမှုဖြစ်၏။ တပါးသူအား ထိခိုက်မည်ဆိုလျှင်ကား သူ့ထက်ပို၍ ဆိုးဝါးခြင်းဟူသည်မရှိပြီ။

၃။ လူတိုင်းအား ဒေါသထားခြင်းမှ ရှောင်ရှားပါလော့၊
ဒေါသ အမျက်ကို မှီ၍ တသွင်သွင် စီးထွက်ကြ၏။

ဝမ်းသာခြင်းကိုဍင်း၊ ရယ်ရွှင်ခြင်းကိုဍင်း၊ သတ်ဖြတ်တတ်သော ဆိုးဝါးသော ရန်သူသည် ရှိပါသေးသလော။

ဒေါသထက်

၅။ အကြင်သူသည် မိမိကိုယ်ကို ကာကွယ်လိုသည် ဖြစ်အံ့၊ ဒေါသ ဖြစ်ခြင်းမှ ကာကွယ်ပါလေ၊ ဒေါသကို မကာကွယ် နိုင်လျှင် ဒေါသသည် ထိုသူအား သတ်ဖြတ် ပေလိမ့်မည်။

၆။ ချစ်ခြင်း မိတ်ဆွေတည်းဟူသော ဖေါင်အဖွဲ့ကို သည် လောင်ကျွမ်းနိုင်၏။

၇။

ဒေါသတည်းဟူသော မီးလျှံ

ဒေါသကို ကောင်းမှုဟူ၍ ယူဆထားသူများအား လက်ခတ်မလွဲ ရောက်ရှိ လာရပေလိမ့်မည်။

ပျက်စီးခြင်းသည် မြေကြီး

၈။ တပါးသူ တဦးက မိမိကိုယ်ပေါ်သို့ မီးလျှံ မီးခဲကြီး ပစ်တင်ပေးလိုက်သကဲ့သို့ နာကျင်အောင် ပြုစေကာမူလည်း၊ ထိုအချက်ကို သည်းခံနိုင်သော် ကောင်းလှ၏။

၉။

အကြင်သူ တဦးသည် ဒေါသကို မိမိ၏ စိတ်တွင်း၌ ကိန်းအောင်းခွင့် မပြုပါက မိမိ၌ လိုအပ်ချက်အားလုံးတို့သည် တခဏနှင့် ပြည့်စုံလိမ့်မည်။

၁၀။

လွန်ကဲသော ဒေါသကို မိမိကိုယ်တွင် ခွင့်ပြုသူတို့ကား သေသူနှင့် မခြားတော့ပေ၊ ဒေါသကင်းသောသူတို့မှာကား သေခြင်းကင်းသောသူတို့တမျှတည်း။



# သိရုကုရယ်လ်

## အခန်း (၃၂)

## ဥပဒ်မရောက်စေခြင်း။

၁။ အပြစ်ကင်းစင်သော သူတို့သည် တပါးသူတို့အား ကျေကွဲဝမ်းနည်းခြင်း မဖြစ်စေရန် သံန္နိဋ္ဌာန်ရှိ၏။ ဤသို့ပြုခြင်းဖြင့် ကျော်စောခြင်း၊ ကြွယ်ဝခြင်းတို့ ရှိမည်ဖြစ်သော်မှ ထိုအမှုကို မပြုကြပေ။

၂။

အပြစ်ကင်းစင်သော သူတို့သည် မိမိတို့အား ရန်ပြုသော သူတို့ကို ပြန်လည်တုံ့ပြန်ခြင်းငှါ မပြုဟု သံန္နိဋ္ဌာန် ချထားပေသည်။

၃။ အကြင် သူတဦးသည် မိမိအား မလိုမုန်းထား သူတို့အား တစုံတရာ နာကျင်စေခြင်းကို ပြုမိပါက မိမိက ကိုယ်ထိ လက်ရောက် မပြုသော်လည်း နောက်ဆုံးတွင် မလွဲမရှောင်သာသော ဝမ်းနည်းကျေကွဲခြင်းကို ကြုံရလိမ့်မည်။

၄။

မကောင်းမှုကို ပြုလုပ်သော သူတို့အား ဒဏ်ခတ်ရန် သင့်မြတ်သော နည်းမှာ ထိုသူတို့အား ကြင်နာကြောင်းကို ကောင်းစွာ ပြခြင်းဖြင့် အရှက်ရစေခြင်းဖြစ်သည်။

၅။ အကြင်သူသည် တပါးသူတို့၏ နာကျင်ခံစားရခြင်းကို မိမိကိုယ်နှင့် ထပ်တူပြု၍ ပယ်ရှားနိုင်ခြင်း မရှိပါက ထိုသူသင်ယူထားသော ပညာတို့သည် အဘယ်သို့ အကျိုးရှိပါမည်နည်း။

၆။ တပါးသူတို့အား ဝမ်းနည်းကျေကွဲရစေမည့် ပြုလုပ်ချန် မိမိက သဘောမတူသင့်ပေ။

အမှုမျိုးကို သိလျှင် ထိုအမှုမျိုးကို

၇။

ကောင်းမှုတကာတို့၏ အချုပ်မှာ မည်သည့်အချိန်အခါတွင် မည်သူ့ကိုပင်ဖြစ်စေ၊ ယုတ်မာသော အမှုဖြင့် အနည်းငယ်မျှ မပြုလုပ်ခြင်းဖြစ်သည်။

၈ ။

အကြင်သူသည် မိမိ၏ ကိုယ်တွေ့ကြုံခဲ့၍ ဆင်းရဲဒုက္ခများကို သိရှိပြီးဖြစ်သော် တပါးသူတို့အား ထိုဆင်းရဲဒုက္ခမျိုး ကျရောက်စေရန် အဘယ်ကြောင့် ပြုလုပ်မည်နည်း။

၉။ အကြင်သူတယောက်သည် နံနက်ပိုင်းတွင် တပါးသူတို့အား အကယ်၍ နာကျင်ဆင်းရဲခြင်းကို ပြုမိသည်ဖြစ်အံ့၊ ညနေပိုင်းတွင် အလားတူအဖြစ်မျိုးကို မမြော်လင့်ဘဲ ခံရလိမ့်မည်။

၁၀။ တပါးသူတို့အား ဆင်းရဲဒုက္ခရောက်စေသူ၌ မိမိတွင် ဆင်းရဲဒုက္ခမျိုးစုံကျရောက်လာလိမ့်မည်၊ သို့ဖြစ်၍ ဆင်းရဲဒုက္ခတို့မှ ကင်းငြိမ်းလိုသူသည် တပါးသူတို့အား ဆင်းရဲဒုက္ခ မဖန်တီးစေသင့်ပေ။



သိရုကုရယ်လ်

**အခန်း (၃၃)**

အသက်မသတ်ခြင်း။

၁။ ကောင်းမှု ကျင့်ဝတ်တို့၏ အချုပ်ကား အဘယ်နည်းဟု မေးရန်ရှိ၏၊ အဖြေမှာ အခါခပ်သိမ်း အသက်မသတ်ရန် ဖြစ်၏။ တနည်းအားဖြင့်ဆိုလျှင် အသက်သတ်ခြင်းသည် မကောင်းမှုမျိုးစုံကို ဖြစ်စေနိုင်၏။

၂။ ကောင်းမှုတို့၏ အဓိက အချက်ကား ပညာရှိတို့ ဆိုလိုရင်း၌ တပါးသူတို့နှင့် အစာရေစာကို ဝေမျှစားသုံးခြင်းဖြင့် တပါးသူတို့၏ အသက်ကို စောင့်ရှောက်ထိန်းသိမ်းခြင်း ဖြစ်သည်။

၃။

အသက် မသတ်ခြင်းသည် ကြီးစွာသော ကောင်းမှု တခုဖြစ်၏။ ထိုအမှုမှလွဲ၍ ထောင်းခြင်း တရပ်ကား မုသာဝါဒမှ ကင်းရှင်းခြင်း ဖြစ်လေသည်။

၄။

ကောင်းသော လမ်းစဉ်သည် အဘယ်နည်းဟု မေးရန်ရှိ၏။ ထိုလမ်းစဉ်ကား တပါးသူတို့၏ အသက်ကို မသတ်ဖြတ်မိရန် ရှောင်ရှားသော လမ်းစဉ်ဖြစ်၏။

၅။ လောကတွင် အကြိမ်ကြိမ် မွေးဖွားရခြင်းတို့ဖြင့် သံသရာ ရှည်လျား မည်ကို ကြောက်သော သူတို့သည် လိုအင် ဆန္ဒများကို စွန့်လွှတ်ကြ၏။ ထိုသို့ စွန့်လွှတ်သူသည် သတ်ဖြတ် ရခြင်း၏ အပြစ်ကို သိလျက် မသတ်ဖြတ်မိရန် မည်သို့ ရှောင်ရှားရမည်ကို ကြံဆသော ပုဂ္ဂိုလ်တို့တွင် အချုပ်ဖြစ်၏။

၆။ အသက်ကို မသတ်တော့ပါဟု သန္နိဋ္ဌာန်ရှိသောသူအား ယာမမင်းသည် ထိုသူ၏ တသက်တာကို မနှောင့်ယှက်ပေ။

၇။ မိမိ၏ အသက်ကိုပင် ဆုံးရှုံးရမည်ဖြစ်စေကာမူ တပါးသူ၏အသက်ကို မသတ်ဖြတ်ရန် ရှောင်ရှားရာ၏။

၈။ တပါးသူတို့၏ အသက်ကို သတ်ဖြတ်၍ရသော အကျိုးမှာ ကြီးပြင့်ခြင်း ကောင်းမြတ်ခြင်းစသည်တို့ ဆိုစေကာမူလည်း ပညာရှိတို့ အတွက်ကား ဂုဏ်သရေ ညှိုးငယ်သော ကိစ္စသာ ဖြစ်၏။

၉။ တကိုယ်ကောင်း ဆန်ခြင်း၏ အကြောင်းကိုသိပြီး သူတို့အတွက် တပါးသူတို့၏ အသက်ကို သတ်သောသူမှာ အနိမ့်ဆုံးသော သူပင်ဖြစ်၏။

၁၀။ ဤဘဝတွင် ဆင်းရဲ၍ ရောဂါဘယတို့ နှိပ်စက် ညှင်းပမ်းခြင်း ခံနေရသူတို့သည် ယခင် ဘဝက သတ္တဝါတို့၏ အသက်ကို သတ်ဖြတ်ခဲ့ဘူးသောကြောင့် ဟူ၍ ပညာရှိတို့က ဆိုလိမ့်မည်။

၃၃

## သိရုကုရယ်လ်

အခန်း (၃ ၄)

မတည်မြဲခြင်း။

၁။ မတည်မြဲသော အရာတို့ကို တည်မြဲသည်ဟု ရှိတို့အတွက် ဂုဏ်ငယ်သော ကိစ္စဖြစ်၏။

လွဲမှားစွာယူဆရခြင်းသည် ပညာ

၂။ ပစ္စည်းဥစ္စာ စုဆောင်းရရှိခြင်းဟူသည်မှာ ကပွဲသဘင်များသို့ လူများစုဝေးလာခြင်းနှင့် တူ၏။ သုံးစွဲ၍ ကုန်သွားခြင်း မှာလည်း ပွဲသိမ်း၍ ထိုပရိသတ် ရှဲသွားသည်နှင့် တူ၏။

၃ စီးပွားဥစ္စာတို့မည်သည် ပျက်စီးဆုံးပါးတတ်၏၊ ထို့ကြောင့် ထိုပစ္စည်းဥစ္စာတို့ကို ရရှိသော သူတို့သည် ပျက်စီးဆုံးပါးခြင်း ကင်းသော ကောင်းမှုတို့ကို မဆုတ်မဆိုင်း ပြုရာ၏။

၄။ အချိန်ဟူသည် ပညာမရှိ သူတို့အတွက် အကယ်ပင် ရှိနေသောအရာဟု ထင်ရသော်လည်း ပညာရှိတို့အတွက်မူကား ဘဝဟူသည်ကို တိုက်ဖြတ်လျက် ရှိသော လွှကြီးပမာ သဘောထားပေသည်။

၅။ ကြို့ ထိုး၍ စကားမေး မရ မဖြစ်မီ ကောင်းမှုတို့ကို

လျင်မြန်စွာ ပြုရာ၏၊

၆။

ဤကမ္ဘာကြီးတွင် ကြီးမြတ်ခြင်းဟူသည်ကား မနေ့က အသက်ရှင်ခဲ့၍ ယနေ့ ကွယ်လွန်ပြီးသော အဖြစ်မျိုးသာတည်း။

၇။ ပညာ မရှိသော သူတို့၏ စိတ်တွင် မရေမတွက်နိုင်သော စိတ်ကူးတို့သည် ဝင်ရောက်၍ နေကြ၏၊ ထိုသူတို့ကား နောက်တခဏမျှ အချိန်တွင် မိမိတို့ အသက်ရှင်နေမည်ကိုပင် မသေချာပေ။

၈။ ဤခန္ဓာကိုယ်အား ဝိညာဉ်၏ တွယ်တာခြင်းမှာ ငှက်ငယ်သည် ဥကို တွယ်တာခြင်းကဲ့သို့ ဖြစ်၏၊ ငှက်ပျံသွားသော ခဏ၌ ဥသည် ဟင်းလင်း ဖြစ်၍ ကျန်ရစ်၏။

၉။ သေခြင်းတရားသည် အိပ်စက်ခြင်းနှင့် တူ၏၊ မွေးဖွားရခြင်းသည် နိုးလာခြင်းနှင့် တူ၏။

၁၀။ ခန္ဓာကိုယ်ထဲတွင် လာရောက်ခိုမှီသော ဝိညာဉ်၌ နေအိမ် ရှိထန် မတွေ့ပေ။



သံရုကုရယ်လ်

**အခန်း (၃၅)**

စွန့်လွှတ်ခြင်း။

၁။

အကြင် သူသည် ပစ္စည်း တစုံတရာကို စွန့်လွှတ်သည်ဖြစ်အံ့။
ပစ္စည်းအတွက် မိမိတွင် နာကျင်ရခြင်း ကင်းခပေတော့သည်။

သို့စွန့်လွှတ်သည့်

၂။ အကြင်သူတဦးသည် အရာအားလုံးကို စွန့်လွှတ်ပစ်ပယ်သည်ဆိုစေကာမူ မိမိ၏ လိုအင်ဆန္ဒဖြစ်လျက်ရှိသော အရာများတို့ ကျန်ပေလိမ့်မည်။ ဤသို့ကျန်ရှိသော တပ်မက်မှုများအား အချိန်ရှိခိုက်တွင် စွန့်လွှတ်ပါလေ။

၃။

အာရုံငါးပါးကို ဖျက်ဆီးရာ၏။ တချိန်တည်းမှာပင် သူတော်စဉ်တို့ ယခင်က တပ်မက်ခဲ့ဘူးသည့် အရာများကို သူတော်စဉ်တို့နည်းတူ စွန့်လွှတ်ပါလေ။

၄။ မြိုးမြိုင်စွာ ကျင့်ကြံ အားထုတ်လိုသူတို့အတွက် လုံးဝ ခိုကိုးရာ မဲ့ခြင်းသည် အကောင်းဆုံးဖြစ်၏။ အကယ်၍ မိမိတွင် တစုံတရာကို ပိုင်ဆိုင်နေအံ့၊ ထိုအရာက မိမိ၏ ဆုံးဖြတ်ချက်...ကို ပျက်ပြားစေ၍ စိတ်ကို ပြန်လည် ရှုပ်ထွေးစေနိုင်၏။

၅။ ရှေ့တွင် တွေ့ရမည့် ဘဝ အထွေထွေကို ကြိုးစား၍ ပယ်ဖြတ်နေသူတို့၌ အဘယ်သို့သော အရာများကို နောက်ထပ်တိုးပွားစေခြင်းဖြင့် အကျိုးထူးအံ့နည်း။ မိမိတို့ ခန္ဓာကိုယ်ကြီးပင်လျှင်ဝန်တာ ကြီးလွန်းလှချေသည်၊

၆။ ငါ၊ ငါ့ဥစ္စာအစရှိသော မာန်ထောင်လွှားခြင်းကို ချိုးနှိမ်နိုင်သော သူတို့သည် နတ်တို့ထက် သာလွန်သော ဘဝကို ရနိုင်ပေလိမ့်မည်။

၇။ မိမိတို့၏ တပ်မက်မှုကို မစွန့်လွှတ်နိုင်သူတို့အား ဝမ်းနည်း ကြေကွဲခြင်းတို့က လည်း လက်လွှတ်သွားလိမ့်မည် မဟုတ်ချေ။

၈။ ဝတ္ထုပစ္စည်းများအားလုံးနှင့် တပ်မက်မှု အားလုံးတို့ကို လုံးဝ စွန့်လွှတ်ပြီးသော သူတို့သည် ဘုရားရှင်ထံမှောက်သို့ ရောက်နိုင်ကြ၏။ တပါးသူတို့မှာမူကား ရှုပ်ထွေးသော သံသရာတွင် ကျင်လည်နေကြလျက် တဖန် ပြန်လည်မွေးဖွားရခြင်း တည်းဟူသော ကွန်ယက်တွင် ငြိတွယ်နေကြလိမ့်မည်။

၉။ တပ်မက်မှုတို့ကို စွန့်ပယ်နိုင်သည့်ခဏ၌ မွေးဖွားရခြင်းတည်းဟူသော သံသရာသည်လည်း ပြတ်သွားလိမ့်မည်။ ဤသို့ မပြုနိုင်ပါက ခိုင်မြဲခြင်း မရှိသည်ကို ကြုံရလိမ့်မည်။

၁၀။ ဘုရား၏ တပ်မက်ခြင်းမျိုးဖြင့် တပ်မက်ခြင်း ထားပါလော့။ တပ်မက်ခြင်းကို ပယ်ရှားလိုလျှင် ဘုရားရှင်၏ တပ်မက်ခြင်းမျိုးကို ရှိပါစေလော့။

၉၅

# သီရိကုရယ်လ်

## အခန်း (၃၆)
## မှန်ကန်စွာသိခြင်း။

၁။

မမြဲသောအရာများကို အကယ်ရှိသည်ဟူ၍ ထင်ရသောကြောင့် စိတ်ရှုပ်ထွေးခြင်းဖြစ်လျက် မထင်ရှားစွာ မွေးဖွားလာရခြင်းများ ပေါ်ပေါက် ရလေသည်။

၂။ အရာဝတ္ထုတို့အား သဲကွဲ ပြတ်သားစွာ မြင်နိုင်သော အမြင်ရှိသူတို့အား ထိုအမြင်ကပင် အနာဂါတ်တွင် မွေးဖွားရခြင်းတည်းဟူသော အမှောင်တိုက်တွင်းမှကယ်တင်လျက် ကောင်းကင်ဘုံ၏ ချမ်းမြေ့ခြင်းသို့ ပို့ဆောင် ပေးလိမ့်မည်။

၃ ။

သံသယကင်းရှင်း၍ စင်ကြယ်သော စိတ်ဓါတ်ရှိသူတို့အတွက်
သည်ကမ္ဘာမြေကြီးထက်ပင် နီးစပ်ပေသေး၏။

ကောင်းကင်တုံ

၄။ အာရုံငါးပါးနှင့် ခံယူ၍ရရှိသော အသိပညာအားလုံးကို ရရှိသူတို့ပင် ဖြစ်သော်လည်း အရာဝတ္ထုများ၏ တကယ့်သဘာဝကို သိရှိသော ပညာကင်းပါက မည်သို့မျှ အကျိုးထူးမည် မဟုတ်ပေ။

၅။

တကယ်စစ်မှန်သော အသိပညာဟူသည်မှာ မည်သည့် အရာကိုမဆို မှန်ကန်စွာ ခံယူ သိမြင်နိုင်ခြင်းဖြစ်၍ ထိုပညာသည်သာ တကယ့်ပညာ ဖြစ်လေသည်။

၆။ ဤဘဝတွင် တကယ့်သစ္စာရှင်အား သိမြင်လာသော သူတို့သည် နောက်ထပ် ဤကမ္ဘာကြီးသို့ ပြန်လည်ဝင်ရောက်နိုင်ရန် လမ်းကြောင်းကို နင်းမိတော့မည် မဟုတ်ချေ။

၇။

သင်ကြားဘွယ် ရှိသူတို့ကို သင်ကြားပြီး သူအတွက် သစ္စာရှိသော အရှင်အား သိမြင်ပြီးသည် ဖြစ်၍ စိတ်သည် နောက်တဖန် မွေးဖွားချိန် ရှိသေးသည်ဟု မထင် တော့ပေ။

၈။ စစ်မှန်သော အသိတရားသည် မသိတရားကို ပယ်ရှားခြင်းဖြစ်၏၊ ထိုမသိတရား သည် မွေးဖွားရခြင်းတို့၏ အကြောင်းရင်းဖြစ်၏၊ စစ်မှန်သော တရားသည် ကောင်းကင်ဘုံ၏ အရှင်ဖြစ်သော သစ္စာရှင် ကိုယ်တော်အား သိမြင်ခြင်း ဖြစ်လေသည်။

၉။ အကြင်သူသည် ဘုရားရှင်အား အရာအားလုံးတို့ကို ထောက်ကူ နေသူဟု သိ လျက် တပ်မက်ခြင်းများကို စွန့်လွှတ်နိုင်အံ့၊ ထိုသူသည် မိမိအား ဖျက်ဆီး ပစ် မည့် မကောင်းမှုများမှ လွတ်မြောက် ပေလိမ့်မည်။

၁၀။ တပ်မက်မှု၊ ဒေါသနှင့် စိတ်ရှုပ်ထွေးမှု တည်းဟူသော အကြောင်း သုံးရပ်တို့ကို ဖျက်ဆီးနိုင်သူသည်၊ ထိုအကြောင်း သုံးရပ်တို့မှ ဆင်းသက်သော မကောင်းမှု များကိုလည်း ပပျောက် စေနိုင်လိမ့်မည်။



# သိရုကုရယ်လ်

## အခန်း (၃၇)

## တပ်မက်မှုကို ဖျက်ဆီးခြင်း။

၁။

ပညာရှိတို့ကဆိုသည်မှာ သတ္တဝါအပေါင်းတို့အား မပြတ်မွေးဖွားလာရခြင်းကို အခါခပ်သိမ်း ဖြစ်စေသော မျိုးစေ့သည် အခြားမဟုတ်၊ တပ်မက်ခြင်းပင် ဖြစ် သည်ဟူ၏။

၂။ တစုံတရာကို တပ်မက်အပ်သက် ဖြစ်လျှံ၊ ကိုးကရာကား မေးမြန်းရခြင်းဟူ၍ ကင်းလွတ်ခြင်းဟူသော အရာဖြစ်သင့်ပေသည်၊ မေးဖွားရခြင်းတို့မှ ကင်းလွတ်ခြင်းကိုတပ်မက်မှု ကင်းလိုသော ဆန္ဒဖြင့်သာ ရရှိ၏။

၃။

ဤကမ္ဘာပေါ်တွင် တပ်မက်မှုမှ ကင်းရှင်းခြင်း အမှုကဲ့သို့ သည်မရှိ၊ ထိုအမှုနှင့်တူသော အမှုချိုးပင်လည်း မရှိပေ။

သာလွန်သော အမှု ၄။

တပ်မက်မှုမှ ကင်းရှင်းခြင်းတွင် စိတ်ဓာတ် စင်ကြယ်ခြင်းသည် ပါဝင်၏။ အချက်သည် သစ္စာတရားကို တွယ်တာ မြတ်နိုးခြင်း ဖြစ်လေသည်။

ထို

၅။ တပ်မက်ခြင်းမှ ကင်ရှင်းသော သူတို့ကို လွှင်မြောက်သူဟု ဆိုလျှင် တပါးသူတို့သည် မည်သည့်အရာကို တပ်မက်ခြင်းမှ ကင်းရှင်းသည် ဖြစ်စေကာမူ လွတ်လပ် သူများ မဟုတ်ကြပေ။

၆။ သူတော်စဉ် တဦးအတွက် အမိက ပာဝန်မှာ တပ်မက်ခြင်းကို စိုးရွံ့စွာဖြင့် သတိထားရန်ဖြစ်၏၊အဘယ်ကြောင့်ဆိုသော် ထိုတပ်မက်ခြင်းသည် လှည့်ဖျားခြင်းနှင့် ဖျက်ဆီးခြင်းတို့ကို ပြုနိုင်စွမ်းသောကြောင့် ဖြစ်၏။

၇။ အကြင် သူတယောက်သည် တပ်မက်ခြင်း ဆန္ဒ အားလုံးတို့ကို ဖြတ်တောက်နိုင်သည်ဖြစ်အံ့၊ ထိုအမှုကြောင့် မသေ မပျောက်နိုင်ခြင်းကို မိမိ ရှာဖွေသော လမ်းစဉ်မှ ရရှိလာလိမ့်မည်။

၈။ တပ်မက်ခြင်း ကင်းသော သူတို့တွင် ဝမ်းနည်းကြေကွဲခြင်းသည် မရှိ၊ သို့သော် တပ်မက်ခြင်း ရှိပါမူကား ဝမ်းနည်း ကြေကွဲရခြင်းတို့သည် အစဉ်မပြတ် ပို၍ ပို၍ ရောက်ရှိလာလိမ့်မည်။

၉။ ဤခန္ဓာကိုယ်ဖြင့်ပင် ရှိစေကာမူ တပ်မက်မှုတည်းဟူသော ဝမ်းနည်းခြင်းတို့၏ အတွက်ကို ဖျက်ဆီးပြီးပါက၊ ကြည်ရွှင်မှုသည် စိတ်သဏ္ဍာန်မှ ထွက်ခွာသွားလိမ့်မည် မဟုတ်ပေ။

၁၀။

မည်သည့်အခါမျှ လိုအင်ဆန္ဒ မပြည့်ဝသော တပ်မက်ခြင်းကို ပယ်ရှားနိုင်သည့် ခဏ၌ ပြောင်းလဲခြင်း ကင်းမှုကို ရရှိလိမ့်မည်။

၇၇

# သိရုကုရယ်လ်

ကံကြမ္မာ

**အခန်း (၃၈)**

ကံကြမ္မာ။

၁။

ဇွဲကောင်းခြင်းသည် စည်ပင် ဖွံ့ဖြိုးသော အခြေမှပေါ်ပေါက်၍ ပျင်းရိခြင်းသည် ထိုအဖြစ်နှင့် ဆန့်ကျင်ဖက်တရားမှ ပေါ်ပေါက်၏။

၂။ ဆန့်ကျင်ဖက် ဖြစ်သော ကံကြမ္မာသည် မိုက်မဲမှုကို ကံကြမ္မာသည် ပညာတိုးတက်မှုကို ဖြစ်စေ၏။

ဖြစ်စေ၍ ဖွံ့ဖြိုးသော

၃။ အကြင်သူတဦးသည် မည်မျှပင် ထင်ရှားသော ကျမ်းဂန်များကို ဖတ်ရှုစေကာမူလည်း မိမိ၏ ကံကြမ္မာအရ ဖန်းတီးထားသော ပညာဉာဏ်မျှသာ ထွန်းကားနိုင်၏။

၄။ ကံကြမ္မာကို အကြောင်းပြု၍ လောကကြီးတွင် အဖြစ်အပျက် သဘာဝနှစ်မျိုးတို့ ပေါ်ပေါက်ကြသည်။ ၎င်းတို့ကား ဥစ္စာရရှိ၍ ပြောင်းလဲခြင်းနှင့် ပညာရရှိခြင်းတို့၏ ခြားနားမှုဖြစ်သည်။

၅။

ကံကြမ္မာကိုအကြောင်းပြု၍ ပစ္စည်းဥစ္စာရရှိမှု၌ နှစ်လိုအပ်ဖွယ်ရှိသည် အားလုံးတို့မှာ မနှစ်လိုခြင်း ဖြစ်နိုင်၏။ မနှစ်လိုဖွယ် အားလုံးတို့မှာ နှစ်လိုခြင်း ဖြစ်လာနိုင်၏။

၆။ ကံကြမ္မာက ပေးမထားသော အရာဝတ္ထုများကို မိမိလက်ဝယ်တွင် ရောက်ရှိနေသော်လည်း မည်မျှပင်၊ ပင်ပမ်းဆင်းရဲ ခံ၍ ထိန်းသိမ်း စေကာမူ ရရှိနိုင်မည် မဟုတ်ပေ၊ ထိုနည်းတူစွာ ကံကြမ္မာက ချပေးသမျှတို့ကိုလည်း မည်သို့ပင် ဖယ်ရှားရန် ကြိုးစားစေကာမူ ပျောက်ပျက်နိုင်မည် မဟုတ်ပေ။

*၇။ မိမိရှာဖွေသော ပစ္စည်းဥစ္စာ သိန်းသန်းတို့ကို စုမိသော်လည်း ကံကြမ္မာကိုချပေးသူ၏ အလိုကျဆုံးဖြတ်သည့် အတိုင်းသာ ခံစားရာ၏။

၈။ ခိုကိုးရာမဲ့ သူတို့အား ၎င်းတို့ ခံစားရမည့် အဖို့အဌကို ပယ်ရှားပါက တပ်မက်ခြင်းတို့ကို စွန့်လွှတ်၍ သူတော်စဉ်များ ဖြစ်လာကြ၏။

၉။ လူတို့သည် ကောင်းသော ကံကြမ္မာကို ကြည်ရွှင်စွာ လက်ခံ၍ မကောင်းသော ကံကြမ္မာ ကပ်ရောက်သောအခါ ပူပန်ဆင်းရဲကြ၏။ ကံကြမ္မာ၏ တူမျှသော အဟုန်ဖြစ်သောကြောင့် ဤသို့ အဘယ့်ကြောင့် ဖြစ်ရပါသနည်း။

၁၀။ ကံကြမ္မာထက် သန်စွမ်းသော အရာသည် အဘယ်နည်း၊ ထိုကံကြမ္မာကို လမ်းလွဲရန် ကျွန်ုပ်တို့က ကြံစည်သည်ရှိသော် စိတ်မကူးမိကပင် ကျွန်ုပ်တို့ ရှေ့သို့ ကံကြမ္မာသည် ရောက်နှင့်နေလိမ့်မည်တည်း။

သိရကုရယ်လ်

# ပြည့်စုံကုံလုံမှုဆိုင်ရာ ကဏ္ဍ

(အခန်း–၃၉ မှ ၁၀၈)



သိပ္ပကုမ္ပယ်ယ်
မင်းတို့နှင့် ဆိုင်ရာ အခန်း-၃၉ မှ ၆၃။

## အခန်း (၃၉)

မင်းတို့၏ သာလွန်ပွန်ပြတ်မှု။

၁။

တပါးသောမင်း၌ စစ်တပ်၊ လူထု၊ ဘဏ္ဍာ၊ မှူးမတ်၊ မဟာမိတ်နှင့် ခံတပ်တို့ရှိက ထိုခြောက်ပါးဖြင့် မင်းတကာတို့တွင် ခြင်္သေ့မင်းသဖွယ် အုပ်စိုးနိုင်၏။

၂။ အကြောက် ကင်းခြင်း၊ မျှတဝေဖန်ခြင်း၊ ပညာရှိခြင်း၊ ခွန်အား ရှိခြင်းတည်းဟူသော အရည်အချင်း လေးရပ်ကို မလျော့ပေါ့စေရာပေ။ ဤသည်တို့မှာ မင်း၏ ကိုယ်ကျင့်တရားများဖြစ်၏။

၃။ မပြတ် သတိပြုခြင်း၊ လေ့လာခြင်း၊ သတ္တိရှိခြင်းတည်းဟူသော အင်္ဂါသုံးရပ်တို့သည် တိုင်းပြည်ကို အုပ်ချုပ်သော မင်းကောင်း မင်းမြတ်တို့တွင် ကင်းမဲ့၍ မနေအပ်ပေ။

၄။ မင်းဟူသည် ယောက်ျားတို့၏ ဣန္ဒြေလည်းရှိ၏။ ကောင်းမှုမှ လွဲသွေခြင်းလည်း မရှိ။ ဒုစရိုက်ကိုလည်း ရှောင်ရှား၏။

၅။ မင်းမြတ်တို့မည်သည် ဥစ္စာဘဏ္ဍာတို့ကို ရရှိနိုင်၏၊ သိုမှီးနိုင်၏။ စောင့်ရှောက်နိုင်၏။ ဝေငှနိုင်၏။

၆။ တပါးသူတို့ ဝင်ထွက်ရန် လွယ်ကူသည်ဖြစ်၍၊ အဆိုအမိန့်တို့တွင် ကြမ်းတမ်းခက်ထရော် မရှိသော မင်း၏ ပြည်ထောင်အား၊ အခြား ထီးဆောင်း မင်းအပေါင်းတို့သည် ချီးမြှောက်ကြလိမ့်မည်။

၇။ အကြင်မင်းတပါးသည် ဖွယ်ရာစွာ ပြောဆိုပေးကမ်းတတ်သည်ဖြစ်၍ မိမိအား လာရောက်ခိုလှုံသူတို့အား ကာကွယ်နိုင်မည်ဖြစ်လျှင် ထိုမင်းအား တကမ္ဘာလုံးက ချီးမွမ်း၍ ဝပ်တွားကြလိမ့်မည်။

၈။ မင်းကျင့်တရားနှင့်အညီ ကျင့်သုံး၍ တိုင်းသူပြည်သားတို့အား ကာကွယ်စောင့်ရှောက်တတ်သောမင်းကား လူတို့တွင် နတ်တမျှကဲ့သို့ပင်တည်း။

၉။ ခါးသီးသော စကားတို့ကို သည်းခံတတ်သောမင်း၏ ထီးနန်းရိပ်ကို တကမ္ဘာလုံးသည် ခိုလှုံလာကြလိမ့်မည်။

၁၀။ ကောင်းမှု ပြုတတ်ခြင်း၊ သနားကြင်နာတတ်ခြင်း၊ ဖြောင့်မှန်ခြင်း၊ တိုင်းသူပြည်သားတို့အား စောင့်ရှောက်ခြင်းဟူသော အရည်အချင်း လေးပါးနှင့် ပြည့်စုံသော မင်းသည် မင်းတကာတို့တွင် တန်ဆောင် ဆီမီး ဖြစ်၏၊

အခန်း (၅၀)

၁။

ပညာရှာခြင်း။

လူတဦး တယောက်သည် မိမိလေ့လာသင့်သည်တို့ကို လေ့လာရာ၏။ လာမှုနှင့် လျော်ညီစွာ ရှိအပ်သော ကိုယ်ကျင့်တရားကို သိစေရာ၏။

ထိုလေ့

၂။ အက္ခရာများနှင့် ဂဏန်းများသည် လူတို့တွင် မျက်စိနှစ်ကွင်း

ဖြစ်လေသည်။

၃။

ပညာရှိတို့၌ မျက်စိနှစ်လုံးရှိသည်ဆိုကြ၏။ ပညာမရှိသော သူတို့တွင် မျက်နှာ၌ အသုံးမဝင်သော အပေါက် နှစ်ပေါက်မျှသာ ရှိလေသည်။

၄။ ပညာရှိတို့သည် မိမိတို့ တွေ့ဆုံသော လူတိုင်းအား ကြည်ရွှင်ခြင်းကို ဖြစ်စေ၏။ တွေ့ဆုံပြီးသည့်နောက် ခွဲခွါကြတော့မည် အခါတွင် ကျွန်ုပ်တို့ အဘယ်အခါတွင် တွေ့နိုင်ပါအံ့နည်းဟု တပါးသူတို့အား စိတ်စောခြင်းကို ဖြစ်စေ၏။

၅။ ပညာမရှိသူတို့သည် ပညာရှိသူတို့ထက် နိမ့်ကျ၏။ ပညာမဲ့တို့သည် ပညာရှိတို့၏ ရှေ့၌ ခိုကိုးရာမဲ့သော သူများသည် ကြွယ်ဝသူတို့၏ရှေ့၌ တောင်းရမ်းသကဲ့သို့ ရပ်၍ တောင်းရမ်းကြရ၏။

၆။ တွင်းကို နက်စွာ တူးသည်နှင့် အမျှ တွင်းထဲမှ ရေထွက်ပေမည်၊ ထို့အတူ ပညာကိုလည်း လေ့လာ လိုက်စားသည့် အတိုင်းအရှည်မျှ ပညာရောင် ထွန်းလင်း ပေမည်။

၇။ ပညာမလေ့လာဘဲနှင့် သေသည့်တိုင်အောင် လူတို့သည် အဘယ်သို့ နေနိုင်ပါမည်နည်း။ ပညာရှိဘို့တွင် နိုင်ငံတိုင်းသည် မိမိနိုင်ငံရင်းဖြစ်၏၊ မြို့ရွာတိုင်းသည် မိမိ၏ မြို့ရွာဖြစ်လေ၏။

၈။ ဤဘဝတွင် လေ့လာလိုက်စား၍ ရရှိသော ပညာသည် မိမိအား ခုနစ်ဘဝ တိုင် ကြည်ရွှင်မှုကို ပေးနိုင်၏။

၉။ ပညာရှိတို့မည်သည် ပညာကိုပို၍ ရရှိအောင် တမ်းတကြ၏။ ထိုပညာကို တွေ့ရှိသောအခါ မိမိကိုယ်ကိုသာ ကြည်ရွှင်မှု ပေးမည်မဟုတ်။ လောကကြီးအားလည်း ကြည်ရွှင်မှုကို ဖြစ်စေသည်၊

၁၀။ ပညာရှာခြင်းသည် မပျောက်မပျက်နိုင်သော ဘဏ္ဍာကို စုဆောင်းခြင်းပင် ဖြစ်၏။ ၎င်းမှ လွဲ၍ ရရှိသော ဥစ္စာတို့ကား ကြွယ်ဝမှု မဟုတ်ပေ။

**အခန်း (၄၁)**

ပညာပရှာခြင်း။

၁။ မိမိကိုယ်တိုင်က ပညာမပြည့်စုံပါဘဲလျက် ပညာရှိတို့၏ အလယ်တွင် ထွက်ဝင်
ပြောဆိုခြင်းငှာ ကျားကွက်မပါဘဲနှင့် ကျားကစားသည်နှင့် တူ၏။

၂။ ပညာရှိတို့၏ အလယ်တွင် ပညာမရှိဘဲနှင့် စကားပြောဆိုလိုသော သူသည်
ရင်သားမရှိပါဘဲနှင့် အမျိုးသမီးဘဝကိုဝင့်ဝါလိုသော အမျိုးသမီးကဲ့သို့ဖြစ်၏။

၃။ ပညာမရှိသူတို့သည် ပညာရှိတို့၏ အလယ်တွင် မည်ကဲ့သို့ တိတ်ဆိတ်စွာ နေရ
မည်ကို သိရှိပါက အလွန်တော်သူ ဖြစ်၏။

၄။ ပညာမဲ့သောသူအား မိမိ၌ ပင်ကိုယ်ဉာဏ် ကောင်းစေကာမူလည်း ပညာရှိတို့
က ဂရုစိုက်မည် မဟုတ်ပေ။

၅။

မိမိကိုယ်ကို အထင်ကြီးတတ်သော ပညာမဲ့သူ၏ မာန်မာနတို့သည် ပညာရှိတို့၏ အလယ်တွင် စကားပြောသည့် ခဏ၌ ပျောက်ကွယ် သွားပေလိမ့်မည်။

၆။ ပညာမဲ့ခြင်းသည် လွင်တီးခေါင် ကန္တာရနှင့် တူ၏၊ ၎င်းကို ရှိသည်ဟုသာ ဆို
နိုင်သည်၊ အသုံးချ၍ မရပေ။

၇။ ပညာမဲ့သောသူ၏ လှပကောင်းမွန်ခြင်းတို့သည်
မြေအိုးဟလုံးအား ဆေးချယ်
ထားခြင်းကဲ့သို့သာ လှပပေသည်။

၈။

ပညာမရှိသောသူ၏ စုဆောင်း ရရှိသော ဥစ္စာစီးပွားတို့ကား သူဆင်းရဲသည့် အခြေထက်ပင် ကြေကွဲရခြင်းကို ဖြစ်စေ၏။

ပညာရှိသော

မျိုးရိုးဇာတိ အားဖြင့် မြင့်မားသော အတန်းအစားတွင် မွေးဖွားသော မဲ့ သူသည် မျိုးရိုးဇာတိ နိမ့်ကျသော ပညာရှိကို မညီတူနိုင်ပေ။

ပညာ

၁၀။ လူတို့၏ အပါးတွင် တိရစ္ဆာန်များရှိသကဲ့သို့ ပညာရှိတို့၏ အပါးတွင် ပညာမရှိ

သူတို့ ခစားရပေသည်။

၄၁

# သိရုကုရယ်လ်

## အခန်း (၄၂)

### ကြားနာ မှတ်သားရခြင်း။

၁။ နားဖြင့်ကြား၍ ရရှိသောဥစ္စာတို့သည် တို့တွင် အချုပ်ဖြစ်၏။

ထူးမြတ်သောဥစ္စာဖြစ်၏။ ဥစ္စာတကာ

၂။ နားတွင်းသို့ထည့်နိုင်ရန် အစာနည်း၍ နေလျှင် စာကိုလည်း လျှော့ပါလော့။

ဝမ်းပိုက်တွင်းသို့သွင်းသော အာ

၃ ။

နားဖြင့် ကြားရသော ပညာတို့ကို အသုံးချနိုင်သော သူတို့သည် ဤကမ္ဘာလောကဦ ယာဇ်ပူဇော်ခြင်းကို ခံယူနိုင်သော နတ်တို့နှင့် ပမာအတူတူပင်ဖြစ်သည်။

၄။ အကြင် ပုဂ္ဂိုလ် တဦးသည် ပညာမရှိသူ ဖြစ်ပါမူ ပညာရှိ တို့၏ပြောဆိုချက်ကို ကြားနာစေရာ၏၊ ၎င်းသည် ဒုက္ခရောက်စဉ်၌ သူ့အား အထောက်အပံ့ ဖြစ်နိုင်၏။

၅။ ကောင်းမြတ်သော တရားစကားတို့သည် ချော်လဲတတ်သော နေရာတွင် သုံးနိုင်သော တောင်ဝှေး ကဲ့သို့ ဖြစ်၏။

၆။ မည်မျှပင် နည်းပါးသော ပညာမျိုးကို ဖြစ်စေကာမူလည်း သူတယောက်အား ကြားနာစေရာ၏၊ ထိုသို့ကြားနာသောကြောင့် ထိုသူအား ကြီးမြင့်ခြင်းကို ဖြစ်စေသည်။

၇။

အကြင် သူတို့သည် နှုတ်စပ်စွာ ကြိုးကုပ် လေ့လာသည် ဖြစ်၍
အကြောင်းကို ပြည့်စုံစွာ မသိစေကာမူလည်း မိုက်မဲစွာ

အရာဝတ္ထုတို့၏
ပြောကြားခြင်း
မရှိပေ။

၇။ ကြားနာ မှတ်သားဖွယ်တို့ကို ကြားရ၍ နားမဝင်သော
သူများနှင့် တူ၏။

သူတို့သည် နားမကြား

၉။

ကြားနာမှတ်သားရခြင်း ကင်းသူတို့သည် စကားပြောဆိုရာ၌ တည်ငြိမ် ချောင်စွာ
ပြောဆိုတတ်ခြင်း နည်းပါးသည်ကို တွေ့ရ၏။

၁၀။ ရသာမျိုးစုံတို့ကို နှုတ်လျှာတို့မှသာ ခံစားတတ်၍ နားဖြင့် မခံစားတတ်သူတို့
သည် သေသည်ရှင်သည် ဖြစ်သော်လည်း ခြားနားခြင်း မရှိပေ။



သိမှုကုမုယ်ယ်

၁။

ပညာ အပြော် အမြင်။

ဉာဏ်ပညာသည် ပျက်စီးခြင်းတရားတို့ကို တိုက်ခိုက်သော လက်နက် ဖြစ်၏၊ ယင်းသည်ပင် ရန်သူတို့ မဖျက်ဆီးနိုင်သော အတွင်းခံ တပ်ကြီးဖြစ်၏။

၂။ မိမိ၏ စိတ်ကို လွင့်လိုရာ မလွင့်စေဘဲ တည်ငြိမ်အောင် ဆောက်တည်ခြင်း၊ဆိုးရာကို ရှောင်ရှားခြင်း၊ ကောင်းမှုကို ပြုစေခြင်း ဟူသည်များမှာ ဉာဏ်ပညာဖြစ်၏။

၃။

အရာအားလုံးတို့၌ မှန်ကန်သော သစ္စာတရားကို မည်သူက ခွဲခြား သိမြင်နိုင်ခြင်းသည် ဉာဏ်ပညာဖြစ်၏။

ပြောသည် ဖြစ်စေ၊

၄။ ကြားနာရသူတို့အား နားလည် လွယ်အောင် ပြောနိုင်ခြင်းသည်၎င်း၊ အလွန်သေးငယ်သော လျှို့ဝှက်သည့် ကိစ္စကို တပါးသူတို့၏ စကား၌ ပါရှိသည်ကို ခွဲခြား သိနိုင်ခြင်းသည်၎င်း ဉာဏ်ပညာ ဖြစ်၏။

၅။ ကြီးမြတ်သူတို့နှင့် အဆွေခင်ပွန်း ပြုခြင်းသည် မှန်ကန်သော ဉာဏ်ပညာဖြစ်၏။ ထိုသူတို့နှင့်မပြတ်ပေါင်းသင်း၍ ကြာပွင့်တို့ကဲ့သို့ ငုံချည်ပွင့်ချည်မဟုတ်မူဘဲ တသမတ်တည်း ဆက်ဆံနိုင်ခြင်းသည်လည်း ပညာဖြစ်၏။

၆။ ကမ္ဘာကြီး၏ ပကတိ အခြေအနေများနှင့်
သည်လည်း ပညာဖြစ်၏။

လျော့ကပ်ပတ်စွာ နေထိုင်နိုင်ခြင်း

၇။

ပညာရှိဘို့သည် ဖြစ်ပျက်လာမည့် ကိစ္စကို ကြိုတင်၍ သိနိုင်စွမ်း၏။
နိုင်သော သူတို့မှာ ပညာရှိ မဟုတ်ကြချေ။

ထိုသို့မသိ

၉။ ပညာရှိတို့ မည်သည် ဘေးရန် အန္တရာယ်များ မကျရောက် ခြင်းငှာပကောင်း မှုတို့ကို ကြိုတင်တွက်ဆ၍ ကာကွယ်ပြီးသည့်အတွက် ချောက်မချောက် ချားချား မဖြစ်ကြပေ။

၁ ၀ ။

ပညာရှိသော သူတို့သည် အရာအားလုံးကို ပိုင်ဆိုင်၏၊ ပညာမရှိသူကား မိမိတို့၌ မည်မျှပင်ပစ္စည်းပြည့်စေကာမူ ဘာကိုမျှပိုင်ဆိုင်သူမဟုတ်ပေ။



# သိရုကုရယ်လ်

## အခန်း (၄၄)

၁။

## အမှားပြုပြင်တတ်ခြင်း။

မင်းတို့တွင် တကယ် ကြီးကျယ်သော မင်းမြတ်တို့မှာ မာန ထောင်လွှားခြင်း ဒေါသကြီးခြင်း လောဘကြီးခြင်းတို့နှင့် ကင်းသော သူများဖြစ်သည်။

၂။

လောဘရမက်ကြီးခြင်း၊ မတရား မာနတက်ခြင်းနှင့် သေးဖွဲသော မှုတို့မှာ မင်းလုပ်သူတို့တွင် ချွတ်ယွင်းချက် များဖြစ်၏။

အာရုံခံစား

၃။ အပြစ်ကို ကြောက်သော သူတို့အတွက် နှမ်းစေ့ခန့်မျှသော အမှုကို ကျူးလွန်သည်ဖြစ်စေ၊ ထန်းပင် ပမာဏကြီးမား၏။

၄။

မှားယွင်းသော အမှုတို့ကို ရှောင်ရှားရာ၏။ ထိုအမှုတို့သည် အရှည်သဖြင့် ကောင်းကျိုးမပေးတတ်ဘဲ အသက်ကိုရန်ရှာနိုင်သော ရန်သူများဖြစ်ကြ၏။

၅။

မကောင်းမှုတို့အား အချိန်မှီ မတားဆီးနိုင်သော သူ၏ ကောက်ရိုး မီးကဲ့သို့ မကြာမီ ပျက်စီး ရမည်သာတည်း။

ကြွယ်ဝခြင်းသည်

၆။ မိမိ၏ အပြစ်ကို ဦးစွာဖယ်ရှားလျက်၊ တပါးသောသူတို့၏မကောင်းမှုများကို ထပ်မံဖယ်ရှားသော မင်းတို့တွင် မည်သို့သော ပြစ်မှုများ ရှိနိုင်ဦးမည်နည်း။

၇။ လောဘ ကြီးသောသူတို့၏ ဥစ္စာစီးပွားတို့သည် မိမိတို့ ချွေတွင် ကြံစည်သင့်သော အတိုင်းအဆအလျောက် မသုံးစွဲသည် ဖြစ်ခြင်းကြောင့် ဆက်လက်စည်ပင်မည် မဟုတ်ဘဲ ပြုန်းတီးရာ၏။

၈။ လွန်ကျူးစွာ လောဘရမက်ကြီးခြင်းသည် မကောင်းမှုတခုမဟုတ်ဘဲ၊ မကောင်းမှုတို့၏ အလယ်တွင် လွန်ကဲနေသော အရာဖြစ်သည်။

၉။ တပါးသောမင်းသည် မည်သည့်အခါတွင်ဖြစ်စေ မိမိကိုယ်ကို ချီးမွမ်းခြင်း မရှိစေရာ၊ အကျိုးမဲ့ ဖြစ်သော အရာတို့ကိုလည်း ပြုလုပ်ရန် ဆန္ဒမရှိစေရာ။

၁၀။ အုပ်ချုပ်မင်းလုပ်သူတဦးသည် မိမိဆန္ဒရှိသမျှတို့ကို တပါးသူအား အသိမပေးဘဲ တဦးချင်းသာ ပြုလုပ်ပါက ရန်သူတို့၏ အကြံအစည်သည် ပျက်ပြားရမည်သာတည်း။

သိ ရု ကု ရ ယ် လ်

## အခန်း (၄၅)

### ကြီးမြင့်သူတို့နှင့် မိတ်ပြုခြင်း။ ၁။

ပညာပြည့်စုံသောသူ၊ ဂုဏ်ရှိသော သူတို့နှင့်
တပါးသည် ချင့်ချိန်ရာ၏။

ပေါင်းသွဲ့ရခြင်း၏ တန်ဖိုးကို မင်း

၂။

မင်းတို့မည်သည် အခက်အခဲအပေါင်းတို့အား လွန်မြောက်ရန် ပြုနိုင်စွမ်းသော
သူတို့ကိုစောင့်ရှောက်ရာ၏၊ အခက်အခဲတို့ကို မဖြစ်မီက ကြိုတင်တားဆီးရာ၏။

၃။

ပညာရှိတို့အား ချီးမြှောက်၍ မိမိနှင့် ထပ်တူပြုနိုင်ခြင်းသည် အလွန်ခက်ခဲသော
အမှုတရပ် ဖြစ်သည်။

၄။ မိမိထက် ကြီးမြတ်သူတို့ကို စည်းရုံးနိုင်၍ ကိုယ်နှင့်အတူ
ဆုံးသော တန်ခိုးစွမ်းအင်ကို ရရှိ၏။

ပြုနိုင်သူသည် အမြင့်

၅။ တိုင်းပြည်ကို အုပ်ချုပ်ရာတွင် မင်းသည် မှူးမတ်တို့အား မျက်လုံးကဲ့သို့ အသုံးပြုရာ၏၊ ထိုမှူးမတ်တို့အား မခန့်ထားမီ ၎င်းတို့၏ ကိုယ်ကျင့်တရားနှင့် အရည်အသွေးတို့ကို ကောင်းစွာ စူးစမ်းရာ၏။

၆။ အကြင်သူသည် လျော်ကန်သင့် မြတ်သော ပုဂ္ဂိုလ်တို့နှင့် ပေါင်းဖက်ဆက်သွယ်နိုင်သော စွမ်းအားရှိပြီးအံ့၊ ထိုသူအား ရန်သူတို့သည် တုပ ဖက်ပြိုင်ခြင်းငှာ တတ်နိုင်မည်နည်း မရှိတော့ပေ။

၇။

မိမိအား ဆုံးမနိုင်သော အမှုထမ်းတို့အား စုစည်း အုပ်ချုပ်အဘယ်သူသည် ဖျက်ဆီးရန် တတ်နိုင်ပါမည်နည်း။

ထားနိုင်သူကို ဂ။

မိမိအား ဆင်ခြေဆင်လက်ဖြင့် လမ်းညွှန်ပေးနိုင်သော ပုဂ္ဂိုလ်တို့ မရှိသော မင်းတွင် ရန်သူတို့ မပေါ်ပေါက် ငြားလည်း အလိုလို ပျက်စီးရမည်ဖြစ်၏။

၉။ အရင်းအနှီး မရှိသောသူ၌ အမြတ်အစွန်း မရှိနိုင်၊ တပည့်သူ၌ တည်တံ့ခိုင်မြဲခြင်း မရှိနိုင်။

လက်သား မရှိသော

၁၀။ တပါးသူတို့အား မုန်းတီးအောင် ပြုခြင်းထက် ကောင်းမြတ်သူတို့နှင့် မိတ်ဆွေ ဖြစ်ရခြင်းကို ပျက်ပြယ်အောင် ပြုခြင်းအမှုသည် ဆယ်ဆသာလွန်၍ အန္တရာယ် ကြီး၏။



# သိရကုရယ်လ်

## အခန်း (၄၆)

## လူမိုက်တို့အား ရှောင်ကြဉ်ခြင်း။

၁။ နိမ့်ကျသော သူတို့နှင့် ပေါင်းသင်းရခြင်းကို ကြီးမြတ်သော သူတို့သည် ကြောက်ရွံ့ကြ၏၊ စိတ်ထားနုံနဲ့သော သူတို့သာလျှင် ၎င်းတို့အား မိတ်ဆွေ အဖြစ် ပေါင်းသင်းကြ၏။

၂။

ရေသည် မြေ၏ သဘာဝကို လိုက်၍ စီးဆင်းသကဲ့သို့ လူတို့သည်လည်း မိမိတို့ ပေါင်းသင်းရာ ပုဂ္ဂိုလ်တို့၏ ကိုယ်ကျင့်တရားနှင့် ညီစွာ ရှိကြကုန်သည်။

၃။

သိရှိနိုင်ခြင်း စွမ်းအားမှာ စိတ်မှသာ ဆင်းသက်သည်၊ သို့သော် လူတဦး၏ ပေါင်းသင်းဖက်များကို ကြည့်ရှု၍ ထိုသူအား မည်သို့ လူစားမျိုး ဖြစ်သည်ကို သိရှိနိုင်၏။

၄။

လူတို့၏ အသိဉာဏ်မှာ မိမိ၏အတွင်းစိတ်မှ လာသည်ဟု ထင်မြင်ရသော်လည်း အမှန်စင်စစ်တွင် သူ့ မိတ်ဆွေ အပေါင်း အသင်းများထံမှ ဆင်းသက် ခြင်းသာ ဖြစ်သည်။

၅။

သန့်စင်မွန်မြတ်သော သူတို့နှင့် ပေါင်းသင်း ရခြင်းသည် စိတ်ထား စင်ကြယ်ခြင်းနှင့် ကိုယ်ကျင့်တရား ကောင်းမွန်ခြင်းတည်းဟူသော အကျိုးနှစ်ခုကိုပေး၏။

၆။ စိတ်ထား စင်ကြယ်သော သူတို့တွင် အလားတူ အရည်အချင်းရှိသော စဉ်ဆက် သားမြေးတို့သာ မွေးဖွား၏၊ အဘယ်ကြောင့် ဆိုသော် အပေါင်း အသင်း ကောင်းမွန်သူတို့တွင် မကောင်းမှုများကို ကျူးလွန်လေ့ မရှိကြသောကြောင့် ဖြစ်၏။

၇။ စိတ်ထား ကောင်းမွန်ခြင်းသည်
အသင်း ကောင်းမွန်ခြင်းသည်

စီးပွားဥစ္စာကို ဖြစ်စေ၏၊ မိတ်ဆွေ အပေါင်း ဂ၊
လူသူ ချီးမွမ်းခြင်းကို ခံရ၏။

လူတို့တွင်ပင် ကိုယ်စိတ်ထားအားဖြင့်ကောင်းမွန်ကြသူများပင် ဖြစ်သော်လည်း
အပေါင်းအသင်း ကောင်းခြင်းသည် ပညာရှိတို့ အတွက် အကျိုးထူး တခုပင်။
၉။

အနာဂါတ် ကောင်းစားရေးသည် စိတ်ထား ကောင်းမွန်မှုကြောင့် ဖြစ်ပေ၏၊
အပေါင်းအသင်း ကောင်းမွန်ခြင်းကြောင့် ဤသို့သော အကျိုးပေး ရရှိခြင်း
ဖြစ်သည်။
၁၀။

လူလိမ်မာများနှင့် ပေါင်းခြင်းထက် ထူးသောအကျိုး ပေးသည် မရှိ၊ လူယုတ်
မာများနှင့် ပေါင်းခြင်းထက် ဝမ်းနည်း ကျေကွဲရခြင်းကို ပို၍ပေးနိုင်သော အ
ရာသည်မရှိ။
၄၆

အခန်း (၄၇)

ကြိုတင်ကြံဆ၍ ဆောင်ရွက်ခြင်း။

၁။ အကြင်သူတဦးသည် ဤအမှုကိုပြုလျှင် မည်မျှဆုံးရှုံးမည်၊ မည်မျှရရှိမည်၊ မိမိတွင် မည်သို့ ရည်မှန်းချက်ရှိသည် စသည်တို့ကို သေချာစွာ စဉ်းစား ကြံဆပြီးမှ အမှုကို စတင်ရော၏။

၂။ တစုံတရာကို မပြုလုပ်မီ မိမိတို့ကိုယ်ပိုင် မဟောင်းမှာ ကြိုးသပ်ပြီး ဆုံးနောက် ရင်းနှီးသော မိတ်ဆွေများနှင့် တိုင်ပင်ပြီးမှ ဆောင်ရွက်ခြင်းဖြစ်ပါက မည်သည့် အမှုမှ အလွန် ခက်ခဲတော့မည် မဟုတ်ပေ။

၃။

ပညာရှိတို့သည် အကျိုးအမြတ်ကို မြော်မြင်သောကြောင့် မိမိတို့၏ မူကိုဆုံးရှုံးစေမည့် အမှုမျိုးအား ပြုလုပ်လိမ့်မည် မဟုတ်ပေ။

၄။

ကဲ့ရဲ့ပြစ်တင်ခြင်းကို မခံလိုသူသည် မိမိ သေချာဂနစွာ စဉ်းစားဆုံးဖြတ်၍ ရှင်းလင်းစွာ မသိသေးသည့် အမှုတို့ကို လုပ်လေ့ လုပ်ထ မရှိကြပေ။

၅။

ပြည့်ရှင်မင်းအတွက် ရန်သူ အားပေး ချီးမြှောက်ရာ ရောက်သော မိမိ၏ အစွမ်းကို ကောင်းစွာမချိန်ဆဘဲ စစ်ထိုးခြင်းပင်တည်း။

အမှုသည်          ၆။

မလုပ်သင့်သည်တို့ကို လုပ်သော သူသည် ပျက်စီးရမည် ဖြစ်၏၊ တို့ကိုမလုပ်သော သူသည်လည်း ပျက်စီးရမည်ဖြစ်၏။

လုပ်သင့်သည်          ၇။          ဦးစွာပထမ
                                        မှ ကျွန်ုပ်တို့

စဉ်းစားပြီးမှ အလုပ်ကို လုပ်ပါလေ၊ လုပ်ငန်းစပြီးသည့် နောက် စဉ်းစားကြပါစို့ဟူ၍ ဆိုခြင်းသည် ကဲ့ရဲ့ဘွယ်ဖြစ်၏။

၈။

အလုပ်တခုကို မသင့်လျော်သော နည်းလမ်းများဖြင့် ပြုလုပ်ပါက လူများစွာက ပင်ဝိုင်းဝန်း ကာကွယ် ကြသော်လည်း ဆုံးရှုံး ရမည်သာဖြစ်၏။

၉။          ကောင်းသော အမှုကို ပြုစေကာမူလည်း
              ဆောင်ရွက်မိပါက ဆုံးရှုံးမှု ရှိတတ်၏။

၁၀။ အကြင် ပုဂ္ဂိုလ်တဦးသည် ကဲ့ရဲ့ပြစ်တင်ခြင်း ကင်းသော အမှုမျိုးကိုသာ နိုင်း ချိန်စဉ်းစား၍ ပြုရာ၏၊ သဘောမတူညီဘွယ် ဖြစ်သော အမှုများကို ပြုပါ က လောကကြီးသည် မိမိနှင့် သဘောချင်း တူညီမဟုတ်ပေ။



# သိရကုရယ်လ်

## အခန်း (၄၈)

မိမိအင်အားကို သိခြင်း။

၁။ မင်းတပါးသည် မိမိပြုလုပ်မည့် အမှု၏ အင်အားကို သိရာ၏၊ မိမိ၏ ခွန်အား ကို ချင့်ချိန်ရာ၏၊ ရန်သူ၏ အင်အားကိုရင်း၊ မဟာမိတ်များ၏ အင်အားကိုရင်း ချင့်တွက် ပြီးကာမှ စတင် ဆောင်ရွက်ရာ၏။

၂။ အကြင်သူ၌ ပဌမ ဦးစွာ ရန်သူအား မတိုက်ခိုက်မီ မိမိ၏ ကိုယ်စွမ်း ကိုယ်စ ကိုဒင်း၊ ပြုဘွယ်ရှိသည်တို့ကိုဒင်း သိရှိပြီးသည့်နောက် ထိုကိစ္စပေါ်တွင် လုံးလုံး လျားလျား အားထုတ် ဆောင်ရွက်တတ်လျှင် မပြီးမြောက်နိုင်သောအရာလည်း မရှိ။

၃။ များစွာသော သူတို့မှာ မိမိတို့တွင် စွမ်းအား မရှိကြောင်းကို မသိမြင် ဘဲလျက် ‹ ာက်မာဝင့်ကြွားစွာ စစ်ပြုမိသည် ဖြစ်သောကြောင့် တိုက်ယင်း ဆဲဆဲမှာပင် ခါးကျိုး၍ ရှုံးရတတ် လေသည်။

၄။ အကြင်မင်းသည် မိမိ၏ စွမ်းအားကိုလည်း မသိ၊ မိမိ ကိုယ်ကိုလည်း ကြီးမြင့် သည်ဟူ၍ ဝင့်ဝါ ချီးမြှောက်၏၊ အိမ်နီးချင်း နိုင်ငံများနှင့်လည်း မသင့်မြတ်၊ ထိုမင်းမျိုးသည် လျင်မြန်စွာ ပျက်စီးရမည် ဖြစ်သည်။

၅။ ဒေါင်းတောင်တို့ကိုပင်လည်း ပိုမို၍ တင်သောအခါ လှည်းဘီးသည် ဝန်ပိသဖြင့် ကျိုးရတတ်၏။

၆။ အကြင်သူတဦးသည် သစ်ကိုင်းဖျားသို့ ရဲရဲဝံ့ဝံ့ သွား၍ တက်လျှင် အသက်ဆုံး ရှုံး ရတတ်၏။

၇။ အကြင် ပုဂ္ဂိုလ်သည် မိမိ၌ ပေးစွမ်းနိုင်သော အင်အားကို သိရာ၏။ သိသည့် အလျောက်ပေးရာ၏၊ ထိုသို့ ပေးကမ်းခြင်းသည် မိမိစည်းစိမ်ကို ထိန်းသိမ်းရန် နည်းလမ်း ဖြစ်၏။

၈။ မင်း၏ ဘဏ္ဍာငွေသည် အဝင်ပင် နည်းသော်လည်း ထွက်ငွေမှာ သင့်တင့်စွာ ရှိပါက မိမိ၌ မဆုံးရှုံးနိုင်။

၉။ မိမိ၏ ဥစ္စာမနေ အင်အားကို မမှန်းဆတတ်ပါဘဲနှင့် ဖေါဖေါသီသီ ပြုသူကား ဝင်ငွေ ဆက်သက်၍ ရှိနေမည် ထင်ရသော်လည်း မကြာမီ ပျက်စီးရတတ် သည်။

၁၀။ မိမိ၏ ဥစ္စာဓနများကို မရှုမကြည့်ဘဲ ...
ပျက်စီးရ၏။



အခန်း (၄၉)
အခါအခွင့်ကို သိခြင်း။

၁။ နေ့အခါတွင် ချီးငှက်သည်၊ ဇီးကွက်ကို အနိုင်ယူနိုင်၏၊ထို့အတူမိမိ၏ ရန်သူကို
နိုင်နင်းလိုသော မင်းသည် လျော်ကပ်သော အချိန်ကို သိရာ၏။

၂။ အချိန် ရာသီနှင့် ကိုက်အောင် ဆောင်ရွက် နိုင်ခြင်းသည် ထိုမင်းမြတ်အား
အောင်မြင်ခြင်းဟူသော နှောင်ကြိုးကို မြဲမြံစေ၏။

၃။ အချိန်အခါနှင့် အညီ သင့်လျော်သော လက်နက်ကရိယာများကို သုံး၍ ဆောင်
ရွက်နိုင်သူအား ခဲရာခဲဆစ် ဟူ၍ ရှိနိုင်ပါမည်လော။

၄။ အကြင်သူသည် ကာလဒေသနှင့် အညီ ဆောင်ရွက်နိုင်မည် ဆိုပါက ကမ္ဘာ

ကြီးကို အုပ်စိုးလိုသော်လည်း အောင်နိုင်ရာ၏။

၅။ မိမိတို့၏ အကြံအစည်ကို ချင့်ချိန်၍ အချိန်ကောင်းအခါကောင်းကို စောင့်တတ်သော သူတို့သည် ကမ္ဘာကြီးကို အုပ်စိုးနိုင်ရာ၏။

၆။ အခွင့်အခါ မသင့်သေးပဲ မိမိ၏ ထက်သန်သော ထိုးမည့်ဆင် နောက်ဆုတ်ခြင်း ဖြစ်သည်။

စိတ်ကို ထိန်းသိမ်းခြင်းသည်

၇။ ပညာရှိတို့သည် မိမိတို့၏ ဒေါသကို ရုတ်ပြည်းဖေါ်ထုတ်သည် မဟုတ်ပေ၊ သူတို့သည် အချိန်ကို စောင့်၍ အမျက်ကို အပြင်သို့ မထွက်စေကြပေ။

၈။ မင်းသည် ရန်သူကို တွေ့သောအခါ ထိုသူ၏ ပျက်စီးခြင်းကာလသို့ မရောက်

သေးမီ တောင်းစွာသော ဆက်ဆံမှုကို အလေးအနက် ပြုရာ၏၊ အချိန်သင့်ပြီ

ဆိုသောအခါထိုရန်သူ၏ ဦးခေါင်းကို အလွယ်တကူ ယူနိုင်လေပြီ။

၉။ ဖြစ်ထောင့်ဖြစ်ခဲ ဖြစ်ခေသာအခါ အခွင့်မျိုး ပေါ်ပေါက်သည့်အခါ အခွင့်ရှိစဉ်

ဖြစ်ထောင့်ဖြစ်ခဲပြုနိုင်စွမ်းသော အမှုမျိုးကို ပြုရာ၏။

၁၀။ မင်းတပါးသည် မိမိ၏ ကိုယ်ကို ထိန်းသိမ်းအပ်သော အချိန်တွင် ဝေသာလီ

ဗျိုင်းကဲ့သို့ တည်ငြိမ်စွာ ရှိရာ၏၊ အကယ်၍ ထိုးနှက် ကိုက်ခိုက်ရပေသည်ရှိသော

အခါ လိုအပ်သည့်အတိုင်း ပြုလုပ်ရာ၏။



## သိရကုရယ်လ်

**အခန်း (၅၀)**

၁။

**နေရာကောင်းကို ရွေးခြင်း။**

တပါးသော မင်းသည် မိမိ၏ ရန်သူအား ဝန်းဝိုင်းထားရန် အခြေ အနေ မရသေးမီ၊ စက်ဆုတ်ဖွယ် ပြုလုပ်ခြင်း၊ တစုံတရာ ရန်စ တိုက်ခိုက်ခြင်းတို့ကို မပြုသင့်ပေ။

၂။

တန်ခိုးစွမ်းအားကြီးမား၍ တိုက်ရည်ခိုက်ရည် ရှိသော သူတို့ပင် ဖြစ်စေကာမူ ခံတပ်ကို အသုံးပြု၍ နေရာယူ တိုက်ခိုက်ခြင်းသည် များစွာသော အကျိုးကို ရစေနိုင်၏။

၃။

ရန်သူနှင့် တိုက်ခိုက်သောအခါ နေရာကောင်းကို ရရှိ၍ အကာအကွယ် ပြုလုပ် တိုက်ခိုက်နိုင်ပါက အင်အား မရှိသောသူပင် ဖြစ်စေ အင်အား ရရှိ လာနိုင်၏။

၄။ ရန်သူတို့အား ချဉ်းကပ်တိုက်ခိုက်ရာ၌ နေရာကောင်းကို ရရန်ရွေးရာ၏။ ရန်သူကို မိမိက ချေမှုန်းနိုင်မည်ဟု အလွယ်ထင်သော် နောက်ဆုံးတွင် ထိုအထင်ကို လက်လွှတ် ရတတ်ပေသည်။

၅။ ရေနက်ထဲတွင် မိကျောင်းသည် အခြား သတ္တဝါတို့ကို စိုးမိုးနိုင်၏။ ရေပေါ်မှ လွဲလျှင်ကား အခြားသတ္တဝါတို့က မိကျောင်းကို နိုင်လိမ့်မည်။

၆။ မည်မျှသန်မာသော ရထားဘီးတို့ တပ်ဆင်သောရထားပင် ဖြစ်စေကာမူလည်း ပင်လယ်ပြင်ပေါ်တွင် မောင်းနှင်၍မရ၊ ရွက်သင်္ဘောများသည်လည်း ပင်လယ်ပြင်မှတပါး ကုန်းပေါ်တွင် ရွက်လွှင့်၍ မရ။

၇။ မိမိ၏ တိုက်ခိုက်မှုအတွက် နေရာကောင်းကို ရွေးပြီးလျှက် မည်သို့ ပြုလုပ် ရမည်ကို ဆင်ခြင်ပြီးသူအတို့ မကြောက်ခြင်း တရားမှလွဲ၍ ဘာမျှမလိုပေ။

၈။

အတန်သေးငယ်သော စစ်ဝပ်များဖြင့် တိုက်ခိုက်နိုင်သော နေရာတွင် တပ်မကြီးများနှင့် သွားရောက် တိုက်ခိုက်ပါက ရှုံးရပေလိမ့်မည်။

၉။ အကြင် သူတို့၏ နေရင်းဒေသတွင် သွားရောက်တိုက်ခိုက် ရခြင်းသည် ထိုသူတို့၌ အင်အားသည်ရင်း၊ ခံတပ်ကောင်းသည်ရင်း၊ မရှိသော်ငြားလည်း တိုက်ခိုက်ရသူ အတွက်ဘေးရန်များ မြောင်လှသော အလုပ်ဖြစ်သည်။

၁၀။ မြေရွေး တကောင်ကပင်လည်း စစ်ဆင် ပြောင်ကြီးကို၊ ညွှန်တွင် နစ်နေသောအခါ တိုက်ခိုက် သတ်ဖြတ်နိုင်၏။

၅၀

## သိရကုဒ္ဒယ်လ်

### အခန်း (၅၁)

### မသုံးဖြတ်မီ ချင့်ချိန်ခြင်း။

၁။ မှူးမတ်တို့ကို ရွေးရာ၌ သူ၏ ဂုဏ်ကျေး၊ သူ၏ ပစ္စည်း ဥစ္စာတပ်မက်မှု၊ သူ၏ ကာမဂုဏ်ကိစ္စ၊ သူ၏ အသက်အန္တရာယ် စိုးရိမ်မှု အစရှိသော အကြောင်းလေးပါးတို့ကို စမ်းသပ် စစ်ဆေးပြီးမှသာလျှင် ရွေးချယ် ခန့်ထားရာ၏။

၂။ မင်းလုပ်သူ၏ ရွေးချယ်ရာ၌ မျိုးရိုးကောင်းသော သူတို့ကိုငင်း၊ အပြစ်ကင်းသောသူတို့ကိုငင်း၊ အပြစ်ကို ကြောက်တတ်သူတို့ကိုငင်း၊ သတ်မှတ် ရွေးချယ်ရာ၏။

၃။ အကြင် သူတို့သည် ခက်ခဲသော စာပေ ကျမ်းဂန်များကို လေ့လာ ခဲ့ဘူး၍ မကောင်းမှုများမှ ကင်းရှင်းကြသည် ဆိုငြားလည်း အကယ် စစ်ဆေး ကြည့်သောအခါ အသိဉာဏ်ကင်းမှုနှင့် မလွတ်ကင်းရှိတတ်၏။

၄။ မင်းလုပ်သူသည် လူတို့၏ အရည်အသွေး ကောင်းမှုကို ချင့်ချိန်နိုင်၏၊ ထိုသူ၏ အပြစ်တို့ကို ချင့်ချိန်ရာ၏၊ ထိုအလဲမှ အကြီးမြတ်ဆုံး အမှုတို့ကို ချင့်ချိန်ရာ၏၊ ထိုအချက်တို့ကို မှီ၍ မင်းတို့သည် ဆုံးဖြတ်ရာ၏။

## ၅။ လူတဦးပြုသော အမှုတို့သည် ဖြစ်၏တည်း။

## သူ၏မြင့်မြတ်မှုသေးသိမ်မှုတို့၏မှတ်ကျောက်ပင်

၆။ အုပ်ချုပ် မင်းလုပ်တဦးသည် လူကိုရွေးချယ်ရာ၌ ဆွေမျိုးမရှိသော သူတို့ကိုငင်း၊ သံယောဇဉ် အတွယ် အတာမရှိသော သူတို့ကိုငင်း၊ မရွေးချယ်ရာပေ၊ သူတို့သည် ရာဇဝတ် မှုပြုရန် မကြောက်ရွံ့ သူများဖြစ်၏။

## ၇။ ဂတိလိုက်စား၍ ပညာမရှိသော သော မိုက်မဲမှုပင် ဖြစ်၏။

## သူအား ရွေးချယ် မိလျှင် မိမိ၏ အမြင့်ဆုံး

၈ ။

ထိုသူ၏ ကိုယ်ကျင့် တရားကို မသိရှိပါဘဲနှင့် ရွေးချယ် ခန့်ထား မိပါက ထိုသို့ ပြုမိသော သူသည် သားစဉ် မြေးဆက် ဝမ်းနည်း ကြေကွဲရခြင်း ဖြစ်တတ်၏။

၉။ မင်းတို့မည်သည် လူရွေးချယ်ရာ၌ ကြိုတင် စိတ်ကြိုက် မပါစေဘဲပြုရာ၏၊ ရွေးချယ်ပြီးပါကလည်း တဦးစီ တဦးစီအား၊ မိမိတို့ ထမ်းဆောင်ရမည့် တာဝန်နှင့် လျော်ညီအောင် ပေးရာ၏။

၁၀။ မစစ်ဆေး မမေးမြန်းဘဲနှင့်
သံသယ ရှိနေရလျှင်ငှင်း၊

ရွေးချယ်ခြင်းသည်ငှင်း၊ မိမိ ရွေးချယ်ပြီးသူအား
မပြင်နိုင်သော ဝမ်းနည်း ကြေကွဲခြင်း အမှုကို
ပြုရတတ်သည်။

သိရုကုရယ်လ်

အခန်း (၅၂)

အမှုထမ်းများ ခန့်ထားခြင်း။

၁။

အကောင်းအဆိုးတို့ကို ခွဲခြားလေ့လာနိုင်၍ ပင်ကိုယ်အားဖြင့် အကောင်းကိုသာ ရွေးချယ်တတ်သောပုဂ္ဂိုလ်မျိုးအား မင်းသည်သူကောင်းပြုခန့်ထားအပ်၏။

၂။ အကြင်သူသည် အစွန်အတုပ်တို့ကို ပွားစေနိုင်၏၊ ဘဏ္ဍာတော်ကို တိုးတက်စေနိုင်၏၊ ယင်းတို့ကို ပျက်စီးမည့်ဘေးမှ ကြိုတင် ကာကွယ်နိုင်၏။ ထိုပုဂ္ဂိုလ်မျိုးအား မင်းမှုကို ထမ်းစေ သင့်လေသည်။

၃။ မင်းတို့သည် အောက်ပါ အရည်အချင်း လေးမျိုးရှိသော ပုဂ္ဂိုလ်တို့အား ရွေးချယ်ခန့်အပ်ရာ၏။ ထိုအရည်အချင်းလေးမျိုးမှာ မေတ္တာထားခြင်း၊ပညာရှိခြင်း၊ စိတ်တည်ကြည်ခြင်း။ တပ်မက်မှုကင်းခြင်းတို့ ဖြစ်သည်။

၄။ ဤသို့ပင် ရွေးချယ်သော်ငြားလည်း လူတို့မှာ မိမိတို့ တာဝန်ကို လိုက်၍ စိတ်ပြောင်းလွဲ တတ်သေး၏။

## ထမ်းဆောင်ရသော အမှု

၅။ မင်း၏ အမှုတို့မည်သည်မှာ ပညာရှိ၍ သည်းခံတတ်သော ပုဂ္ဂိုလ် မျိုးမှသာ ပြီးစီးအောင် ဆောင်ရွက်နိုင်၏။ မင်း၏ ပုဂ္ဂလိကခင်မင်မှုဖြင့် ခန့်ထားအပ်သော ကိစ္စမျိုးမဟုတ်ပေ။

၆။ မင်းသည် မိမိခန့်ထားမည့်သူအား သေချာစွာ ချင့်ချိန်၍၎င်း၊ ထိုသူပြုရမည့် အမှုအား သေချာစွာ ချင့်ချိန်၍၎င်း၊ ထိုသို့ခန့်အပ်ရမည့် အချိန်အား သေချာစွာချင့်ချိန်၍၎င်း၊ ပြုလုပ်ဆောင်ရွက်ရာ၏။

၇။

အုပ်ချုပ် မင်းလုပ်မှုသည် ဤသူကား ဤအမှုကို ဤသို့နည်းဖြင့် ဆောင်ရွက်နိုင်သည်ဟု ဆင်ခြင် ဆုံးဖြတ်ပြီးမှသာလျှင် ထိုသူအား ပေးအပ်သော အမှုကို ထမ်းဆောင်ရန် အပ်သင့်၏။

၇။ လူတယောက်အား မည်သို့သော အမှုတာဝန်နှင့် သင့်လျော်မည်ကိုချင့်ချိန်ပြီးမှ
ခန့်အပ်သင့်၏။

၉။

မိမိအား အစဉ်သဖြင့် အမှုထမ်းဆောင် ပေးတတ်သော အဆွေခင်ပွန်း တို့၏ အပေါ်တွင် သံသယဖြစ်တတ်သော မင်းအား အကျိုးစီးပွားတို့သည် ပျက်ပြား
တတ်၏။

၁၀။မင်းသည် မိမိ၏ အမှုထမ်းများအား ကိုယ်ကျင့် တရားကို နေ့စဉ် စစ်ဆေး ရာ၏။ ထိုသူတို့သည် မဖြောင့်မမှန်မပြုလုပ်ပါက၊ လောက အလုံးသည်လည်း မဖြောင့်မမှန် ဖြစ်လာမည် မဟုတ်ပေ။

သိရုကုရယ်ပ်

အခန်း (၅၃)

၁။

ဆွေမျိုးများအား ကြင်နာမှု။

အကြွင်းသူ၌ ဥစ္စာပစ္စည်းတို့သည် ဆုံးရှုံးပျက်ပြားကုန်သည် ဖြစ်စေကာမူလည်း မိမိ၏ ဆွေမျိုးတို့က မခြားသော ကြင်နာစိတ်ဖြင့် စောင့်ရှောက်ကြလိမ့်မည်။

၂။

မိမိ၏ အဆွေအမျိုးတို့သည် မပြောင်းလဲသော မေတ္တာဖြင့် ချစ်ခင်မှုရှိနေပါက၊ ထိုအချက်သည် စီးပွား တိုးတက်ရာ တိုးတက်ကြောင်းဖြစ်၏။

၃။

အဆွေအမျိုးတို့နှင့် ပေါင်းစည်း ရောယှက်ခြင်း မပြုသော သူ၏ တို့သည် အတားအဆီးမရှိသော ရေကန်ကြီးကဲ့သို့ ဖြစ်သည်။

ဥစ္စာစီးပွား

၄။ အဆွေအမျိုးတို့ဖြင့် ခြံရံ၍ နေရခြင်းသည်
တရပ် ဖြစ်ပေသည်။

စီးပွားဥစ္စာရရှိခြင်း၏ အကြောင်း

၅။

အကြွင်သူသည် ဖေါ်ရွေ ပျူငှာ၍ ပြေပြစ်စွာ ဆက်ဆံသူဖြစ်လျှင် သော အဆွေအမျိုးတို့သည် ထိုသူ့အား ခြံရံ၍ နေလိမ့်မည်။

များလှစွာ

၆။ အကြင်သူသည် များလှစွာသော လက်ဆောင်တို့ကို ပြုတတ်၏၊ ဒေါသတရားကို ကိုယ်တွင်းသို့ ဝင်မလာစေရန် တားဆီးနိုင်၏။ ထိုသူမျိုးမှ လွဲ၍ ကမ္ဘာလောကကြီးတွင် အဆွေအမျိုး ပေါများစွာ ခြံရံသော သူသည် ရှိလိမ့်မည် မဟုတ်ပေ။

၇။ ကျီးတို့သည် အစာကို မြင်သော အခါ လျှို့ဝှက်သည် မရှိဘဲ အပေါ် အပေါင်းတို့ကို အော်ခေါ်၍ စားသောက် တတ်ကြ၏။ ဤသို့ အလားတူ ပြုတတ်သော သူတို့အား အကျိုးစီးပွားသည် ဖြစ်နိုင်ပေ၏။

၈။ ဆွေမျိုးတို့အား မည်သူ့ ကိုမဆို တမျိုးတစားတည်းမဟုတ်ဘဲ အရည်အသွေးကို လိုက်၍ စောင့်ရှောက်တတ်ကြောင်း သိလျှင် ထိုမင်းအား ဆွေမျိုးတို့သည် ချဉ်းကပ်ကြလိမ့်မည်။

၉။ အချင်းချင်း သဘော မတိုက်ဆိုင်မှုများကို ပယ်ရှားနိုင်ခဲ့လျှင် သဘောချင်း မတူသဖြင့် စွန့်ခွါသွားကြသော တခါက မိမိ၏ မိတ်ဆွေများပင် ပြန်၍ ပူးပေါင်း လာကြလိမ့်မည်။

၁၀။ အကြင်သူသည် မိမိအား စွန့်ခွါသွား၏၊ ထိုနောက် အကြောင်း တကြောင်းကြောင်းဖြင့် ပြန်လည် ရောက်ရှိလာ၏၊ ထိုသို့ရောက်ရှိလာသောသူအား လိုလားချက်အတိုင်း မင်းသည် အလိုဖြည့်ရာ၏။

၈



# သိရုကုရယ်လ်

## အခန်း (၅၄)

၁။

မမေ့မလျော့ခြင်း။

အပျော်ကျူးသဖြင့် မေ့မေ့လျော့လျော့ နေတတ်ခြင်းသည်၊ ဒေါသကြီး သဖြင့် မကောင်းမှုကို ကျူးလွန်ခြင်းထက် ဆိုးဝါး၏။

၂။

မေ့လျော့ခြင်းသည် မိမိဂုဏ် သိန်ကို ပျက်ပြားစေ၏၊ အစဉ် အမြဲ သည် ပညာဗဟုသုတ ရစေမှုကို ဖျက်ဆီး စေသကဲ့သို့ဖြစ်၏။

ဆင်းရဲခြင်း

၃။

မေ့လျော့ တတ်သူတို့သည် မည်သည့်အခါမှ ကျော်စောခြင်း ရှိမည် မဟုတ်ပေ၊ ဤအချက်ကို ကမ္ဘာပေါ်ရှိ ကျမ်းဂန်အားလုံးက အထင် အရှားပြကြ၏။

၄။ သူရဲဘော နည်းသောသူတို့သည် မိမိ၌ မည်သို့သော ခံတပ်ကြီးများပင် ခြံရံ၍ နေစေကာမူ အကာအကွယ် မရှိသကဲ့သို့၊ မေ့လျော့တတ်သော သူတို့တွင်လည်း မည်သို့သော အကျိုးထူးများ ရှိနေသော်လည်း ကောင်းရာ ကောင်းမှု မဖြစ် နိုင်ချေ။

၅။

မေ့လျော့ပေါ့တန်ခြင်း ရှိသောသူသည် ဥပဒ်အန္တရာယ်များမှ ကြိုတင် မကာကွယ်နိုင်သည်ဖြစ်၍ မိမိ၏ အမှားကို နောင်အခါတွင် ကြေကွဲစွာဖြင့် တသ ရလိမ့်မည်၊

၆၊ လူအားလုံးတို့အတွက် အခါခပ်သိမ်း၌ မမေ့မလျော့ ရှိခြင်းထက် ကောင်းသော အရာသည်မရှိပေ။

၇၊

သေချာဂရုစွာ သတိထား၍ စဉ်စား ဆင်ခြင်ကာ ပြုလုပ်သော အမှုဖြစ်ပါက မည်သည့် အရာမှမပြီး ခက်ခဲကြီး ဟူ၍ မရှိပေ။

၈၊ အကြင်သူသည် ပညာရှိတို့ ချီးမွမ်းသော အလုပ်ကို ကျင့်ကြံ လိုက်နာရာ၏။ ထိုအမှုတို့ကို ပယ်ရှား၍ မပြုကျင့်ဘဲ နေပါက၊ ခုနစ်ဘဝဆက်၍ တိုင်သော်လည်း ပျော်ရွှင်မှု ရနိုင်မည် မဟုတ်ပေ။

၉၊ မင်းသည် မိမိ၏ စိတ်အနေမြင့်မောက်နေစဉ်၌ ဂရုမမူသဖြင့် ပျက်စီးကြရသော တပါးသူတို့၏ အကြောင်းကို ဆင်ခြင်ကြည့်တတ် ရာသည်။

၁၀၊ ဆင်ဆင်ခြင်ခြင် ပြုလုပ်သော အမှုဖြစ်ပါက မင်းတပါး အတွက် မည်သည့် အရာကိုပင် လိုသည်ဖြစ်စေ၊ လွယ်ကူသည်ချည်း ဖြစ်သည်။

# အခန်း (၅၅)

## ဖြောင့်မှန်သောအုပ်စိုးခြင်း

၁။ ရာဇဝတ်မှုများတွင် ဗုံစမ်းထောက်လှမ်းလျက် မျက်နှာကြီးငယ်မလိုက်ဘဲ လူအားလုံးကို မျှမျှတတ သဘောထား၍ ကောင်းစွာ ဆုံးဖြတ်ခြင်းကား ဖြောင့်မှန်မှု ဖြစ်ပေသည်။

၂။

မိုးရွာသော အခါ၌ ကမ္ဘာလောကကြီးသည် စိုပြေစည်ပင်၏၊ ဘုရင်တို့သည် တရားနှင့် အညီ အုပ်စိုးသောအခါလည်း ပြည်သူ ပြည်သားတို့မှာ သာယာ ဝပြော၏။

၃။

ဘုရင်တို့၏ ရာဇလှံတံသည် ဗြာဟ္မဏတို့၏ ဗေဒကျမ်း တို့ထက် ခိုင်မာသော အထောက် အပံ့ဖြစ်သည်၊ ကောင်းမှု တကာတို့၏ အစုလည်း ဖြစ်သည်။

၄။

ကမ္ဘာလောကကြီးသည် မိမိ၏ တိုင်းသူ ပြည်သား တို့အား မေတ္တာနှင့် အညီ အုပ်ချုပ်သော မင်း၏ ခြေတော်အစုံကို ဦးခိုက် ကြလိမ့်မည်။

၅ ။

မိမိ၏ အာဏာစက်ကို အုပ်ချုပ်သော မင်းက တရားသဖြင့် အသုံးချသော် တိုင်းပြည်၌ မိုးမှန်၍ စပါးဆန်ရေ အစဉ် ပေါပျားတတ်လေသည်။

၆။

လှံတံသည် အောင်မြင်ခြင်းကို ပေးသည်မဟုတ်၊ မတရားမှုကို မပြုလုပ်တတ်သော မင်းတို့၏ အာဏာစက်သည် သာလျှင် အောင်မြင်ခြင်းကို ပေး၏။

၇။ မင်းတို့သည် လောကကြီးအား
ဥပဒေနှင့်အညီ ကျင့်သုံးသောအခါ

အကာအကွယ် ပေး၏၊ တရား ဥပဒေသည်
မင်းအား အကာအကွယ် ပေး၏။

၁။ မင်းလုပ် အုပ်ချုပ်သူသည် တိုင်းသူပြည်သားတို့အား အလွယ်တကူ တွေ့ဆုံခွင့် မပြုဘဲထိုသူတို့၏ တိုင်တောမှုများကိုလည်း မစူးမစမ်း လွယ်ကူစွာ ဆုံးဖြတ်ခြင်း ပြု၏၊ ထိုမင်း၌ မတင့်မတယ်သော အဖြစ်နှင့် ပျက်စီးတတ်၏။

၃။ အကြင်မင်းတပါးသည် မိမိ၏ တိုင်းသူ ပြည်သားတို့အား တပါးသူတို့ ရန်ပြု ခြင်းမှကာကွယ်၍ပေး၏။ မိမိကိုယ်နှင့် အလားတူ စောင့်ရှောက်၏၊ ထိုသို့သော မင်းမျိုး၌ ပြစ်မှုကျူးလွန် သူတို့ကို အပြစ်ပေးလျှင် ထိုသို့ ပေးသည့်အတွက် မကောင်း မဖြစ်ရုံသာမက၊ ဝတ္တရားနှင့် ညီပေသည်။

၁။ ရာဇဝတ်သားတို့အား မင်းက သေဒဏ်ပေးခြင်းသည် စိမ်းစိုသော ပြောင်းခင်း ထဲမှ ပေါင်းပင်များကို နုတ်ယူခြင်းနှင့် အလား တူ၏။

၁၁

# သိရကုရယ်လ်

## အခန်း (၅ ၆)

၁။

### မတရားသောမင်း။

မင်းတပါးသည် မိမိ၏ တိုင်းသူ ပြည်သား များအား ဖိစီး နှိပ်စက်၍ မတရား အုပ်ချုပ်နေပါက၊ ထိုသူသည် လူသတ်မှုကျူးလွန်သူထက်ပင် ရက်စက်သေး၏။

၂။

ရာဇအာဏာကို ကိုင်လျက် ငွေ ကြေး တောင်းဆိုသော သူသည် ရင်ဝတွင် လက်နက်ဖြင့် တေ့လျက်၊ ပေးလော့ဟု ဆိုသူနှင့် အတူကူပင် ဖြစ်၏။

၃။ မိမိ၏ တိုင်းပြည်တွင် နေ့စဉ် ကြည့်ရှု စစ်ဆေးလေ့ မရှိ၊ ရာဇဝတ်မှု များကို အပြစ်ပေးလေ့ မရှိသောမင်း၏ နိုင်ငံသည် နေ့စဉ်နှင့် အမျှ ပျက်စီးခြင်းသို့ ရွေ့လျော၍ နေရပေမည်။

၄။ တပါးသော မင်းသည် နောင်တွင် အကျိုး သက်ရောက်လာမည့် မကောင်းမှု များကို မဆင်ခြင်ဘဲ တရားမျှတမှုကို အလွဲသုံးစား ပြုပါက၊ ထိုမင်းသည် မိမိ၏ ဥစ္စာဘဏ္ဍာကိုရင်း၊ တိုင်းသူ ပြည်သားတို့ကိုရင်း ဆုံးရှုံးပေလိမ့်မည်။

၅။ မင်းလုပ်သူ၏ ဖိစီးနှိပ်စက်မှုကို မခံနိုင်သောသူတို့ထံမှ ကျဆင်းသည့် မျက်ရည်ပေါက်တို့သည် ထိုမင်း၏ အစီးအပွားကို တိုက်စားပစ်မည့် တစဉ်း ဖြစ်လာမည် မဟုတ်လော။

၆။

ဖြောင့်မှန်သော အစိုးရတို့သည် မင်းတို့၏ ကျော်စောမှုကို ခိုင်မြဲစေ၏၊ ဖြောင့်မှန်မှုမရှိပါက အစိုးရတို့၌ ခိုင်မြဲမှုလည်း မရှိပေ။

၇။ အကြြင်နာကင်းသော မင်း၏ လက်အောက်၌ နေရသူတို့၏ ဘဝသည် မိုးနှင့် ကင်းသော ကမ္ဘာလောကကြီးနှင့် တူ၏။

၈။ စီးပွားဥစ္စာတို့သည် တရားမဲ့သော မင်းတို့၏ အာဏာစက် အောက်၌ နေရသူတို့တွင် ဆင်းရဲခြင်းထက် ပို၍ ကြေကွဲ ဝမ်းနည်းခြင်း ဖြစ်ရ၏။

၉။

မင်းတို့သည် တရားနှင့် ဆန့်ကျင်၍ အုပ်စိုးပါက မိုးတို့သည် မမှန်လေကုန်၊ ကောင်းကင်သည် မိုးစက်မိုးပေါက်တို့ကို ထိန်းသိမ်း၍ ထားလေသည်။

၁၀။ တိုင်းပြည် အုပ်ချုပ်သူတို့သည် တာဝန်မကြေပြွန်ပါက၊ နွားမတို့၌ နို့အထွက် သည်လျော့ဝါး၍ တာဝန် ဖြ–ပါးရှိသော သူတို့သည် မိမိတို့ ကျမ်းဂန် များကို မေ့လျော့ ကြလိမ့်မည်။

၂၆

ဿ ရ ဂ ရ ယ လ

## အခန်း (၅၇)

## ရက်စက် ကြမ်းကြုတ်မှု မပြုခြင်း။

၁ ။

မတရားမှုကို သိရှိသည်နှင့် တပြိုင်နက် ကောင်းစွာ စုံစမ်းစစ်ဆေး၍ အညီ အပြစ်ပေးသော မင်းသည် မင်းကောင်း တပါးဖြစ်၏။

အပြစ်နှင့်

၂။ အကြင်သူသည် မိမိ၏ အကျိုးစီးပွားတို့ကို အရှည်သဖြင့် တည်မြဲရန် ဆန္ဒရှိလျှင် ရက်စက်ကြမ်းကြုတ်မှုများကို ဖယ်ရှားစေ၍ ထိုက်လျောက်သရွေ့သာ အပြစ်ပေးရာ၏။

၃။ ရက်စက် ကြမ်းကြုတ်မှုဖြင့် သရဖူဆောင်းသော မင်းသည် မိမိ၏ တိုင်းသူပြည်သားတို့အား ကြောက်ရွံ့စေရန် ပြုလုပ်သည်ဖြစ်၍ မကြာမတင်ကာလ၌ အမှန်ပင် ပျက်စီး ရလိမ့်မည်။

၄။

ငါတို့မင်းသည် ရက်စက်လှ၏ဟူ၍ ကြေကွဲစွာ အပြောခံရသော မင်းတို့၏ဘဝသည် တိုတောင်းမည်ဖြစ်၍ လျင်မြန်စွာလည်း ပျက်စီးမည် ဖြစ်လေသည်။

၅။ တိုင်းသူပြည်သားတို့ ပေါက်ရောက်ရန်ခက်ခဲခြင်းဖြစ်လျှက်၊ မျက်နှာထားလည်းတင်းမာလှသောသူ၏ စီးပွားဥစ္စာတို့ကား မကောင်းဆိုးဝါး တဦး၏ စီးပွားဥစ္စာတို့ တမျှတည်း။

၆။ မင်းတပါးသည် ကြမ်းတမ်းစွာလည်း ပြောတတ်၏၊ ကြင်နာခြင်း မရှိသော မျက်နှာ ထားကိုလည်း ဆောင်၏၊ ထိုမင်း၏ အလျှံပယ်ဖြစ်သော စီးပွားဥစ္စာတို့သည် မိမိတွင်တည်မြဲမည့်အစား လျင်မြန်စွာ ပျက်စီး ဆုံးပါးတတ်လေသည်။

၇။ ရှန့်ရင်း ကြမ်းတမ်းသော စကားတို့နှင့် အလွန်ကြီးလေးစွာ ပေးတတ်သော အပြစ်ဒဏ်တို့သည် မင်းတပါးအား မိမိ၏ ရန်သူတို့အား တိုက်ခိုက် နိုင်သော လက်နက်ကို ပြုန်းတီးစေမည့် တံစဉ်းနှင့် ပမာတူ၏။

၈။ မင်းသည် ဆောင်ရွက်ဖွယ် အမှုတို့ကို မိမိကိုယ်တိုင် မပြုလုပ် မှူးမတ်တို့အားလွှဲ၍ ထား၏၊ ထိုအမှုမှ တစုံတရာ မအောင်မြင် ဖြစ်သောအခါ ဒေါသဖြင့် မှူးမတ်တို့အား ကြိမ်းမောင်း၏၊ ထိုမင်း မင်းမျိုး၌ အကျိုး စီးပွားတို့သည် ပျက်ပြား ရမည်သာတည်း။

၉။ ထပါးသော မင်းသည် မိမိကိုယ်အား စစ်ကာလတွင် ကာကွယ်မှု မပြုလုပ်နိုင်ပါက ကြောက်ရွံ့ခြင်းဖြင့် တုန်လှုပ်၍ လျင်မြန်စွာ ပျက်စီး ရမည်ဖြစ်၏။

၁၀။ ပညာမဲ့သော မှူးမတ်တို့အား တွယ်တာလျက် ရက်စက်သော အာဏာစက်ကို ဆောင်သော မင်းတို့အား ကမ္ဘာမြေကြီးသည် မည်သူနှင့်မျှ မတူအောင် လေးလံသော ဝန်ကို ထမ်းရွက်၍ ထားရ၏။

၁၇

# သီရုကုရယ်လ်

အခန်း (၅၈)

ကရုဏာထားတတ်သော သွင်ပြင်ရှိခြင်း။

၁။

ကမ္ဘာလောကကြီးသည် မင်းတို့၏ ကရုဏာ ထားခြင်းဟူသော ဆာကြောင့် ပေါ်ပေါက် ရပ်တည်နေ၏။

အဆင်း တန်း

၂။

လောက၏ အစီးအပွားသည် မင်း၏ ကြင်နာမှုမှ ပေါက်ဖွား လာ၏၊ ကြင်နာမှုကင်းသော မင်းတို့ ရှိခြင်းကား ကမ္ဘာကြီးတွင် တာဝန်ကြီးအဖြစ် လေးလံနေပေသည်။

၃။

သီဆို၍မတင့်တယ်သော သီချင်း တပုဒ်သည် အဘယ်သို့ တန်ဖိုး ရှိမည်နည်း။ ကြင်နာခြင်း မရှိသော မျက်လုံးတို့သည်လည်း အဘယ်သို့ တန်ဖိုး ရှိမည်နည်း။

၄။

ကြင်နာမှုမရှိသော မျက်လုံးတို့မှာ မျက်နှာပေါ်တွင် တည်နေသော်ငြားလည်း အဘယ်သို့ သင့်မြတ်ပါ ဦးမည်နည်း။

၅။ မျက်လုံးတို့၏ အရောင်သည် ကြင်နာသော အကြည့်ဖြစ်၏။ ထိုအခြင်း အရာများမရှိပါက မျက်လုံးများတို့ကို ပညာရှိတို့သည် အနာနှစ်ပေါက် ဟုသာ ထင်မှတ် ကြပေ၏။

၆။ မျက်စိရှိပါလျက်နှင့် ကြင်နာစွာမကြည့်တတ်သော သူတို့သည် မြေပေါ်တွင် ပေါက်နေသော သစ်ပင်များနှင့် အလားတူ၏။

၇။ ကြင်နာသော အကြည့် မရှိသူတို့သည် မျက်စိမရှိသူများဖြစ်၏။ မျက်စိရှိသူတို့၌ မျက်စိ မရှိသူများ ဖြစ်၏၊ မျက်စိရှိသူ ဟူသမျှ၌ အကြင်နာကင်းသော အကြည့်များ မရှိကြပေ။

၇။ မိမိတို့၏ လုပ်ငန်းဆောင်တာများကို မထိခိုက်စေဘဲ၊ ကြင်နာမှုကို ပြနိုင်သော မင်းတို့အဖို့ လောကကြီးသည် သူတို့၏ ဥစ္စာဖြစ်တော့သည်။

၉။ မိမိအား လာရောက်၍ ကြေကွဲ ဝမ်းနည်းမှုကို ဖြစ်စေသူတို့အား ကြင်နာမှု ပြကာ သည်းခံခြင်းသည် အမှုတကာတို့တွင် အကောင်းဆုံး ဖြစ်ပေသည်။

၁၀။ တပါးသူတို့ ချစ်မြတ်နိုးရန် ဖွယ်ရာ ယဉ်ကျေးသော အမှုကို ပြုလိုသူတို့သည် မိမိတို့အား အဆိပ်ကို ပေးသည်ဖြစ်စေ၊ သောက်သုံးရန် သဘော တူသူများ ဖြစ်သည်။

••

# သိရုကုရယ်လ်

## အခန်း (၅၉)

## အထောက်တော်ယားခြင်း။

၁။ အုပ်ချုပ် မင်းလုပ်သူသည် မိမိ၏ မျက်လုံး တဖက်ကို အထောက်တော် အဖြစ်ရင်း၊ အခြားတဖက်ကို တကမ္ဘာလုံး လက်ခံသော ဥပဒေကျမ်းကြီးအဖြစ် ရင်းသဘော ထားရာ၏။

၂။ လူတို့၌ အခါ အမျိုးမျိုးတွင် ဖြစ်ပျက်သည့် သိရှိရန်ကား မင်း၏ တာဝန်ဖြစ်၏။

အမှုအမျိုးမျိုးကို လျှင်မြန်စွာ

၃ ။

အထောက်တော်ထံမှ ထောက်လှမ်းရရှိသော အကြောင်းတို့၏ အကျိုးသက်ရောက်မှုကို မသိသော မင်းသည် အောင်မြင်မှုကို ရနိုင်ရန်လည်း မရှိပေ။

၄။ အကြင်သူသည် လူအားလုံးတို့အား စောင့်ကြပ်၏၊ ထိုသူတို့သည် မင်း၏အမှုထမ်းဖြစ်စေ၊ မိမိ၏ဆွေမျိုးဖြစ်စေ၊ မိမိရန်သူဖြစ်စေ စောင့်ကြပ်၏၊ ထိုသူသည် အထောက်တော်ဖြစ်၏။

၅။ အထောက်တော်ဆိုသည်မှာ တပါးသူတို့အား ထိပ်လန့်ခြင်းမရှိစေသော ပုံပန်းနည်းကိုဆောင်၏၊ တပါးသူတို့အားလည်း ကြောက်ရွံ့ခြင်း မရှိ၊ မိမိ၏ အကြံအစည်ကိုလည်း ဖေါ်ထုတ်ခြင်း မရှိသူဖြစ်၏။

၆။ အထောက်တော်ဆိုသူမှာ သူတော်စဥ်ကဲ့သို့ ပုံပန်းဆောင်လျက် မိမိသွားလိုရာတို့ကို သွားရောက်၍ မိမိလိုအပ်သည်တို့ကို စစ်ဆေးကာ မည်သူက မည်မျှပင် မိမိ၏ သရုပ်ကို ဖေါ်ထုတ်ရန် ကြိုးစားသော်လည်း မပေါ်စေသူဖြစ်၏။

၇။

အထောက်တော်ဆိုသူမှာ လျှို့ဝှက်သောအရာတို့ကို ဖေါ်ထုတ်နိုင်၍ မိမိသိရှိပြီးသောအရာတို့ကိုလည်း ထိန်းသိမ်းထားနိုင်သူဟု သံသယကင်းစွာ ယုံကြည် ရသူ ဖြစ်၏။

၈ ။

မင်းတပါးသည် အထောက်တော် တဦး ရရှိသော သတင်းတို့ကို အခြား အထောက်တော်တဦးအား ထပ်မံ၍ စစ်ဆေးပြီးစေခြင်း မရှိဘဲနှင့် လက်ခံခြင်း မပြုအပ်ပေ။

၉ ။

မင်းသည် တဦးနှင့်တဦးသိရှိခြင်းမရှိသော အထောက်တော်တို့ကို ခန့်အပ်ရာ၏၊ အထောက်တော်သုံးဦးတို့စုံစမ်းရရှိသော သတင်းများ တညီတညွတ် ဖြစ်မှသာ လက်ခံ ရာ၏။

၁ ၀ ။

မင်းသည် အထောက်တော် တဦးအား လူသိရှင်ကြား မချီးမြှင့်အပ်ပေ၊ ချီးမြှင့်သည်ရှိသော် မိမိ၏ လျှို့ဝှက်ချက်ကို ဖေါ်ထုတ် မိသည်နှင့် တူ၏။

၁၉

# သိရုကုရယ်လ်

ခန်း (၆၀)

အားအင်ရှိခြင်း။ ၁။

အားအောင်သည် ဥစ္စာစီးပွား ကြွယ်ဝသော ပုဂ္ဂိုလ်ဖြစ်စေ၏၊ အားအင်မရှိသော သူတို့သည် မိမိပိုင်ဆိုင်လျက် ရှိသောဥစ္စာများကို အကာယ်ပင်ပိုင်ဆိုင်ပါ၏လော။

၂။

စိတ်၏အားအင်ရှိသော သူတို့သည် မှန်ကန်သော ပစ္စည်းကို ပိုင်ဆိုင်ခြင်းဖြစ်၏၊ ဥစ္စာစီးပွားကို ပိုင်ဆိုင်ခြင်းကား ပြောင်းလဲ ရွေ့ရှားတတ်၍ ခိုင်မြဲခြင်းမရှိ။

၃။

အစဉ်သဖြင့် တည်မြဲသော အားအင်မျိုးကို ပိုင်ဆိုင်သူသည်၊ ငါတို့ကား ရှိပစ္စည်း ဆုံးလေပြီဟု ပူပန်သောကဖြင့် မပြောရလေ။

၄။ အစဉ်သဖြင့် မပျက်ပြားနိုင်သော အားအင်ရှိသော တို့သည် ရောက်လာ ရလိမ့်မည်။

ပုဂ္ဂိုလ်အား စီးပွားဥစ္စာ

၅။

ကြာရိုးတို့သည် ရေမြင့်သည်နှင့် အမျှမြင့်၍ ပေါက်ကြ၏။ ထို့အတူ မြင့်မားမှုသည်လည်း မိမိစိတ်ဓါတ်နှင့် ကြီးမားမှုတွင် တည်လေသည်။

လူ၏

၆။ မင်းတပါးသည် တွေးတောကြံဆရာ၌ ကြီးမြတ်သော အရာကို ဆင်ခြင်ရာ၏၊ ကံအကြောင်း တရားကြောင့် ပျက်စီးခဲ့သည် ရှိသော် မိမိ၏ ကြီးမြင့်ခြင်းကား ညှိုးမှိန်လိမ့်မည် မဟုတ်ပေ။

၇။ အားလုံး အရာတို့ ဆုံးရှုံးကုန်သော်လည်း စိတ်ထား သန့်မာသော သူကား မည်သို့မျှ အားမငယ်ပေ၊ ဆင်ပြောင်ကြီးသည် မိမိအား ပတ်လည် ဝိုင်း၍ မြားမိုး ရွာနေစဉ် မတုန်လှုပ် သကဲ့သို့ပင်တည်း။

၈။ စိတ်သဘောထား ကြီးမြင့်မှုမရှိသော သူတို့သည် လောကကြီးအား ကျွန်ုပ်တို့သည် သဘောထားကြီးမှုကို လက်တွေ့ပြနိုင်သည် ဟူ၍ ချမ်းမြေ့စွာ မပြောနိုင်ပေ။

၉။ ဆင်ပြောင်တို့ပင် ခန္ဓာကိုယ်ကြီးမား၍ ထက်မြက်သော အစွယ်ရှိသော်လည်း ကျားတို့ တိုက်ခိုက်မည်ကို ကြောက်သေး၏။

၁၀။

အားအင်ဟူသည်မှာ စိတ်၏ ပစ္စည်းဖြစ်၏၊ ထိုအင်အား မရှိသော သူတို့သည်၊ ...ဆောင်၍ နေသော သစ်ပင်ကြီးများသာ ဖြစ်ကြလေသည်၊

သိရုကုရယ်လ်

## အခန်း (၆၁)

ပျင်းရိပ္ပ ကင်းခြင်း။ ၁

ပျင်းရိခြင်း တည်းဟူသော အမှောင်တွင် မိမိ မျိုးရိုး၏ ဂုဏ်တည်းဟူသော မငြိမ်းနိုင်သည့် မီးတိုင်သည် တိုးဝင်လျက် အမှောင်ကို ခွင်းရာ၏။

၂။ မျိုးရိုးဂုဏ်ကို ထွန်းပြောင်လိုသူတို့သည် မိမိတို့အမှုအကျင့်မှ ရှားရာ၏။

ပျင်းရိခြင်းကို ဖယ်

၃။

ပညာမဲ့သူတို့၏ မျိုးဆက်ထင်ရှားခြင်းမှာ အဖျက်သဘောဖြင့် ပျင်းရိမှုတို့ လွှမ်းမိုးခြင်းကြောင့် လူမသေမီပင် ပျက်စီး ကြရလေသည်။

၄။ ပျင်းရိခြင်းကို ရေလာမြောင်းပေး ပြုလုပ်၍ မိမိဂုဏ်ဒြပ်နှင့် လိုက်အောင် ပြန်လည်တွန်းလှန်ခြင်းလည်း မရှိသော သူတို့၌ မျိုးရိုးဂုဏ်သည် ပျက်စီး၍ အပြစ်တိုးပွားလိမ့်မည်။

၅။ ရွှေ့ဆိုင်းခြင်း၊ သတိမေ့လျော့ခြင်း၊ ပျင်းရိခြင်း၊ အအိပ်ကြီးခြင်း ဟူ၍ရှိသော အကြောင်း လေးပါးတို့သည် ပျက်စီးရန်ဦးတည်နေသူတို့၏ အဆောင်အယောင်များ ဖြစ်ပေသည်။

၆။ ပျင်းရိသူတို့၌ တိုင်းပြည် အုပ်ချုပ်မင်းလုပ်သူတို့၏ အကူအညီ အစောင်အမကို ရသော်ငြားလည်း တစုံတရာအကျိုးကျေးဇူး ပေါ်ပေါက် နိုင်ခြင်းငှာ လွန်စွာ ခက်ခဲလှ၏။

၇။

အပျင်းကို နှစ်သက်၍ သင့်တင့်လျောက်ပတ်စွာ အားထုတ်ခြင်း မရှိသူတို့သည် နွမ်းလှန်ထိုးခြင်းနှင့် ကဲ့ရဲ့ခြင်းတို့ကို ခံရလိမ့်မည်။

၈။ မိသားစုတွင် ပျင်းရိခြင်း ဝင်ရောက်ပါက၊
အကျွေး ဖြစ်စေလိမ့်မည်။

ထိုသူတို့အား ရန်သူတို့၏ အလုပ်

၉။ ပျင်းရိခြင်းကို ပယ်ရှားပြီး သူ၌ မိမိနှင့်
လည်း လွှင့်ပျောက် သွားလိမ့်မည်။

အိမ်သူ အိမ်သားတို့အား ကဲ့ရဲ့ခံရခြင်း

၁၀။ ပျင်းရိခြင်းကို လက်မခံသော

မင်းတို့၌ မိမိတို့ ခြေချရာဒေသကို ပိုင်နိုင်လိမ့်မည်။ ၉
၆၁

## သိရုကုရယ်လ်

ယောက်ျားတို့လုံ့လပြုခြင်း။

အခန်း (၆၂)

၁။ ဤအရာမှာခက်ခဲသည်၊ မပြုနိုင်ဟူ၍ အလျှော့မပေးပါနှင့်၊ အားထုတ်လုပ်ကိုင်ခြင်းသည် ဆောင်ရွက်ရန်လိုအပ်သော စိတ်အင်အားကို ပေးလိမ့်မည်။

၂။ ပြုဆဲအမှုကို လက်မလျှော့ရန် သတိထားပါလေ၊ မပြီးသေးသော အလုပ်ကို စွန့်ပယ် သူတို့အား လောကကြီးက စွန့်ပယ်ပေလိမ့်မည်။

၃။

အလုပ်မလုပ်ခြင်းဘဲ ပေါ့ပေါ့တန်တန် နေလိုသူတို့၏လုံ့လသည် ဟာမာဖရိုဒိုက်၏ ယောက်ျားပီသခြင်းကဲ့သို့ လက်တွင် ဓားရှိသည်လည်း အချည်းနှီးတည်း။

၅။ အလုပ်လုပ်ရန် ဆန္ဒရှိသောသူသည် ကြည်နူးဖွယ်ရာ အာရုံတို့ထက် မိမိအဆွေ အမျိုးတို့အား ကြေကွဲမှုများကို ပယ်ရှားနိုင်သော ကျောက်တိုင်ကြီးပမာ ဖြစ်လိမ့်မည်။

## ၆။ လုပ်အားသည် စီးပွားကိုဖြစ်စေသည်၊ ပျင်းတွဲခြင်းသည် ဆင်းရဲကိုဖြစ်စေမည်။

၇။ ဆိုရိုးရှိသည်မှာမူ ဒေဝီဟူသော အဖျက်နတ်သမီးသည် ပျင်းရိခြင်းတွင် စံနေ၏၊ လက်ရှမီဟူသော စီးပွားနတ်သမီးသည် လုံ့လပြုခြင်း၌ စံနေ၏။

၈။ ဆုံးရှုံးရခြင်းသည် ဂုဏ်ငယ်ဖွယ်မဟုတ်၊ အလုပ် မလုပ်ခြင်းနှင့် သိသင့်သည်တို့ကို မသိခြင်းသည်သာ မတင့်မတယ် ဂုဏ်ငယ် ဖွယ်ဖြစ်၏။

## ၉။ ကံကြမ္မာကို အားကိုးကာမျှနှင့် မအောင်မြင်နိုင်၊ ကိုယ်တိုင်က အားထုတ်လုံ့လ ပြုပါမှ အောင်မြင် နိုင်၏။

၁၀။ အားထုတ်လုံ့လ ပြုတတ်၍ ကြောက်ရွံ့ခြင်း၊ သိမ်ငယ်ခြင်းတို့ ကင်းရှင်း သူ၌ ဆိုးဝါးသော ကံကြမ္မာပင်လျှင်လည်း ကျောခိုင်း သွားရသည်ရှိ၏။

**အခန်း (၆၃)**

အသက်အာခဲတွင် ဝင်္ဂကောင်းခြင်း။

၁။ ဒုက္ခအခက်အခဲများ ကျရောက်လာပါက ရယ်သွမ်းသွေး ပါလေ၊ ကြေကွဲ
မှုကို မောင်းထုတ်နိုင်မည့် ထိုထက်ကောင်းသော အရာသည်မရှိ။

၂။ ကြေကွဲ ဝမ်းနည်းရစဥ် ကာလ၌လည်း ရဲရင့်သော စိတ်ကူးများကို ဆောင်
သောကြောင့် ပညာရှိတို့သည် ဒုက္ခမျိုးစုံကို အောင်မြင်နိုင်၏။

၃။ ဝမ်းနည်းခြင်းရှိမှသာ ဝမ်းနည်းခြင်း ပေါ်ပေါက်၏၊ ဝမ်းနည်းခြင်းကို ခံနိုင်
ရည် ရှိသူတို့တွင် ဝမ်းနည်းမှု ကပ်ငြိမလာနိုင်။

၄။ ညွန်တွင် နစ်နေသော လှည်းကို ကြိုးပမ်း၍ ရုန်းသော ကျွဲကဲ့သို့ ပုဂ္ဂိုလ်၌
အခက်အခဲဟူသည် ပျောက်ကွယ်ရမည်တည်း။

၅။ မိမိ၏အကြံအစည်ကိုလက်မလျှော့သူတို့၌
မည်သို့သောဒုက္ခဆင်းရဲများ ထူထပ်
စွာကျရောက် စေကာမူလည်း၊ ကျရောက်ပြီးလျှင်
ပျောက်ပျက် ရမည်တည်း။

၆။ ချမ်းသာစဉ်၌၊ ငါတို့ချမ်းသာသည်ဟု
ဝင့်ဝါခြင်းမရှိသော သူတို့သည် ဆင်းရဲ
စဉ်၌ ငါတို့ ခိုကိုးရာ မဲ့သည်ဟု ညည်းညူပါမည်လော။

၇။ ခန္ဓာကိုယ်သည် ဒုက္ခတို့ကို ခံရမည့်အရာ
ဖြစ်သောကြောင့် ကြီးမြင့်သော သူတို့
သည် ဒုက္ခကို ဒုက္ခဟုမမှတ်။

၈။ ကြည်သာဘွယ် ကိစ္စကို မရှာဘဲ ဆင်းရဲဒုက္ခကို ဖြစ်မြဲ
ကိစ္စဟု သဘောထားသူ
တို့၌ ကြေကွဲရခြင်းသည် မရှိပေ။

၉။ ကြည်ရွှင်ဘွယ် ကိစ္စကို ကြည်ရွှင်မှုအလို့ငှာ
မရှာသောသူသည် ဝမ်းနည်းစရာ

ကိစ္စ၌ ဝမ်းနည်းခြင်းကိုလည်း မခံရပေ၊

၁၀။ ဗုဒ္ဓကို သုခဟု သဘောထား၍ ဆောင်ရွက်သူတို့၌ ရန်သူကို အောင်၍အမြင့်သို့တက်နိုင်၏။

၆၃

သိရကုရယ်လ်
မှူးမတ်တို့နှင့် ဆိုင်ရာ (အခန်း–၆၄

အခန်း (၆၄)

မှ ၉၅)
မှူးမတ်ကြီးကဲတို့အရေး။

၁။ မှူးမတ်ကြီးကဲတို့ မည်သည် လုပ်ပုံလုပ်နည်း၊ ပြုလုပ်ရန် အချိန်၊ ပြုလုပ်ရန် အကြောင်း စသည်တို့ကို ခွဲခြားရွေးချယ်နိုင်လျက်၊ အခက်အခဲတို့ကို ဆောင်ရွက်နိုင်သူတည်း။

၂။

ရှေ့တွင် ဆိုခဲ့သည့် အချက် ငါးချက်တွင် မှူးမတ် ကြီးကဲတို့သည် တည်ကြည်ခြင်း၊ သူအများအား ကာကွယ်ခြင်း၊ ထိုးထွင်းသိခြင်း၊ ဇွဲရှိခြင်းတို့ ရှိရာ၏။

၃။

မှူးမတ်ကြီးကဲမည်သည် မညီညွတ်သည်ကို ညီညွတ်ရန် စေ့စပ်နိုင်၏၊ မိတ်တို့ကို ခိုင်မြဲစေနိုင်၏၊ ခွဲထွက်သူတို့ကို ပြန်လည် ပေါင်းစည်းနိုင်၏၊

မဟာ

၄။ မှူးမတ်ကြီးကဲတို့ မည်သည် ကိစ္စတရပ်လုံးကို လုံးဝဥဿုံ ငုံမိနိုင်သည် ဖြစ်၏။ ထိုအမှုကို အကောင်းဆုံး ပြုနိုင်သူဖြစ်၏၊ လိုအပ်သည့်အခါ အကြံကောင်း ပေးနိုင်သူ ဖြစ်၏။

၅။ မှူးမတ်ကြီးကဲ တဦးသည် မင်း၏ ဆောင်ရွက်ဖွယ်တို့ကို သိရှိသည့် အလျောက် ကောင်းစွာ အကူအညီပေးရာ၏၊ ပြည့်စုံသော အကြံဉာဏ်ကိုပေးလျက် အခါ ခပ်သိမ်းတွင် အကောင်းဆုံးအမှုကို လေ့လာခြင်းဖြင့် ဆောင်ရွက်နိုင်စေရာ၏။

၆။ ပညာဖြင့်လေ့လာသိရှိ၍ တတ်သိထားသည်ထက် မည်သို့သော အကြံအစည် ကပို၍ ထက်မြက် ပါဦးမည်နည်း။

၇။ ဆောင်ရွက်ဖွယ် ရှိသည်တို့ကို စာတွေ့ဖြင့် လေ့လာထားရုံမကသေး၊ လက်တွေ့ လေ့လာ၍လည်း ဆောင်ရွက် ရာ၏။

၈။ အုပ်ချုပ်သော မင်းသည် လုံးဝပညာ ကင်းနေစေကာမူလည်း မှူးမတ်ကြီးကဲ တို့၏ တာဝန်မှာ ထိုမင်းအားကောင်းသော အကြံကို ပေးရန်ဖြစ်၏၊

၉။ အုပ်ချုပ်သော မင်းအဖို့ မိမိအား ကုဋေခုနစ်ဆယ်မျှသော ရန်သူတို့ ဝိုင်းဝန်း၍ ရန်ဖက် ပြုနေသည်ထက်၊ အပါးရှိ မကောင်းကြံလျက် ရှိသော အမတ်တဦး သည် ပိုဆိုး၏။

၁၀။ အကြင်မှူးမတ် ကြီးကဲတို့သည် ကောင်းစွာ ကြံစည်အားထုတ်ခြင်း ရှိငြား လည်း၊ အုပ်ချုပ်မှု အရည်အချင်း ချို့တဲ့ပါက၊ဆောင်ရွက်ဖွယ်တို့ကို ပြီးမြောက် နိုင်မည် မဟုတ်ပေ။

၆၄

# သံရုကုရယ်လ်

## အခန်း (၆၅)

### စကားအရာ ထိရောက်မှု။

၁။ စကားအရာ ချောင် ကောင်းမွန်ခြင်းသည် ခြင်းတို့ထက် သာလွန်၏။

အခြားတပါးသော ချောင်ကောင်းမွန်

၂။ စကား ပြောဆိုခြင်းကို အကြောင်းပြု၍ ကောင်းမှုသည်၎င်း၊ ဆိုးမှုသည် ၎င်း သက်ရောက်နိုင်မည် ဖြစ်၍ မှူးမတ်ကြီးကဲတို့သည် အမှားအယွင်း ကင်းစေရန် သတိပြုရာ၏။

၃။ မှူးမတ်ကြီးကဲတို့၏ စကားသည် မိတ်ဆွေတို့အား အား မိမိကို မေတ္တာပွားလာ စေနိုင်၏။

ခိုင်မြဲ စေနိုင်၏၊ ရန်သူတို့

၄ ။

မိမိစကားကို ကြားနာမည့်သူ၏ အရည်အသွေးကို ချင့်၍ ပြောကြားပါလော့၊ ထိုသို့ပြုခြင်းထက်ကောင်းသော အကျိုးစီးပွားကို ဆောင်မှုကား မရှိပေ။

၅။ မိမိပြောသော အမှုကို တပါးသူတို့ရာ၏။

နှုတ်လှန်မတိုးနိုင်လောက်အောင် ပြောကြား

၆၊ သံတမန်အင်္ဂါတို့၌ အချွတ်အယွင်း ကင်းသူတို့၏ သဘောထားကား မှုူးမတ်တို့သည် ကြားနာသူတို့အားပို၍ကြားနာချင်အောင်ရင်း၊ မိမိစကား၏အဓိပ္ပါယ်ကို ကောင်းစွာနားလည်ရန်ရင်း ပြုသင့်သည်ဟူ၏။

၇။

မိမိ၏စကား စွမ်းအားကို သိရှိသော သူတို့သည်အမှားအယွင်းမရှိ၊ အကြောက်အရွံ့မရှိပါက မည်သူမျှ ၎င်းအား စိုးမိုးရန် တတ်နိုင်မည် မဟုတ်ပေ။

၈ ။

အကြောင်းရပ်မျိုးစုံကို ကြားနာဘူးသည် ဖြစ်အောင် စီကာ
တို့အား၊ လောကကြီးသည် လက်ခံရန် အသင့်ရှိ၏။

စဉ်ကာ ပြောနိုင်သူ

၉။ အမှားအယွင်း အနည်းငယ်မျှဖြင့် ပြောရန်ကိုပင်
လုံးပေါင်း များစွာကို ပြောလိုတတ်၏။
မသိသေးသူတို့သည်၊ စကား

၁၀။ မိမိပြောလိုသည်ကို မထုတ်ဖော်တတ်သူကား အဆုပ် အခဲကြီးများ ပွင့်နေပါလျက် အနံ့မရှိသော ပန်းနှင့်တူ၏။



# သီရကုရယ်လ်

## အခန်း (၆၆)

## ဖြောင့်မှန်စွာ ကျင့်ခြင်း။

၁။

အထောက်အပံ့ ပြုခြင်း၏ အကျိုးကား စီးပွားကိုသာ
ခြင်း၏ အကျိုးကား လိုရာကို ပြီးမြောက်နိုင်၏။

ဖြစ်နိုင်၏။ အမှုဆောင်

၂။ မှူးမတ်ကြီးကဲတို့သည် ကျော်စောခြင်းကို လွန်ကဲ၍
မည့် ကိစ္စမျိုးတို့ ကို အခါခပ်သိမ်း ရှောင်ကြဉ်ရာ၏။

နောင်တွင် အကျိုးမပေး

၃။

ကျွန်ုပ်တို့ ကောင်းမွန်လာပါလိမ့်မည်ဟု ပြောသူတို့သည်
ခြင်းကို ထိခိုက်မည့်အမှုတို့ကို ရှောင်ရှားအပ်၏။

မိမိတို့၏ ကျော်စော

၄။ ဘေးအန္တရာယ်ဖြင့် ချောက်လှန့်စေကာမူလည်း
ဆုံးဖြတ်ရာတွင် မမှားယွင်း
နိုင်သူတို့သည် တပါးသော မူးမတ်ကြီးကဲ့ တို့အား
ဂုဏ်ပျက်ရန်အမှုကို
မပြုကြပေ။

၅။ မှူးမတ်ကြီးကဲ တဦးသည် "ဤအမှုကို ငါဘယ်သို့ ပြုမိပါလိမ့်" ဟူ၍ စိတ်မကောင်းစွာ ဆိုရမည့် ကိစ္စမျိုးကို မပြုသင့်ပေ။ မိမိ စိတ်မကောင်း မဖြစ်ရမည့် ကောင်းသော ကိစ္စမျိုးကို ပြုသင့်၏။

၆။ မှူးမတ်ကြီးကဲ တဦးသည် မိမိ၏ မိခင်
ဝတ်မွတ်နေစေကာမူလည်း ပညာရှိတို့
ကဲ့ရဲ့မည့် ကိစ္စမျိုးကို မပြုသင့်ပေ။

၇။ မကောင်းမှုများ များစွာကို ပြုလုပ်၍
ချမ်းသာရခြင်းထက်၊ ပညာရှိအဖြစ်ဖြင့်
ဆင်းရဲနေရခြင်းကား သာလွန်ကောင်းမြတ်၏။

၈။

အကြင်သူတို့သည် ပညာရှိတို့ တားမြစ်ထားသော အမှုတို့ကို ပြုလုပ်၍
အောင်မြင်စေကာမူလည်း ဝမ်းနည်းကြေကွဲခြင်းနှင့် တွေ့ကြုံရမည်သာဖြစ်၏။

၉။ မိမိက မျက်ရည်ပေါက် ကြီး ငယ် ကျစေ၍ ပြုမိသော အမှုတို့သည် မိမိအား မျက်ရည်ပေါက် ကြီး ငယ် ပြန်၍ ကျစေနိုင်၏၊ ကောင်းမြတ်စွာဖြင့် ပြုလုပ်သော အမှုတို့မူကား ပဌမတွင် ဆုံးရှုံးခြင်း ရှိတတ်သော်လည်း၊ နောင်အခါ အသီး အပွင့်ကို ရရှိ၏။

၁၀။ မူးမတ်ကြီးကဲ တဦးသည် မတရားရရှိထားသော စီးပွားတို့ဖြင့် မိမိ၏ အုပ်ချုပ်သူကို ကာကွယ်ပါက၊ ရွှံ့ပျော့နှင့်လုပ်ထားသော အိုးကို ရေထည့်သည်နှင့်တူ၏။



# သိရုကုရယ်လ်

## အခန်း (၆၇)

## တန်ပိုးရှိသောဆောင်ရွက်မှု။

၁။ ဆောင်ရွက်ရာတွင် ပြုမှုခြင်းသည် စိတ်၏ ပြုမှုခြင်းပင် ဖြစ်သည်။ အခြားသော အရည်အသွေးတို့ကား ဤကဲ့သို့ မဟုတ်ပေ။

၂။

ပျက်စီး စေတတ်သော အမှုကို မပြုရန်နှင့် ပျက်စီးရသော နောက် မဆုတ်ရန်တို့မှာ လေ့လာဂူးခမ်း တတ်သော သူတို့၏

အဖြစ်ကြောင့်
အရည်အချင်း
နှစ်ခုဖြစ်သည်ဟု ပညာရှိတို့ပြောကြ၏။

၃။ အမှုတခုကိုပြီးကာမှ လူသိထင်ရှား ဖြစ်အောင် လုပ်ဆောင်ခြင်းသည် ယောကျ်ား ပီသမှုဖြစ်၏။ မပြီးခင် ကျေညာခြင်းသည် ဝမ်းနည်းဘွယ် ကြုံရတတ်၏။

၄။ ကိစ္စတခုကို မည်သို့ ပြုရမည်ဟု ပြောဆိုရခြင်းသည် ပြောသည့်အတိုင်း လုပ်ရန်ကား ပို၍ ခက်ခဲ၏။

လှူယ်ကူ၏။ သိုသေ

၅။

ပညာရှိတို့၏ အကြံပေးမှုဖြင့် စွဲမြဲစွာ လုပ်ဆောင်ကာ အောင်မြင်သူအား အုပ်ချုပ်မင်းလုပ်သူတို့ကပင် အကူအညီတောင်းနိုင်၏။ ထိုသူအား တပါးသူတို့ ကလည်း ရိုသေကြရလိမ့်မည်။

၆။ တစုံတခုကို လုပ်ကိုင်ရန် စီစဉ်သူတို့၌ အလုပ်တွင်

စွဲမြဲမှုရှိလျှင် မိမိတို့ဆန္ဒ
အတိုင်း ပြီးမြောက်နိုင်၏။

၇။

မည်သူ တဦးတယောက်မျှ မိမိ၏အရွယ်အစားကြောင့် အထင်သေးဘွယ် မဖြစ် သင့်ပေ။ အဘယ့်ကြောင့်ဟူမူ ကမ္ဘာကြီး၌ လှည်းဘီးသပ် နားပန်ကဲ့သို့ အရွယ် အစားများလည်း ရှိသောကြောင့်တည်း။

ဂ။ အလုပ်တခုကို စွဲမြဲစွာ ဆုံးဖြတ်ပြီးသည့်နောက်၊ စွဲမြဲစွာပင် ရွက်ရာ၏။

မဆိုင်းမတွ ဆောင်

၈။

ပဌမတွင် ဝမ်းနည်းဖွယ်တို့ တစ တစ ဖြစ်ပွားမည် ဖြစ်သော်လည်း ဆောင်ရွက်ပါက၊ နောက်ဆုံးတွင် ကြည်နူးဘွယ်ရာ ကြုံရလိမ့်မည်။

စွဲမြဲစွာ

၁၀။ စွဲမြဲစွာ ဆောင်ရွက်ခြင်းကို အရေးမထားသူတို့အား မည်သို့သော အရည်အသွေးပင် ရှိစေကာမူ၊ ပညာရှိတို့က အရေးထားမည် မဟုတ်ပေ။



# သိရုကုရယ်လ်

## အခန်း (၆၈)

## ပြုပုံပြုနည်း။

၁။

တိုင်ပင်ခြင်း၏ အဆုံး၌ ဆောင်ရွက်ရန် ဆုံးဖြတ်ချက်ချရာ၏။ သို့သော် ပြုလုပ်ရန် နှောင့်နှေးနေလျှင် ထိုဆုံးဖြတ်ချက်သည် မကောင်းမှုဖြစ်၏။

၂။

အိပ်စက်၍ နေဘွယ်ရှိသည်တို့တွင် အိပ်စက်၍ နေပါလော့၊ သို့သော် ဤသို့ မပြုသင့်သော ဆောင်ရွက်ဖွယ် ရှိသည်တို့၌ မည်သည့် အခါမျှ အိပ်စက် မနေပါနှင့်။

၃။

ရန်သူကို အောင်မည်ဆိုလျှင် တိုက်ခိုက်ခြင်းသည် အခါခပ်သိမ်းကောင်း၏။ သို့မဖြစ်နိုင်လျှင် အောင်မြင်ရန် အခြားနည်း တခုခု သုံးခြင်းသည် ကောင်း၏။

၄။

သေချာစွာ စဉ်းစားလျှင် မပြီးမပြတ် ဆောင်ရွက်ခြင်းသည်
သို့ တစုံတယောက်အား ဘေးရန်ဖြစ်စေ၏။
မီးလျှံ မီးကြွင်းကဲ့ ၅။

အောက်ပါ အကြောင်း ငါးရပ်တို့ကို သေချာစွာ မစဉ်းစားဘဲ၊ မပြုလုပ်သင့်ပေ၊ ယင်းတို့မှာ ငွေကြေး၊ လုပ်ပုံလုပ်နည်း၊ အချိန်၊ ပြုလုပ်မှုနှင့် နေရာတို့ဖြစ်၏။

၆။ အလုပ် တခုကိုမည်မျှ အားထုတ်ရန်လိုမည်။ မည်သို့ အခက်အခဲများတွေ့မည်၊ ပြီးလျှင် မည်နှယ် အကျိုး ရှိမည်တို့ကို တွက်ဆပြီးမှ ဆောင်ရွက်ရာ၏။

၇။ အလုပ်တခုကို ပြုတတ်သော သူ၏ ပြုလုပ်နည်းနှင့်
မိမိကိုယ်တိုင် သေချာစွာ သိအောင် ပြုခြင်းသည်

အလုပ်၏ လျှို့ဝှက်ချက်ကို
အောင်မြင်ရာ အကြောင်း
ဖြစ်၏။

၈။ အရာဝတ္ထုတခုကို အောင်မြင်ရန် ပြုလုပ်နည်းသည် အခြားအရာဝတ္ထုတခုကို အောင်မြင်အောင် ပြုလုပ်နည်းနှင့်အလားတူဖြစ်၏။ ဆင်တကောင်ကို အခြား ဆင်တကောင်အား ထောင်၍ဖမ်းရန် အသုံးပြုခြင်းကဲ့သို့ပင် ဖြစ်၏။

၉။ အကြင်သူ တဦးသည် မိမိမိတ်ဆွေများ၏ အကူအညီကို ရယူခြင်းထက်ရန်သူ၏ မဟာမိတ် ပြုခြင်းကို ဦးစွာ ရယူသင့်၏။

၁၀။ နိုင်ငံငယ်တို့မှ မှူးမတ်တို့သည် မိမိတို့ပြည်သားများအား၊ ခြောက်လှန့်မည်ကို စိုးသဖြင့် မိမိတို့ထက် အားကြီးသော သူတို့က လက်ကမ်းလာလျှင် ငြိမ်းချမ်းစွာ စေ့စပ်၍ လက်ခံကြ၏။

၆၀

# သိဗုကုရယ်လ်

## အခန်း (၆၉)

## သံတမန် အရေး။

၁။ သံတို့၏ အရည်အချင်းကား အဆွေအမျိုးတို့အား ချစ်ခြင်း၊ ကောင်းသော မျိုးရိုးမှ မွေးဖွားခြင်း၊ ထိးနန်းနှင့် လျော်သော အရည်အသွေးများ ရှိခြင်းတို့ ဖြစ်သည်။

၂။ မင်းအား ချစ်ခြင်း၊ မင်း၏ အပူကိုကို သိခြင်း၊ စကားအရာ၌ခြားဝတ်ခြင်းတို့ သည် သံတမန်တို့၏ အင်္ဂါကြီး သုံးရပ် ဖြစ်ပေသည်။

၃ ။

တပါးသော မင်းတို့၏ရှေ့၌ မိမိအရှင်၏ ဘောင်မြင်ခြင်းကို ပညာရှိတို့၏ အလယ်၌လည်း ပွဲလယ်တင့်၏။

ပြောရဲသသူသည်

၄ ။

အသိအလိမ္မာ ရှိခြင်း၊ ရုပ်ရည်သန့်ပြန့်ခြင်းနှင့် ပညာတတ်မြောက်ခြင်း တည်း ဟူသော အရည်အချင်း သုံးမျိုးရှိသူတို့အား နိုင်ငံရပ်ခြားသို့ သံစေလွှတ်ရာ၏။

၅။ အကြင်သူသည် တပါးသော မင်းတို့၏ရှေ့၌ ပြတ်သားစွာလည်း ပြော၏။ ကြမ်းတမ်းမှုကိုလည်းရှောင်ရှား၏။ နှစ်လိုဘွယ်ကိုလည်း ပြောကြား၏။ ဤနည်းဖြင့် မိမိအရှင်အား အကျိုးသက်ရောက်စေနိုင်၏။ ထိုသူကား သံတမန်တည်း။

၆။ အကြင်သူသည် နိုင်ငံရေးတို့ကို လေ့လာပြီး၍ အထင်အမြင်ကြီးအောင် ပြောဆိုနိုင်၏၊ တင်းမာသော မျက်နှာထားတို့ကိုလည်း ကြောက်ရွံ့ခြင်းမရှိ၊ အချိန်ကာလကိုလိုက်၍ မည်သို့ ဆောင်ရွက်ရမည်ကိုလည်း သိ၏။ ထိုသူသည် သံဖြစ်၏။

၇။ အကြင်သူသည် ယိုးဆောင်မင်းတို့၏ရှေ့၌ တင့်တယ်သော အမူအယာကိုသိ၏။ အခါအခွင့်ကိုလည်း သိ၏။ မိမိ၏ သဝဏ်ကို ပါးရန် နေရာကောင်းကိုလည်း ရွေးတတ်၏။ ထိုသူကား သံတမန်တို့တွင် အကြီးအကဲ ပုဂ္ဂိုလ်ပေတည်း။

၈။ သဝဏ်လွှာကို ပါးနိုင်သောသူ၏ အရည်အသွေးကား စင်ကြယ်ခြင်း၊ တပါးသော မှူးမတ်တို့၏ ထောက်ခံမှုကိုရခြင်း၊ ရဲရင့်ခြင်းတို့အပြင် မှန်ကန်ခြင်းလည်း ရှိရမည် ဖြစ်သည်။

၉။ အကြင်သူသည် တပါးသော ထီးဆောင်းမင်းတို့ထံသို့ ပြန်ကြားချက်ကို ဆောင်ယူနိုင်ရန် ပြန်ကြားချက်တွင် ပါရှိသည်တို့ကို အကျိုးမပျက်အောင် သတိလက်လွှတ် မပြောမိဘဲ ခိုင်မာသူမျိုး ဖြစ်သင့်သည်။

၁၀။

အကြင်သူသည် မိမိအရှင်၏ ကောင်းကျိုးအလို့ငှါ အသက်ကိုပင်လည်း စွန့်၍ သစ္စာပါးတတ်၏၊ ထိုသူမျိုးကား သံကောင်း တမန်ကောင်း ဖြစ်ပေသည်။



# သိရုကုရယ်လ်

## အခန်း (၇၀)

**မင်းထံခစားခြင်း။**

**၁။**

စိတ်ပြောင်းလဲ လွယ်သော မင်းတို့၏ အနီးအပါး၌ ခစားသော မှူးမတ်တို့သည် မီးလှုံသကဲ့သို့ မနီးလွန်း မဝေးလွန်း ခစားရာ၏။

၂။

မှူးမတ်တို့သည် မင်းတို့လိုလားသော အမှုတို့အား တပ်မက်ခြင်း မရှိပါက မင်းတို့ကပင်လျှင် မိမိအားမကုန်နိုင်သော စီးပွားတို့ကို ပေးပေလိမ့်မည်။

၃။ မိမိကိုယ်ကို စောင့်ရှောက်လိုသော မှူးမတ်တို့သည် ကြီးစွာသော အမှားတို့ကို ရှောင်ရာ၏၊ အုပ်ချုပ်မင်းလုပ်သူတို့ သံသယ ဖြစ်မိလျှင် ထိုသံသယကို မည်သူမျှ မဖယ်ရှားနိုင်ပေ။

၄။ မင်းတို့၏ ရှေ့မှောက်၌မှူးမတ်တို့သည် အချင်းချင်းတီးတိုးပြောခြင်းသော်ငင်း ပြုံး၍ ပြခြင်းသော်ငင်း မပြုသင့်ပေ။

၅။ မင်းသည်တပါးသူတို့နှင့် လျှို့ဝှက်စွာ ဆွေးနွေးနေစဉ်၌ မှူးမတ်တို့သည် တစုံတရာကို ကြားလို ကြားငြား သိချင်ဇောဖြင့် နားမထောင်အပ်ပေ။ မင်းကိုယ်တိုင်က ဖွင့်ပြောသည်အထိ စောင့်ရာ၏။

၆။ မင်း၏ စိတ်အနေကိုသိလျက် အခါကာလကို ရွေးချယ်ပြီးလျှင် နှစ်လိုဖွယ်သော အမူအယာဖြင့် နှစ်လိုဖွယ်သော အကြောင်းတို့ကို တင်လျှောက်ရာ၏။

၇။ မှူးမတ်တို့သည် အစဉ်သဖြင့် လိုက်လျော ဖွယ်သော အကြံတို့ကို ပေးရာ၏။ သို့သော်ငြားလည်း မည်သည့်အခါမှ အကျိုးမဲ့ဖြစ်သော အမှုတို့ကို မထောက်ခံသင့်ပေ။

၈။ မှူးမတ်တို့သည် မင်းတို့၏ ဘုန်းရှိန် ကံရှိန်ကို လိုက်၍ ကျင့်ကြံ နေထိုင်ရာ၏။ ဤသူကား ငါတို့ထက် အသက်ငယ်သည်၊ ငါတို့ အဆွေအမျိုး ဖြစ်သည် ဟူ၍ ဂရုမစိုက်ဘဲ မနေအပ်။

၉။ နိုင်မာစွာဆုံးဖြတ်တတ်သူတို့ကား လိုက်လျောနိုင်ဘွယ် မရှိသည်တို့ကို "ငါကား မင်း၏ အရာ ထားခံရသည်" ဟူ၍ သဘောထားကာ လျှောက်ထားခြင်း ပြုလေ့

မရှိပေ။
၁၀။

မင်းနှင့်ရင်းနှီး သိကျွမ်းသည် ဖြစ်၍ မတော်မလျော်သော အစနှကို ပြုလုပ်သော မှူးမတ်တို့သည် ပျက်စီးခြင်းသို့ တိုင်ရာ၏။



သိရကုရယ်ယ်

## အခန်း (၇၁)
## သူတပါးစိတ်ကိုသိခြင်း။

၁။ အကြင်မှူးမတ်တဦးသည် မင်း၏မျက်နှာကိုကြည့်၍ စိတ်ထားကို မပြောဘဲနှင့် သိနိုင်ပါက ထိုသူသည် လောကကြီး၏ ထာဝရ အဆင်း တန်ဆာဖြစ်လျက်၊ မခန်းခြောက်နိုင်သော ပင်လယ်တို့ဖြင့် ဝိုင်းရံ၍ နေပေလိမ့်မည်။

၂ တပါးသူ၏ စိတ်အတွင်း၌ မည်သို့ရှိသည်ကို သေချာဂနစွာ ပြောနိုင်သူအား နတ်ကဲ့သို့ ရိုသေကြလိမ့်မည်။

၃။ တပါးသူ၏ စိတ်ကို မပြောဘဲနှင့် အရိပ်အခြေ ဖမ်း၍ သိနိုင်သူအား မင်းသည် လိုသမျှကို ပေးလျက်၊ ရာထူးတည်မြဲ စေပေလိမ့်မည်။

၄။ တပါးသူ၏ စိတ်ကို မပြောဘဲနှင့် သိရှိသူပြောမှ သိရှိသူတို့သည် ပုံပန်းခြင်း အားဖြင့် မခြားနားကြသော်လည်း အတွင်းစိတ်အားဖြင့်ကား ခြားနားကြ၏။

၅။ မျက်စိအစုံတို့သည် တပါးသူတို့၏ စိတ်တွင်းသို့ ထိုးထွင်း မသိရှိ တတ်လျှင် အဘယ်သို့ အသုံးကျတော့ အံ့နည်း။

၆။ မှန်တချပ်သည် အနီးရှိ အရာဝတ္ထုများကို အရိပ်ထင်နိုင်စေသကဲ့သို့ မျက်နှာ တခုသည်လည်း စိတ်တွင်းတွင် မည်သို့ ရှိနေသည်ကို အရိပ်ထင်နိုင် ပေသည်၊

၇။ မျက်နှာကဲ့သို့ သိမှတ်ဖွယ်အားလုံး ပြည့်လျှမ်းနေသော အရာသည် ရှိပါသေး၏ လော၊ ယင်းသည် စိတ်၏ ရှေ့ပြေးဖြစ်သည်။ စိတ်တွင် ကြည်ရွှင် နေသည်၊ အမျက် ထွက်နေသည်တို့ကို ခွဲခြား၍ သိနိုင်ပေသည်။

၈။ မင်းသည် တပါးသူတို့၏ စိတ်ကိုကြည့်ရုံမျှဖြင့် နားလည်နိုင်၏။ ဖြစ်ပျက်ပုံတို့ကို ဖယ်ရှားနိုင်သူတို့အား ရရှိလျှင် ထိုသူတို့၏ မျက်နှာကိုရပ်၍ စေ့စေ့ကြည့်ခြင်း ဖြင့် လုံလောက်ပေပြီ။

၉။ မင်းသည် တပါးသူတို့၏ မျက်စိအသွားအလာကို ကြည့်တတ်သော မှူးမတ်တို့ ရှိသည်ဖြစ်လျှင်၊ တပါးသော ထီးဆောင်းမင်းတို့၏ ချစ်ကြည်မှု၊ မုန်းတီးမှုတို့ကို သိနိုင်ပေသည်။

၁၀။ "ကျွန်ုပ်သည် စူးရှလေးနက်သည်" ဟူ၍ ပြောဆိုတတ်သော သူတို့အား တိုင်း တာခြင်းကရိယာကား–၎င်းတို့၏ မျက်လုံးများမှတပါး အခြားမရှိ။

# သိရကုရယ်လ်

ပရိသတ်အကဲကို ဖြတ်ခြင်း

ခန်း (၃၂)

၁။ ပရိသတ်ဗိုလ်ပုံသို့ ညီလာခံစဉ်၌ ထိုသူတို့၏စိတ်ကိုသိရှိ၍ စကားကို စီကာစဉ်ကာပြုလျက်၊ စင်ကြယ်သော သူတို့သည်သာ ပြောရာ၏။

၂။ လွှတ်ရုံးနှင့်တွင် အချိန်အခါကိုသိလျက် ခွဲခြားတတ်သော ဉာဏ်ဖြင့် ကောင်းမြတ်သောသူသည် ပြောရာ၏။

၃။ ညီလာခံ ပရိသတ်၏ သဘောကိုမသိဘဲ ပြောဆိုရန် တာဝန်ယူသူသည် စကား၏အလေးအနက်ကို မသိရုံမျှမက ပညာတန်ဖိုးလည်း ကင်းမဲ့သူဖြစ်ပေသည်။

၄။

မှုးမတ်တို့မည်သည် ပညာရှိတို့၏ အလယ်၌ ဆီမီးတန်ဆောင် ဖြစ်ရာ၏။ သို့သော် လူမိုက်တို့၏ အလယ်၌ ဖြူစင်သော အရာတခု ဖြစ်ရာ၏။

၅။

လူတို့၏ ကောင်းခြင်း အစုစုတွင် မိမိထက် ကြီးကဲသော သူတို့၏ အစုအဝေး၌ အလျင်စလို ဖြတ်သန်း၍ မပြောကြားဘဲ ဣန္ဒြေရှိခြင်းသည် အကောင်းဆုံး ဖြစ်၏။

၆။

မှူးမတ်တဦးအတွက် ပညာပြည့်စုံ၍ ပညာ၏တန်ဖိုးကို သိရှိသူတို့၏ အလယ်တွင် မှားယွင်းခြင်းမှာ ဂုဏ်ရှိသော လမ်းကြောင်းမှ လဲပြိုခြင်းနှင့်တူ၏။

၇။

ကောင်းစွာ ဖတ်မှတ် နားလည်ထားသဖြင့် တတ်သိနေသော သူသည် အပြစ်ကင်းစင်သော စကားတို့ကို စစ်ဆေးသိရှိတတ်သော လူပုံအလယ်၌ တင့်တယ်၏။

၈။ မိမိတို့ဖါသာ သိနားလည်နိုင်သူတို့အား ဟောကြားဆုံးမခြင်းသည် အလိုအလျောက် ပေါက်မြောက် ရှင်သန်နိုင်သော အပင်တို့အား ရေလောင်းပေးသကဲ့သို့ ဖြစ်၏။

၉။ လူကောင်း သူကောင်းတို့၏ အလယ်၌ ကောင်းဘွယ် ကောင်းမှုဖြစ်သော စကားတို့ကို လူအထင်ကြီးအောင် ပြောတတ်သူတို့သည် နိမ့်ကျသော သူတို့၏အလယ်၌ မမေ့ မလျော့ဘဲ ပြောဆိုရန် အရေးကြီး၏။

၁၀။ အဆင့်အတန်း နိမ့်ကျသူတို့၏ အလယ်၌ ကောင်းသော စကားတလုံးကို ပြောခြင်းသည် မြေကြီးပေါ်သို့ နတ်သုဒ္ဓါ တစက်ကို ချလိုက်ခြင်းနှင့် အလားတူ၏။

၇၂

ခန်း (၇၃)

## ပရိသတ်ရှေ့တွင်ဟန်နိုင်ခြင်း။

၁။ စကားလုံးတို့၏ ကွဲပြားခြားနားမှုကိုသိသော ပုဂ္ဂိုလ်သည် ဦးစွာပဌမ ပရိသတ်၏ သဘောကို သေချာစွာ သိရာ၏။ ပရိသတ်ကြီး၏ အလယ်၌ ကြောက်ရွံ့သဖြင့် ဆွံ့ဆွံ့အအ မဖြစ်သင့်ပေ။

၂။

မိမိတွင် ဆည်းပူး စုဆောင်းထားသည်နှင့်အမျှ ပညာရှိတို့၏ အလယ်၌ တင့်တယ်စွာ ပြသနိုင်သော သူသည် ပညာရှိတွင် ပညာအရှိဆုံး ဖြစ်၏။

။ လူပေါင်း များစွာတို့သည် မိမိတို့၏ ရန်သူရှေ့၌ ကြောက်ရွံ့ကင်းစွာ အသေခံကြမည်ဖြစ်၏။သို့သော်ပညာရှိတို့၏အလယ်၌ အကြောက်တရားကင်းမဲ့သူကား နည်းပါးလှပေသည်။

။ မှူးမတ်တို့သည် မိမိတို့ဆည်းပူး ရရှိထားသည်တို့ကို ပညာရှိတို့၏ အလယ်၌ ထုတ်ဖော်ပြသရာ၏။ မိမိထက်ပို၍ တတ်မြောက်သူတို့ထံမှ ထပ်မံဆည်းပူးရာ၏။

။ တပါးသောမင်းတို့၏ နန်းတော်တွင် ပြန်လည်ချေပ ပြောကြားနိုင်ရန်အတွက် မှူးမတ်တို့သည် စကားအရာကို သဒ္ဒါကျမ်းနှင့် ညီညွတ်အောင် လေ့လာထားရာ၏။

။ သတ္တိမရှိသောသူတို့၌ ဓားလွတ်ကို မည်သို့အသုံးပြုမည်နည်း။ ထို့အတူ ပညာရှိတို့၏ အစုအဝေးကို ကြောက်ရွံ့သော ပညာတတ်တို့သည် မည်သို့အသုံးချမည်နည်း။

။

လူ့ပုံအလယ်၌ မိမိ့အစွမ်းကို မယုံသော ပညာရှိသည် ရန်သူတို့၏ မိမိဓားကို ကိုင်ထားသော နပုန်းပန်းတုဘ်ကဲ့သို့ပင် ဖြစ်၏။

ရှေ့မှောက်၌ ။

လူ့ပုံအလယ်၌ တင့်တယ်ဖွယ်သော စကားကို မပြောတတ်သော သူတို့သည် မိမိတို့၌ ပညာအသီးသီး ဆည်းပူးရရှိထားသော်ငြားလည်း၊ အကျိုးမရှိပေ။

လေ့လာသိရှိ၍ တတ်မြောက်ထားသော်လည်း လူစုလူဝေးကို သည်းမှာ၊ စာမတတ်သော သူတို့ထက် ယုတ်ညံ့သေး၏။

ကြောက်ရွံ့သူ

အကြင်သူသည် ပရိဿတ် ဗိုလ်ပုံကို ကြောက်ရွံ့သဖြင့် မိမိ၏ပညာကို စိတ်ဝင်စားဖွယ်ဖြစ်အောင် ထင်ရှား မပြနိုင်လျှင် အသက်ပင်ရှင်၍ နေသော်လည်း၊ သေသည်နှင့် မခြားဖြစ်၏။

၇၇

# သိရုကုရယ်လ်

## အခန်း (၇၃) ပ

## ရိဿတ်ရှေ့တွင်ဟန်နိုင်ခြင်း။

၁။ စကားလုံးတို့၏ ကွဲပြားခြားနားမှုကိုသိသော ပုဂ္ဂိုလ်သည် ဦးစွာပဌမ ပရိဿတ်၏ သဘောကို သေချာစွာ သိရာ၏။ ပရိဿက်ကြီး၏ အလယ်၌ ကြောက်ရွံ့သဖြင့် ဆွံ့ဆွံ့အအ မဖြစ်သင့်ပေ။

၂။

မိမိတွင် ဆည်းပူး စုဆောင်းထားသည်နှင့်အမျှ ပညာရှိတို့၏ အလယ်၌ တင့်တယ်စွာ ပြသနိုင်သော သူသည် ပညာရှိတွင် ပညာအရှိဆုံး ဖြစ်၏။

၃။ လူပေါင်း များစွာတို့သည် မိမိတို့၏ ရန်သူရှေ့၌ ကြောက်ရွံ့ကင်းစွာ အသေခံကြမည်ဖြစ်၏။သို့သော်ပညာရှိတို့၏အလယ်၌ အကြောက်တရားကင်းမဲ့သူကား နည်းပါးလှပေသည်။

၄။ မှူးမတ်တို့သည် မိမိတို့ဆည်းပူး ရရှိထားသည်တို့ကို ပညာရှိတို့၏ အလယ်၌ ထုတ်ဖေါ်ပြသရာ၏။ မိမိထက်ပို၍ တတ်မြောက်သူတို့ထံမှ ထပ်မံဆည်းပူးရာ၏။

၅။ တပါးသောမင်းတို့၏ နန်းတော်တွင် ပြန်လည်ချေပ ပြောကြားနိုင်ရန်အတွက် မှူးမတ်တို့သည် စကားအရာကို သဒ္ဒါကျမ်းနှင့် ညီညွတ်အောင် လေ့လာထားရာ၏။

၆။ သတ္တိမရှိသောသူတို့၌ ဓားလွတ်ကို မည်လို အသုံးပြုမည်နည်း။ ထို့အတူ ပညာရှိတို့၏ အစုအဝေးကို ကြောက်ရွံ့သော ပညာတတ်တို့သည် မည်သို့ အသုံးချမည်နည်း။

၇။

လူပုံအလယ်၌ မိမိအစွမ်းကို မယုံသော ပညာရှိသည် ရန်သူတို့၏ မိမိမားကို ကိုင်ထားသော နပုန်းပန်းတုဘ် ကဲ့သို့ပင် ဖြစ်၏။

ရှေ့မှောက်၌ ၈။

လူပုံအလယ်၌ တင့်တယ်ဖွယ်သော စကားကို မပြောတတ်သော သူတို့သည် မိမိတို့၌ ပညာအသီးသီး ဆည်းပူးရရှိထားသော်ငြားလည်း၊ အကျိုးမရှိပေ။

၉။

လေ လာသိရှိ၍ တတ်မြောက် ထားသော်လည်း လူစုလူဝေးကို သည်မှာ၊ စာမတတ်သော သူတို့ထက် ယုတ်ညံ့သေး၏။

ကြောက်ရွံ့သူ

၁၀။ အကြင်သူလည်း ပရိသတ် ဗိုလ်ပုံကို ကြောက်ရွံ့သဖြင့် မိမိ၏ ပညာကို စိတ်ဝင် စားဖွယ်ဖြစ်အောင် ထင်ရှား မပြနိုင်လျှင် အသက်ပင်ရှင်၍ နေသော်လည်း၊ သေသည်နှင့် မခြားဖြစ်၏။





## အခန်း (၇၄)

## နိုင်ငံ၏ ကြီးမြင့်ခြင်း။

၁။ ပြည်ထောင်တခု ဆိုသည်မှာ ထိုပြည်ထောင် အတွင်းတွင် လူတို့သည် ပြည့် စုံစွာ စိုက်ပျိုးကြလျက်၊ လူကောင်း သူကောင်းတို့နှင့် ပြည့်စုံ၏၊ ကုန်သည် တို့၌ မကုန်ဆုံးနိုင်သော စီးပွားဥစ္စာတို့သည် ရှိ၏။

၂။ ပြည်ထောင်တခု ဟူသည်ကား ကြီးစွာသော စနအင်အားကြောင့် လိုလား အပ်၏၊ ကြီးစွာလည်း စည်ပင်နေ၏၊ယင်းကို ဖျက်ဆီးရန် အကြောင်းများလည်း

မရှိပေ။

၃။ ပြည်ထောင်တခုဟူသည်ကားအိမ်နီးချင်းပြည်ထောင်ကပေးအပ်သော တာဝန်ကိုယူနိုင်လျက်၊မိမိ၏ဘုရင်မင်းမြတ်ကို တချိန်တည်းပင် သစ္စာခံနိုင်ခြင်းဖြစ်၏။

၄။ ပြည်ထောင် တခု ဟူသည် လွန်စွာဝတ်မွတ်ခြင်းဘေးမှ ဆက်လက်၍ ကင်းဝေးလျက်၊ မပျောက်ကင်းနိုင်သော ကပ်ဘေးတို့ဖြင့်လည်း ကင်းရှင်း၏၊ရန်သူတို့နှင့်လည်း ကင်းရှင်း၏။

၅။ ပြည်ထောင် တခု ဟူသည်မှာ မညီညွတ်သော သင်းပင်း အုပ်စု အမျိုးမျိုးနှင့်လည်း ကင်းရှင်း၏၊ အဖျက်အားကြီးသော အတွင်း ရန်တို့ဖြင့်လည်း ကင်းရှင်း၏၊ ဘုရင်စိုးမင်းကိုပင် စော်ကားသော သတ်ဖြတ် တတ်သည့် လူရိုင်းတို့နှင့်လည်း ကင်းရှင်း၏။

၆။ ပညာရှိတို့၏ အလိုအားဖြင့် အကောင်းဆုံးသော ပြည်ထောင်တို့မည်သည် မိမိရန်သူတို့ထံမှ မကောင်းမှုများကို မခံစားရဘဲ အကယ်၍ ခံစားရသည်ရှိသော် မိမိ၏ စည်ပင် ဝပြောမှုတွင် အနှောင့်အယှက် မရှိဖြစ်သော တိုင်းပြည်မျိုးကို ဆိုလိုသည်။

၇။ ပြည်ထောင်တခု၏ လိုအပ်သော အရည်အခြင်းတို့မှာ အထက်မှ စီးသောရေနှင့် အောက်မှ စီးသောရေ တို့ဖြစ်၏၊ ထို့ပြင် ကောင်းစွာ တည်ရှိ အပ်သောတောင်ကုန်းများနှင့် မဖျက်ဆီးနိုင်သော ခံတပ်များဖြစ်သည်။

၈။ ပညာရှိတို့၏ အလိုအားဖြင့် ပြည်ထောင်တခု၏ အဆင်းတန်းဆာတို့ မည်သည်မှာ အောက်ပါ ငါးချက် ဖြစ်ပေသည်၊ ၎င်းတို့မှာ ကပ်ရောဂါများနှင့် ကင်းရှင်းခြင်း၊ စီးပွားကုံလုံခြင်း၊ ထွက်ကုန် ရှိခြင်း၊ ပျော်ရွှင်ခြင်း၊ တိုင်းသူပြည်သားတို့အား ကာကွယ်ခြင်းတို့ ဖြစ်လေသည်။

၉။ ပညာရှိတို့က ဆိုသည်မှာ ဥစ္စာ ဘဏ္ဍာတို့ကို အပင်တပန်း အားမထုတ်ရဘဲနှင့် ရသော တိုင်းပြည်သည် ပြည်ထောင်ဖြစ်၏၊ အပင်တပန်း အားထုတ်မှ ရသော တိုင်းပြည်သည် ပြည်ထောင်မဟုတ်။

၁၀။ အထက် ဖေါ်ပြပါ သာလွန် ကောင်းမြတ်ခြင်းများ ပြည့်စုံ၍ နေသော်လည်း၊ တိုင်းပြည် တပြည်တွင် အုပ်ချုပ်သူနှင့် တိုင်းသူ ပြည်သားတို့သည် ဆက်ဆံရေးတွင် အညီအညွတ် မရှိပါက အချည်းနှီးသာတည်း။

**အခန်း** (၇၅)

ခံတပ်ပြုခြင်း။

၁။

ကတုပ်ခံတပ်တို့မည်သည်မှာ ရန်သူတို့အား ချီတက်တိုက်ခိုက်ရာတွင် ကာကွယ်ခြင်းနှင့် မိမိတို့က ကြောက်ရွံ့သဖြင့် ရန်သူကို ကာကွယ်ရာတွင် အသုံးပြု၏။

၂။

ခံတပ်တို့၌ အစဉ်သဖြင့် ရေလည်း ရှိရ၏။ လှင်ပြင်များလည်း ရှိရ၏။ တန်းများလည်း ရှိရ၏။ အရိပ်ပေးသော သစ်တောများလည်း ရှိရ၏။

တောင်

၃။ ပညာရှိတို့၏ အလိုအားဖြင့် ခံတပ်တို့ မည်သည် အောက်ပါ အရည်အခြင်း လေးခုရှိသည်ဆို၏။ ၎င်းတို့မှာ အမြင့်၊အနံ၊အလျားနှင့် လူသူ မတက်ရောက်နိုင်ခြင်းဖြစ်၏။

၄။ ခံတပ်တို့မည်သည် အတွင်း၌ ကျယ်ပြောသော နေရာရှိလျက် မိမိတို့အား ဝန်းဝိုင်းထားသော ရန်သူတို့ကိုမူ ကောင်းစွာစောင့်ကြပ်လျက် နှိမ်နင်းသော နေရာဖြစ်သည်။

၅။

ခံတပ်တို့မည်သည် မစီးနိုင်သော နေရာဖြစ်သည်။ ရိက္ခာတို့ဖြင့်လည်း ပြည့်စုံသည်၊ ခံတပ်တွင်း နေသူတို့အားလည်း အလွယ်တကူ ကာကွယ် နိုင်သည်။

၆။

ခံတပ်တခု၌ လိုအပ်သော အရာအားလုံးရှိ၏။ ထို့ပြင် ထိုခံတပ်အား ရန်သူတို့က လာရောက် ဖျက်ဆီးမည်ကို ကာကွယ်ရန် သူရဲကောင်းများလည်း ရှိ၏။

၇။ ခံတပ်တို့မည်သည် ရန်သူတို့က ပိတ်ဆို့၍၎င်း၊ ထိုးစစ် တိုက်ခိုက်၍၎င်း၊ မပြုသာသော အရပ်ဖြစ်၏။

ဆင်၍ဗုဒ်။ အောက်မှ ၇။

ခံတပ်တွင်း၌ ရှိသူတို့အား အားကြီးသော
မိမိတို့မြေကို မစွန့်ရဘဲ တိုက်ခိုက်နိုင်သော

သူတို့က ဝန်းဝိုင်း ထားစေကာမူ၊ ၉။
နေရာမျိုး ဖြစ်အပ်၏။

ခံတပ်တခုသည် မိမိတို့၏ ဘက်တော်သားများက ရန်သူအား စစ်ပွဲ၌
ပတ်ဖြားယောင်းရန် သင့်လျော်သော အနေအထား ရှိရမည် ဖြစ်၏။

လှည့်

၁၀။ အထက် ဖေါ်ပြခဲ့သော အရည် အသွေးများ ရှိနေစေကာမူလည်း ထိုခံတပ်
အတွင်း၌ ခံနေမည့်သူတို့သည် တိုက်ရည် ခိုက်ရည် မရှိပါက၊ အချည်းနှီးတည်း။

အခန်း (၇၆)

၁။

စီးပွားဥစ္စာအရေးပါပုံ။

စီးပွားဥစ္စာမှလွဲ၍ အခြားအရာများကို အရေးမထားသော သူတို့အား အရေး ပါလာရန် မည်သည့် အရာကမှ မတတ်နိုင်ပေ။

၂။ ဆင်းရဲသူတို့အား လူတိုင်းစက်ဆုပ်ကြ၏၊ သို့သော် ချီးမွမ်းကြ၏။
ချမ်းသာသူတို့ကို လူတိုင်း

၃။

စီးပွားဥစ္စာ၏ ရောင်ရှိန်တို့သည် မိမိ၏ ပိုင်ရှင်က လိုလားသောအရပ်သို့ ရောက် ရှိသျှက် အမှောင်တည်းဟူသော ရန်ငြိုးဖွဲ့ခြင်းတို့ကိုပင် ပပျောက် စေနိုင်၏။

၄။ စီးပွားဥစ္စာကို ကောင်းသော နည်းဖြင့် စုဆောင်းရခြင်းကို သိရှိ၍ မကောင်း သောနည်းကို ပယ်ရှားနိုင်ပါက၊ ထိုစီးပွားသည် ပျော်ရွှင်ခြင်းကိုရင်၊ ကောင်းမှု ကိုရင်း, ပေးပေလိမ့်မည်။

၅။ မင်းတို့မည်သည့် ကြင်နာခြင်း, ချစ်ခင်ခြင်းတို့ဖြင့် သော ပစ္စည်းတို့ကို ရှောင်ရှားရာ၏။

ပိုင်ရှင် မရှိသောပစ္စည်း၊ အခွန်အကောက် ရသောပစ္စည်း၊ ရန်သူကို အောင်နိုင်၍ရသော ပစ္စည်းအားလုံးတို့မှာ မင်း၏ ပစ္စည်းများဖြစ်၏။

၇။

ကြင်နာခြင်းတည်းဟူသော သူငယ်ကို ချစ်ခြင်းတည်းဟူသော မိခင်က မွေးဖွား၍ ဥစ္စာမနေတည်းဟူသော ခလေးထိန်းက ပြုစုသုတ်သင် ပေးပေသည်။

၈ ။

လက်ထဲတွင် ဥစ္စာပစ္စည်းရှိသော သူ၏ ဆောင်ရွက်မှုကား တောင်ထိပ်မှနေ၍ ဆင် စီးချင်း ထိုးသည်ကို ကြည့်သော အမှုကဲ့သို့ ကြီးကျယ်၏။

၉။

စုဆောင်း၍ ရရှိသော ပစ္စည်းသည် မိမိရန်သူတို့၏ ကိုယ့်ကိုယ်ကို သိဒ္ဓိတင်မှုကို ဖျက်ဆီးနိုင်၏။ ထို့ထက် စွမ်းသော လက်နက်ကား မရှိပြီ။

၁ ၀ ။

ဥစ္စာပစ္စည်းတို့ကို ရိုးသားသော နည်းဖြင့် စုဆောင်းရရှိသော သူတို့တွင် အခြား အရာနှစ်ခု ဖြစ်သော ဂုဏ်သိက္ခာနှင့် ကြည်ရွှင်မှုတို့ကို ရရှိရန်မှာ လွယ်ကူလှ ပေသည်။

၈၆

သိရုကုရုယယ်

## အခန်း (၇၇) တပ်ကောင်း

### တဒုဇ်၏ အရည်အချင်း။

၁။ တပ်တခုသည် အင်္ဂါအစုံလင်ရှိလျက်၊ မိမိတို့အား အနာတရ ဖြစ်မည်ကို မကြောက်မရွံ့ဘဲ ချီတက်တိုက်ခိုက် နိုင်စွမ်းရှိလျှင် မင်းလုပ်သူတို့အတွက် ဥစ္စာရတနာ တပါးတည်း။

၂။ ရှေးက တပ်မတော်တို့သည် တပ်ဆုတ်ရစဉ်၌ စစ်သည်အင်အား လျော့ပါးခြင်း၊ ဒဏ်ရာရရှိခြင်းတို့ ဖြစ်စေကာမူ၊ မင်းသည် အနီးတွင် ရှိနေပါက စိတ်ဓာတ်အင်အားတောင့်တင်း၍ နေပေပြီ။

၃။ ကြွက်တို့သည် သိန်းသန်းချီ၍ ပင်လယ်ပြင်ကြီးကဲ့သို့ မြည်ဟီးလာသော် အဘယ်သို့ ပြုမည်နည်း။ ထိုကြွက်တို့အား မြွေဟောက်သည် ပါးပျဉ်းထောင် လိုက်စဉ်၌ပင် ပျက်စီး သွားလိမ့်မည်။

၄။ အကြင် တပ်မတော်သည် ရန်သူတို့က တိုက်ခိုက်သည်ကို မပြေးဘဲ ခံနိုင်ရည်ရှိမှသာ တပ်ကောင်း တခုဖြစ်၏။

တပ်ကောင်းတခုမည်သည် ယာမမင်းကြီးကပင် ဒေါသမန်ဟုန်ဖြင့် လာရောက်တိုက်ခိုက်စေကာမူ တည်တည်တံ့ ပြန်လည် ခုခံနိုင်သော အင်အားမျိုးရှိရာ၏။

၆။ တပ်မတော် တခု၏ ကောင်းမြတ်သော အရည်အသွေး လေးရပ်ကား သတ္တိရှိခြင်း, ဂုဏ်ဆောင်ခြင်း, ရှေးတပ်မတော် အစဉ်အဆက်တို့၏ ခြေရာကိုနင်းခြင်း, ယုံကြည်ထိုက်ခြင်း ဟူသော အကြောင်းတို့ ဖြစ်သည်၊

၇။ တပ်မတော် တခုသည် ရန်သူက တိုက်ခိုက် လာမည့် ဘေးကို ကာကွယ်ရမည့် အတတ်ကို သိရှိလျှင်၊ ရန်သူတို့ထံ တဟုန်တည်း ချီတက်နိုင်ရန် အစွမ်းလည်း ရှိရမည်ဖြစ်သည်။

၈။

တပ်မတော် တခုသည် အစွမ်းသတ္တိ မရှိ ခံနိုင်ရည် ကင်းမဲ့နေစေကာမူ၊ အပြင်ဘမ်း ခန်းနား ထယ်ဝါမှုကြောင့် ထင်ရှားနိုင်၏။

၉။

တပ်မတော် တခုသည် တပါးသူတို့၏ စိုးမိုးချယ်လှယ်မှုမှကင်းလျက် ဆင်းရဲခြင်း ဆန့်ကျင်ခြားနားမှုများတို့ ကင်းရှင်းလျှင် ရန်သူတို့ကိုအောင်နိုင်၏။

တပ်မတော်တခုတွင် အမြဲတမ်း စစ်သားများ အများအပြားပင် လည်း ဗိုလ်ချုပ်မရှိက တည်မြဲမည် မဟုတ်ပေ။

ရှိနေစေကာမူ

11 ၇၇

# သိရုကုရယ်လ်

## အခန်း (၇၈)

သူရဲကောင်းဖြစ်မှု။

၁။

အို–ရန်သူတို့ ကျွန်ုပ်တို့၏ ခေါင်းဆောင်ရွှေ့တွင်ရပ်၍ မနေပါလင့်၊ ဤသို့ရပ်၍ နေခဲ့သူ များစွာတို့သည် ကျောက်ရုပ်အဖြစ်သို့ ရွှေ့လျောခဲ့ကြကုန်၏။

၂။

ဆင်ပြောင်ကြီးကို လွှဲချော်သွားသောလှံတို့ကို ကိုင်ဆောင်ရခြင်းထက် သမင်ကို ထိုးနိုင်သောလှံကို ကိုင်ဆောင်ရခြင်းက ကျေနပ်ဖွယ်ရှိ၏။

၃။ ရန်သူနှင့် ရင်ဆိုင်ရာ၌ ကြမ်းတမ်း ခက်တရော်ရှိခြင်းသည် ကြီးစွာသော သတ္တိဖြစ်၏ ဟူ၍ ပညာရှိတို့ဆိုကုန်၏။ သို့သော် ရန်သူအား အမှတ်မထင် ထိခိုက်ရမှု၌ ကျေးဇူးပြုခြင်းကား ထိုသတ္တိ၏ အဆုံးစွန်သော အပိုင်းဖြစ်သည်။

၄။ သူရဲကောင်း တဦးမှာ လက်ထဲရှိ လှံတံကို ဆင်တကောင်အား ချိန်ထိုးပြီးသော် အခြားသော တကောင်ကို ရှာနေစဉ် လှံတံသည် မိမိကိုယ်ထဲ၌ စူးဝင်နေသည်ကို ရယ်မောလျှ၍ နှုတ်နိုင်သော သူပင်တည်း။

၅။ မိမိအား ရန်သူက ချိန်ရွယ်ထားသော လှံတံကြောင့် မျက်တောင်ကို ခပ်မိသော သူကား သူရဲကောင်းပင် ဖြစ်သတည်း။

၆။ သူရဲကောင်းတို့ မည်သည် မိမိတွင် ဒဏ်ရာအနာတရ မရှိခဲ့သော ရက်များကို နှမြော ပေလိမ့်မည်။

၇။ ကမ္ဘာအနှံ့ ကျော်ကြား လိုသူတို့သည် မိမိ၏ ခြေမျက်စိကိုသာ စီးနှောင်၍ အသက်ကို ပမာဏ မထားခြင်းမှာ မိမိကိုယ်ကို တန်ဆာဆင်ခြင်းကဲ့သို့ပင်တည်း။

၈။ တိုက်ပွဲ၌ မိမိ၏ အသက်ကို ပမာနမထားသော သူရဲကောင်းအား ရှင်ဘုရင်က ဝင်၍ တားဆီး နေစေကာမူလည်း၊ မိမိ၏ ထက်သန်မှုမှာ လျော့ပါးမည် မဟုတ်ပေ။

၉။

သေမင်းနှင့် သစ္စာနှံထားသူအား စစ်ရှုံးသောကြောင့်
ထန်စွာ ကဲ့ရဲ့ ပါမည်နည်း။
အဘယ်သူသည် ပြင်း

၃၀။

သူရဲကောင်းတို့သည် မိမိတို့၏ ဘုရင်များ မျက်ရည်ကျလောက်အောင် သေခြင်း
ကို ရရှိရန် တောင်းခံခြင်းကိုပင် ပြုထိုက်ပေသည်။

၁၈

သိရှုကုရှယ်လ်

# အခန်း (၁၉)

အဆွေခင်ပွန်းအဖြစ်

၁။

အဆွေခင်ပွန်းဖြစ်ရန်ယပ်၊ မည်သည့်အရာက ခက်ခဲပါသနည်း၊ ရန်သူ ထွင်
ပေါက်ခြင်းကို ကာကွယ်ရန်ထက် မည်သည့်အရာက ခက်ခဲပါသနည်း

၂။

ပညာရှိတို့၏ အဆွေခင်ပွန်း ဖြစ်ရခြင်းကား လဆန်းရက်ကဲ့သို့ တိုးတက်၏။
လူမိုက်တို့နှင့် ခင်ပွန်းဖြစ်ရခြင်းကား လဆုတ်ရက်ကဲ့သို့ ဆုတ်ယုတ်၏။

၃။

မြင့်မြတ်သူတို့နှင့် အဆွေခင်ပွန်း ဖြစ်ရခြင်းကား ပညာရှာရာ၌ကဲ့သို့ လာလေလေ ကြည်ရွှင်ဖွယ် ဖြစ်လေလေဖြစ်၏။

ယဉ်ပါ၊

၄။ အဆွေခင်ပွန်းဖွဲ့ခြင်းကို အပျော်သက်သက်အတွက်ပြုလုပ်ရန်မဟုတ်၊ မကောင်းမှုကို လွန်ကျူးမည်ရှိသောအခါ၊ ကြိုတင်သတိပေးရန်အတွက် တဦးကို တဦး ပြုပြင်ရန် ဖြစ်၏။

၅။ အတူတကွနေထိုင်၍ မကြာခဏတွေ့ဆုံခြင်းသည် မိတ်ဖြစ်ရခြင်း အတွက် လိုအပ်ချက်မဟုတ်ပေ။ တဦးနှင့် တဦးနားလည်မှု ဆန္ဒခြင်းကိုက်ညီလျှင် ကိစ္စပြီးပေသည်။

၆။ မျက်နှာတွင် ပေါ်ရွှေပြုံးရယ်သော အမှုတခုတည်းသည် မိတ်ဆွေ ဖြစ်မှုတွင် အရေး မပါပေ။ စိတ်နှလုံးသားတွင် ပြုံးရယ်ခြင်းကသာ တကယ့် မိတ်ဆွေ ဖြစ်၏။

၇။ မိတ်ဖြစ်ရခြင်းသည် မကောင်းမှုတို့မှ လမ်းလွှဲလျက် မိတ်ဆွေအား ကောင်းရာလမ်းကို ညွှန်နိုင်၏။ ဆုံးပါးရသော အခါ၌ ကြေကွဲမှုကို ဝေမျှခံယူနိုင်၏။

၈။ မိတ်ဆွေဖြစ်ရခြင်းသည် လူ့ပုံဒလယ်တွင် အဝတ်ကျွတ်ခြင်းကို ဖမ်း၍ ထိန်းသိမ်းရသကဲ့သို့ ဒုက္ခရောက်သည်ကို အလျင်အမြန် ကယ်ဆယ်ရခြင်းဖြစ်၏။

၉။ မိတ်ဆွေဖြစ်မှုကား တဦးတယောက်ကို အခါခပ်သိမ်း အမျိုးမျိုးတို့တွင် ကူညီနိုင်၍ စီးပွားဥစ္စာနှင့် ကောင်းမှု ကောင်းကျိုးတို့တွင် ဆောင်ရွက် ပေးနိုင်ခြင်းကား သရုပ် ဆောင်းပေတော့သည်။

၁၀။ မိတ်ဆွေအချင်းချင်းတို့သည် တဦးနှင့်တဦး ချီးကျူးလျက် သူသည် ကျွန်ုပ်တို့နှင့် အလွန်ရင်းနှီးသည်၊ ကျွန်ုပ်ကိုကလည်း သူနှင့် အလွန် ရင်းနှီးသည်ဟု ပြောကြသည့်တိုင် ထိုမိတ်ဆွေများ ဖြစ်မှုသည်ပင် တကိုယ်ကောင်း ဆန်နိုင်ပေသေး၏။



# သိရကုရယ်လ်

## အခန်း (၈၀)

## မိတ်ဆွေရွေးချယ်ခြင်း။

၁။ မိတ်ကောင်းတို့မည်သည် တကြိမ် ခင်မင်မိက စွန့်ပစ်၍ မသွားတတ်ပေ၊ မိတ်ဆွေတဦးအား မစုံမစမ်းဘဲနှင့် အဆက်အဆံ ဖြတ်ခြင်းသည်၊ အခြားအမှုနှင့်မယှဉ်သာသော ဆိုးဝါးမှု တရပ်ဖြစ်၏။

၂။

မစူးစမ်းပါဘဲနှင့် အကြိမ်ကြိမ် မိတ်ဆွေဖွဲ့မှုသည် နောက်ဆုံးတွင် မိမိအား အသက်ဆုံးရသည့်တိုင် ဝမ်းနည်းကြေကွဲမှုကို ဖြစ်စေနိုင်၏။

၃။

အကြင်သူ တဦးတယောက်အား အကျင့်စာရိတ္တ, မျိုးရိုးဇာတိ, ချတ်ယွင်းချက်များနှင့် ဆွေမျိုးအဆက်အသွယ်တို့ကို ကောင်းစွာ စုံစမ်းပြီးမှ မိတ်ဖွဲ့ရာ၏။

၄။

ကောင်းသော မျိုးရိုးမှ ဆင်းသက်၍ အပြစ်ပြုရခြင်းကို သူတို့အား မိတ်ပြုရန် ငွေပေး၍ပင် ပြုသင့်၏။

ကြောက်ရွံ့သော

၅။

မိမိသည် မကောင်းမှုတို့ကို မပြုလုပ်ရန် တားမြစ်နိုင်သော မိတ်ဆွေမျိုးကိုရင်း, အမှားကိုပြုမိလျှင် ဆုံးမတတ်သော မိတ်ဆွေမျိုးကိုရင်း, ရွေးချယ်၍ ပေါင်းသင်းရာ၏။

၆။ ဆုံးရှုံး ပျက်စီးရခြင်း၌ ပင်လည်း ကောင်းမှုရှိ၏၊ အဘယ့်ကြောင့် ဆိုသော် ဤအမှုဖြင့် မိမိအား ဆက်ဆံသူတို့၏ မေတ္တာကို အတိုင်းအတာ ပြုနိုင်သော ကြောင့်ဖြစ်၏။

၇။ သူဖိုက်ဘို့နှင့် ပေါင်းသင်း ရခြင်းကို စွန့်ပယ်နိုင်သူကား အကျိုးထူး တရပ် စင်စစ်ဖြစ်၏။

၈။ မိမိ၏စိတ်ကို နောက်ဆုတ် စေမည့်အကြောင်း များကို မတွေးတော ပါနှင့်။ မိမိအား ဒုက္ခရောက်နေစဉ် အတွင်း၌ စွန့်ပစ်သွားမည့်သူကို မိတ်ဆွေမဖွဲ့ပါနှင့်။

၉။ မိမိအား ဒုက္ခရောက်နေစဉ်၌ ပစ်ပယ်၍သွားမည့် မိတ်ဆွေတို့ကို အမှတ်ရမိလျှင် သေခါနီးဆဲဆဲ၌ပင် စိတ်ညစ်ညူး စေပေလိမ့်မည်။

၁၀။ သူတော်ကောင်းတို့နှင့် ဆက်လက်၍ ကြည်ဖြူစွာ ဆက်ဆံပါလေ၊ သို့သော် လောကကြီးနှင့် မသင့်တင့်သော မိတ်ဆွေတို့၏ လက်ဆောင် ပဏ္ဏာကိုကား ပယ်ရှားပါလေ။

ဤ၀

# သိရကုရယ်လ်

## အခန်း (၈၁)

အကျွမ်းဝင်မှု။

၁။ အကျွမ်းဝင်ရင်းနှီးမှုဟူသည် နှစ်ပေါင်းများစွာ ပေါင်းသင်းဆက်ဆံလာသည်ကို အကြောင်းပြု၍ ဖြစ်သောကြောင့် တစုံတရာ ထိခိုက် နစ်နာမှုကို မဖြစ်စေခြင်း ဖြစ်၏။

၂။ မိတ်ဆွေဖွဲ့ရခြင်း အခြေခံအကြောင်းများကား ရင်းနှီးခြင်းကို အကြောင်းပြု၍ ဆောင်ရွက်ရန် ဖြစ်၏။ ယိုသို့ရင်းနှီးခွင့်မှ ကြည်ဖြူမှု ဖြစ်စေခြင်းကား ပညာရှိတို့၏ ကိစ္စဖြစ်၏။

၃။

ရင်းနှီးကြခြင်းကို အခြေပြု၍ ပြုလုပ်သော အမှုများကို ဝန်မခံမိလျှင် ကြာမြင့်စွာ ပေါင်းသင်းခဲ့ကြရပါမူလည်း အဘယ်သို့ အကျိုးထူးမည်နည်း။

၄။

မိတ်ဆွေချင်း ရင်းနှီးသောကြောင့် မပြောမဆိုဘဲ တစုံတရာကိုပြုမိသည်ရှိသော် ပညာရှိတို့သည် လိုလားအပ်သည်ဟု အကြည်အသာ ခွင့်ပြုမြဲ ဖြစ်လေသည်။

၅။ မိတ်ဆွေအချင်းချင်း တစုံတရာ နာကျင်ဖွယ် ပြုမိသည်၌ ထိုအချက်ကို မသိကျိုးကျွန် ပြုရန်သာမဟုတ် ဤသို့ ပြုခြင်းသည် ရင်းနှီးသောကြောင့် ပြုခြင်းဟူ၍ ဆိုအပ်၏။

၆။ တကယ်စစ်မှန်သော မိတ်ဆွေဖြစ်နေကြသူတို့၌ ဘေးဒုက္ခရောက်ဆဲ ကာလတွင် တဦးနှင့် တဦး စွန့်ပစ်သွားလေ့ မရှိကြပေ။

၇။ ကြာမြင့်စွာ ပေါင်းသင်းခဲ့ပြီးသည့် မိတ်ဆွေတို့သည် ချစ်ခင်စွာ ဆက်သွယ်ပြီး ဖြစ်သည့် အလျောက် တဦးက မိမိ၏ ပျက်စီးကြောင်းကို ပြုသော်လည်း မိတ်မပျက်ကြပေ။

၈။ မိမိတို့ မိတ်ဆွေများ၏ မကောင်းမှု ပြုလုပ်ခြင်းအကြောင်း တို့ကို နားပထောင်အပ်ဟူ၍ မှတ်ယူ ထားကြသော်လည်း ထိုနေ့တွင် မိတ်ဆွေများ အမှားပြုလုပ်ခဲ့သော် စုံစမ်းခြင်းသည် ကောင်းပြတ်၏။

၉။ မိမိတို့ကြာမြင့်စွာ ပေါင်းသင်းလာခဲ့သော မိတ်ဆွေ သဂ်ဟတို့ကို မပျက်အောင် ဆက်လက် နိုင်သူတို့အား လောကကြီးသည် မေတ္တာထား၏။

၁၀။ ကြာရှည်စွာ ပေါင်းသင်းလာသော မိတ်ဆွေတို့အပေါ်တွင် စိတ်ထားမပြောင်းလဲသူတို့အား မိမိ၏ ရန်သူတို့ကပင် ချစ်ခင်ကြလိမ့်မည်။

၈၁

# သိ်ရုကုရယ်လ်

## အခန်း (၈၂)
## ကောင်းသူနှင့် မိတ်ဖွဲ့ခြင်း။

၁။ ကောင်းသော အရည်အခြင်းများ မရှိဘဲ မိမိအား စားမတတ်, ဝါးမတတ်, ချစ်ခင်ဟန်ပြုသူတို့နှင့် ဆက်ဆံမှု လျော့ပါးရခြင်းသည် ဆက်ဆံမှု တိုးတက်ခြင်းထက် ကောင်း၏။

၂။

အမြတ်ထွက်ဖွယ်ရှိလျှင် ပေါင်းသင်း၍ အရှုံးထွက်ဖွယ်ရှိလျှင် တို့နှင့် မိတ်ပြုရခြင်းတို့သည် မည်သို့မျှ ထူးခြားခြင်း မရှိပေ။

စွန့်ခွါသွားသူ

၃။ မိမိတို့ ပေါင်းဖက်ရသော မိတ်ဆွေထံမှ အမြတ်ကို မျှော်ကိုး ခြင်းသည်၎င်း, ဥစ္စာကို မျှော်ကိုးသော ပြည်တန်ဆာတို့သည်၎င်း, သူခိုးတို့သည် ဍ ;, ဂိုသုံးဦး တို့သည် အကျင့်အကြံအားဖြင့် တူညီကြ၏။

၄။ မလိမ်မာသော မြင်းကဲ့သို့ စစ်ပွဲတွင် မိမိအား စီးသူကို ခါချတတ်သော မိတ်ဆွေမျိုးကို ပေါင်းသင်းရခြင်းထက် တကိုယ်ထည်းတည်း နေရသည်က လိုလားအပ်၏။

၅။ ယုတ်ညံ့သော သူတို့ကို ပေါင်းသင်း၍ ၎င်းတို့အား မိတ်ဆွေတို့ကို စောင့်ရှောက်ရန် တာဝန်ပေးထားပါလျက်ပင်၊ မစောင့်ရှောက်နိုင်ပါက သူတို့နှင့်ပေါင်းရ - ခြင်းကို ရှောင်ရှားရခြင်းသည် သင့်မြတ်၏။

၆။ သူရူးသူမိုက်တို့နှင့် အလွန်အကြူးရင်းနှီးခင်မင်ရခြင်းထက် ပညာရှိတို့၏ မုန်းတီးခံရခြင်းက အကြိမ် ဆယ်သန်းမျှ ကောင်းသေး၏။

၇။ ရယ်သွမ်း သွေးခြင်းကိုသာ ပြုလုပ်နေသူထံမှ ရရှိရခြင်းထက် မိမိ၏ ရန်သူထံမှ လက်ခံ ရရှိရခြင်းက ပို၍ အကျိုးအမြတ် ဖြစ်နိုင်၏။

၈။ မိမိတို့ ဆောင်ရွက်နိုင်သည်ကို မဆောင်ရွက်နိုင်ဟန် ပြုသော မိတ်ဆွေတို့အား တစထက်တစ မိတ်အဖြစ်မှ မသိမသာ နောက်ဆုတ်ရာ၏။

၉။ မိမိတို့ပြောဆိုချက်နှင့် ညီအောင် မလုပ်သူတို့နှင့် ပေါင်းသင်းရခြင်းကား အိပ်မက်ထဲ၌ပင်လျှင် စိတ်ပျက်ဖွယ် ကောင်းလှ၏။

၁၀။ မိမိအား နှစ်ဦးချင်းတွင် ချစ်ခင်၍ လူပုံအလယ်ကျင် ပြက်ရယ်ပြုတတ်သော မိတ်ဆွေတို့နှင့် ပေါင်းသင်းရခြင်းကို အနည်းငယ်မျှမပြုဘဲ ရှောင်ရှားရာ၏။

၈၂

# သိရုကုရယ်လ်

## အခန်း (၈၃)
## မိတ်တုပိတ်ယောင်များ။

၁။ အမှန်တကယ် မချစ်နှစ်သက်ပါဘဲနှင့် အပြင်ဘမ်းမှ ချစ်ခင် နှစ်သက်ယောင်ပြုနေသူတို့နှင့် မိတ်ပြုရခြင်းသည် အခါအခွင့်သင့်လျှင် ဒုက္ခပေးမည့် လက်နက်ဖြစ်တော့၏။

၂။ မိမိတို့က မခင်မင်ဘဲနှင့် ခင်မင်ယောင် ပြုနေသော သူတို့၏ မေတ္တာသည် ပြည့်
တန်ဆာမတို့၏ မေတ္တာနှင့် တူ၏။

၃။ ရန်ပြုတတ်သူတို့သည် မည်သို့သော ကျမ်းဂန်များကို တတ်မြောက် နေစေကာမူလည်း စိတ်တွင်း နှလုံးတွင်းက မေတ္တာထားတတ်စေရန် သူတို့အတွက် မဖြစ်နိုင်ချေ။

၄။ မျက်နှာကမူ ချိုပြုံးလျက် ဝမ်းတွင်းကမူ ကျစ်သည့် သူမျိုးကို သတိထားရာ၏။

၅။ တကယ် မချစ်နှစ်သက်သော သူတို့၏ စကားကို မယုံကြည်ထိုက်ပေ။

မည်သည့်နည်းနှင့် ဖြစ်စေ

၆။ ရန်သူတို့ မည်သည် မိတ်ဆွေကဲ့သို့ ထင်ယောင်ပြုလျက် ကောင်းသော စကားများကို မည်မျှပင် ပြောဆိုစေကာမူလည်း သူတို့၏ စိတ်ရင်းသဘောမှာ ချက်ချင်းပင် သိသာနိုင်၏။

၇။ လေးကို ပစ်ရန် ကွေးညွတ်စဉ်ကပင် မကောင်းသော အကြံအစည် ရှိကြောင်း သိရသကဲ့သို့ ရန်သူတို့၏ စကားများကိုလည်း ကောင်းသည်ဟူ၍ လက်မခံရန် ဖြစ်၏။

၈ ။

မိမိအား ချီးကျူး ဂုဏ်ပြုသော ရန်သူ၏ လက်တွင်း၌ လက်နက်များ ဝှက်၍ ပါလာနိုင်၏။ ထိုနည်းတူ ရန်သူတို့ကျသော မျက်ရည်များလည်း ဤသို့ လျှို့ဝှက်သော သဘော ရှိပေသည်။

၉။ မိမိအား အပြင်ဘမ်းအားဖြင့် အလွန်ချစ်ခင်ဟန်ပြ၍ အတွင်းစိတ်က မုကားစက်ဆုတ်လျက် ရှိကြသောသူတို့အား အတွင်းစိတ်က မချစ်ခင်မိရန် တာဝန်မှာ မင်းလုပ်သူတို့၏ တာဝန်ဖြစ်၏။

၁၀။

ရန်သူတဦးသည် မိမိအားမိတ်ပြု၍ လာသည်ဖြစ်အံ့၊ ထိုသူအား အပြင်ဘမ်း အားဖြင့် ချစ်ခင်သမှုပြု၍ အတွင်းစိတ်ဖြင့် မချစ်ခင်စေရန် သတိပြုရ၏။
၁၃

# သိရုကုရယ်လ်

**အခန်း (၁၄)** **မိုက်မဲခြင်း။**

၁။ မိုက်မဲခြင်းဟူသည် အကြီးဆုံးသော ချွတ်ယွင်းချက်တခုဖြစ်၏၊ ထိုအမှုကြောင့် ပုဂ္ဂိုလ်တဦးတယောက်အား ဆုံးရှုံးခြင်းကိုလည်း ဖြစ်နိုင်၏၊ အကျိုးအမြတ်ကိုလည်း လွဲသွားစေနိုင်၏။

၂။ အကြီးဆုံးသော မိုက်မဲမှုကား တားမြစ်ထားသော အရာတခုကို နှစ်နှစ်ခြိုက်ခြိုက် ဦးတည်ပြုလုပ်ခြင်း ဖြစ်ပေသည်။

၃။ အရှက်တရား ကင်းခြင်း, အားထုတ်အပ်သည်တို့ကို အားမထုတ်ဘဲ နေခြင်း, ကြမ်းတမ်း ခက်ထရော်ရှိခြင်း, လိုလားအပ်သည်တို့ကို မလိုလားခြင်း, ဟူသော အကြောင်းတို့မှာ သူမိုက်တို့၏ အရည်အချင်း ဖြစ်သည်။

၄။ မိမိကိုယ်တိုင်က ကောင်းစွာ လေ့လာနားလည် ပြီးလျက်၊ တပါး သူတို့အား သင်ကြားပြသလျက်ရှိသော သူတွင် မိမိပြောသကဲ့သို့ မကျင့်ကြံနိုင်ခြင်းထက် ကြီးမားသော မိုက်မဲမှုမျိုးသည် မရှိ။

၅။ မိုက်မဲသူ တဦးသည် တဘဝတည်းပင် မိမိ ခံစားရန် ငရဲကို ရောက်ရှိနိုင်၍ ယင်းကို ခုနစ်ဘဝဆက်၍ ခံစားရတတ်လေသည်။

၆။ မည်သို့ ပြုလုပ်ကျင့်ကြံရှိမည်ကို မသိသော သူမိုက်တယောက်သည် အလုပ်တခုကိုပြုအံ့၊ ထိုသူသည်မလွဲမသွေ ရှုံးနိမ့်ရမည်ဖြစ်၏။ ဤမျှသာလော မဟုတ်သေးချေ။ မိမိကိုယ်ကို နှောင်ကြိုးတို့ဖြင့် တည်းပြီးသား ဖြစ်တတ်၏။

၇။ သူရူးသူမိုက်တဦးသည် များလှစွာသော ဥစ္စာတို့ကို ရရှိပါက ထိုသူ၏ ဥစ္စာကို သူ့အိမ် နီးချင်းများ စားသုံးနေချိန်၌ သူ့ဆွေမျိုး များမှာ ငတ်ပြတ်၍ နေတတ်၏။

၈။ သူရူးသူမိုက်တဦးတွင် တစုံတရာ ဥစ္စာရရှိလာခြင်းမှာပင် ကိုယ်က မူးနောက်နေသူတဦးအား သေရည်ဖြင့် ယစ်မူး စေသကဲ့သို့တည်း။

၉။ သူရူးသူမိုက်တို့ လောက၌ မိတ်ပြုရခြင်းသည် ၎င်းတို့အချင်းချင်းအဖို့ အလွန်ကြည်ရွှင်ဖွယ်ဖြစ်၏။ အဘယ့်ကြောင့် ဆိုသော် ခွဲခွါရစဉ်၌ စိတ်မကောင်း ဖြစ်ရဘွယ် မရှိနိုင်သောကြောင့် ပင်တည်း။

၁၀။ ပညာရှိတို့၏ အစုအဝေး၌ သူရူးသူမိုက် တယောက် ဝင်ရောက် လာခြင်းသည် အိပ်ရာပေါ်သို့ ခြေမဆေးဘဲ တက်သည်နှင့်တူ၏။

၀၄

## သိရ ကုရ ယ် လ်

အခန်း (၈၅)

၁။

ဝါကြွားမှု။

လိုအင်ဆန္ဒတို့တွင် ပညာကို လိုခြင်းသည် အကြီးဆုံးသော ဆန္ဒဖြစ်၏။ ဥစ္စာစီပွားကိုအလိုရှိသော ဆန္ဒကိုမူကား လောကကြီးသည် ဤမျှတန်ဖိုး မထားပေ။

၂။ သူရှူး သူမိုက် တဦးက ဂဃုံတပျာကို ပေးကမ်းနေခြင်း၏ သဘောမှာ အခြားမဟုတ်၊ လက်ခံရရှိသူ၏ ယခင် ၁၀ဝက ပါသော ကုသိုလ် အဟုန်ကြောင့်သာ ဖြစ်၏။

၃ ။

သူရှူး သူမိုက်တို့သည် မိမိတို့ကိုယ်ကို ဒုက္ခရောက်စေတတ်၏။ ဤဒုက္ခမျိုးကို ရန်သူတို့ကပင် ကိုယ်ကို ဤသို့ပြုရန် ခက်သေး၏။

၄။ ပညာကိုလိုချင်ခြင်းတည်းဟူသောဆန္ဒမှာ ကြောင့်ဖြစ်၏။

"ငါကိုပညာရှိပြီ" ဟူ၍ပြောလိုခြင်း

၅။ မိမိတို့ မဖတ်ရှုခဲ့ရဘူးသည်တို့ကို သိရှိသည်ဟူ၍ ဟန်ဆောင်သော သူရှူးသူမိုက်တို့အား မိမိတို့ကောင်းစွာ သိပြီး ဖြစ်သောအကြောင်းများကိုပင် လူအများက သံသယရှိစေရန် ဖန်တီး နိုင်၏။

၆။

လူတဦး၏ မိုက်မှားမှုများကို စွန့်လွှတ်ခြင်း တည်းဟူသော နည်းနှင့် မဖုံးအုပ်ပါက၊ မိမိ၏ကိုယ်လုံးတီးကို ဖုံးအုပ်ထားခြင်းပင်လည်း မိုက်မဲမှုသာဖြစ်လိမ့်မည်။

၇။

သူရူးသူမိုက် တဦးသည် ကောင်းသော အကြံဥာဏ်     ပေးမှုတို့ကို မိမိကိုယ်ကို ကြီးစွာသော ဒုက္ခ ရောက်စေနိုင်၏။

## ပယ်ရှားသပြင့်

၇။ သူရူး သူမိုက် တဦးသည် မိမိ၏ ဆောင်ရွက်ဖွယ် တာဝန်များကို တပါးသူက အကြံပေး၍သော်၎င်း, မိမိကိုယ်တိုင်က သိမြင်၍ သော်၎င်း, ဆောင်ရွက်ချင်မှ ဆောင်ရွက်တတ်၏၊ ထိုသို့ပြုသောသူသည် မသေမီကာလ၌ ကမ္ဘာလောကကြီး အတွက် ဝန်ပိုလေးနေသည်သာ ဖြစ်တော့သည်။

၉။ သူရူးသူမိုက်တဦးသည် မိမိ၏မိုက်မဲမှုကိုပင်ပညာရှိခြင်းဟူ၍မာန်ဝင်နေတတ်၏ ထို့ကြောင့် ထိုသူအား တရားပြနေသော သူသည်လည်း ရူးနှမ်းသူ တဦးသာ ဖြစ်သည်။

၁၀။

လောကကြီး တခုလုံးက တည်ရှိသည်ဟု  လက်ခံယုံကြည် ထားသည် တို့ကို ပယ်ရှားသူသည် ကမ္ဘာမြေပေါ်တွင် နတ်မိစ္ဆာတမျိုး ဖြစ်လေသည်။



## သိရုကုရယ်လ်

နှ (၁၆)

မုန်းတီးခြင်း။

၊

သူသတ္တဝါတို့ အလယ်၌ ညီညွတ်မှုကိုပျက်ပြားစေသော မကောင်းမှု တရားကို မုန်းတီးမှုဟူ၍ ပညာရှိတို့ ခေါ်ကြသည်။

၂။ မညီညွတ်စေမှုကို စိတ်ထား၍ မလိုလားဘွယ် ကိစ္စများကို ပြုလုပ်မိသည့် တိုင်အောင် ထိုသို့ပြုလုပ်သော အမုန်းတရားမှ ထိခိုက်နစ်နာဘွယ် တစုံတရာပေါ် မလာစေခြင်းသည် ကောင်း ပေသေး၏။

၃။ မိမိ၏ ကိုယ်တွင် အမုန်းတရားတည်းဟူသော ကြောက်မက်ဖွယ် ရောဂါဆိုးကြီး ကိုပယ်ရှားနိုင်ပါက ဂုဏ်သဘင်းကျော်စော ပြန့်နှံ့ခြင်းသည် မယုတ် လျော့ဘဲ တိုးတက် လာပေမည်။

၄။

မုန်းတီးခြင်း တရားဟူသော အကြီးဆုံး ကြောက်ဘွယ်ကိစ္စကို အကြီးဆုံးသော ကြည်ရွှင်မှုကို ပေါ်ပေါက် စေလိမ့်မည်။

၅။ အမုန်းတရားမှ အလိုအလျောက် နောက်သို့
သည် အောင်နိုင်ရန် ကြိုးစားပါမည်နည်း။
ဆုတ်လာသူတို့အား အဘယ်သူ

၂၆

အမုန်းတရား လွှန်ကဲစွာ ထားခြင်းသည် ကောင်းမြတ်လှသည်ဟု ပြောဆိုသော
သူ၏ ဆုံးရှုံးခြင်းနှင့် ပျက်စီးခြင်းတို့သည် မဝေးတော့ပေ။

၇။ မုန်းတီးခြင်းကို အခြေပြု၍ တစုံတခုကို ဆုံးဖြတ်ခြင်းကြောင့် ကြေကွဲ ဘွယ်ကို
ပေါ်ပေါက်စေသော သူတို့သည် သစ္စာတရား၏ အောင်မြင်ကြောင်း သဘာဝ
ကို နားမလည်သူတို့ ဖြစ်ကြလေသည်။

၈။ အမုန်းတရားမှ နောက်ဆုတ်ခြင်းသည် အကျိုးစီးပွားကို ဖြစ်စေလိမ့်မည်၊ အမုန်း
တရားတွင် ဝင်ရောက်ခြင်းသည် ပျက်စီးခြင်းကို အလျင်အမြန် ရစေလိမ့်မည်။

၉။

မုန်းတီးရန် စိတ်မကူးသူတို့သည် ကြီးပွား တိုးတက်၏။ အမုန်းတရားကို တိုးပွား
သူတို့မှာမူကား ပျက်စီးရန် သေချာလှ၏။

၁၀။ အားလုံးသော ဒုက္ခတို့သည် အမုန်းတရားကို မှီ၍ ဖြစ်ကုန်၏၊ မိတ်ဆွေ ပြု၍ ချစ်ခင်ကြင်နာခြင်းကား ကောင်းမှု အဟုန်တို့ကို တိုးပွား စေလေသည်။

၈၆

# သိရုကုရုဃ်လ်

## အခန်း (၁၇)

## ရန်သူတို့၏ လက္ခဏာများ။

၁ ။

သန်မာသော သူတို့ကား ဖော်လှန်ရန် ရှောင်ရှားကြလျက် အားနည်းသော သူတို့ကား မည်သည့်အခါမဆို ရန်ပြုလိုစိတ် ပွေးဟတ်ကြ၏။

၂။ မေတ္တာတရား ကင်းမဲ့လျက် ထောက်ပံ့ကူညီမည့် အင်အားကြီးသူတို့ မရှိပါဘဲ၊ မိမိကိုယ်တိုင်တွင်လည်း ခွန်အား မရှိတဲ့ပါက ရန်သူကို အဘယ်နည်းဖြင့် အောင်နိုင်ပါမည်နည်း။

၃ ။

အကြင်သူတို့သည် ထိုထိုင်းနေလျှင်ရင်း၊ ပညာမဲ့လျှင်ရင်း၊ လူရာမဝင်လျှင်ရင်း၊ စေးနဲလျှင်ရင်း မိမိ၏ ရန်သူတို့ အပြင်၌ လွန်စွာ အားနည်းသူ ဖြစ်ပေသည်။

၄။ အကြင်သူ တဦးသည် ဒေါသကိုလည်း မချုပ်တည်း၊ မိမိ၏ လျှို့ဝှက်ချက်ကို လည်း မသိမ်းဆည်းတတ်ပါက၊ မည်သည့်အခါ မည်သည့်နေရာတွင်မဆို တပါး သူတို့က အလွယ်တကူ အနိုင် ယူနိုင်လေသည်။

၅။ ရန်သူတို့က ဝမ်းမြောက် ဝမ်းသာ ကြည့်လိုသော ပုဂ္ဂိုလ်မျိုးကား တရား ကျမ်းဂန်တို့ကိုလည်းမဖတ်၊ ထိုကျမ်းဂန်တို့၏ အဆိုအမိန့်ကိုလည်း မလိုက်နာ၊ ကဲ့ရဲ့မည်ကိုလည်း ဂရုမထား၊ ကောင်းသော ကိုယ်ကျင့်တရားလည်း မရှိသူမျိုး ဖြစ်လေသည်။

၆။ အကြင်သူ၌ မုန်းတီးခြင်း တရားကို အခြေပြု၍ မပြင်မကန်းဖြင့် မွှန်နေသော ဒေါသစိတ်လည်းရှိ၏။ လောဘစိတ်ဟူလည်း အတိုင်းအဆမရှိ ပြန့်ပွား၍ နေ၏။ ထိုသူမျိုးကား ရန်သူတို့ ကြည့်လိုသော သူမျိုးတည်း။

၇။ အကြင်သူတဦး၌ မိမိပြုလုပ်သော အလုပ်တခုသည် အောင်မြင်ရန်အတွက် အထောက်အကူ ပြုနိုင်သော အမှုမျိုးကို မဖြစ်ပါက ထိုသူအား တားမြစ်ရန် ထိုသူ၏ မုန်းတီးခြင်းကို ပယ်၍သော်မှ ယူသင့်၏။

၈။ အကြင်သူ၌ ကောင်းမသော ဂုဏ်အမြင်အရာများ မရှိလှက်၊ မကောင်းမှုတို့သာ များလှစွာ၏။ ထိုသူမျိုးတွင် မိတ်ဆွေများ ကင်းသောကြောင့် ရန်သူများ အတွက် အားတက်ဖွယ်ဖြစ်၏။

၉။ အ,နု ၍ရင်း၊ ပညာသင်၍ရင်း နေသူတို့အား အောင်မြင်သော သူတို့အတွက် အဆုံး မသတ်နိုင်သော ကြည်ရှင်မှုမျိုး ဖြစ်ရ၏။

၁ ၀ ။

ပညာမဲ့သူတို့အား တိုက်ခိုက်အောင်မြင်သည်ဟူသော အသေးအမွှား ဂုဏ်ထူး ကလေးကိုသာ ရဖို့သောသူတွင် ထင်ပေါ်ကျော်ကြားမှု တည်းဟူသော အလင်း ရောင်အည် မရရှိနိုင်ပေ။

# သိရကုရယ်လ်

ရန်ငြိုးဖွဲ့ခြင်း။

ခန်း (၈၈)

၁။ မုန်းတီးခြင်းဟူသော မကောင်းမှုသဘောသည် ကြည်ဆယ်နောက်ပြောင်ရာ၌ပင် ဖြစ်စေ၊ လိုလားအပ်ဖွယ် မရှိပေ။

၂။ အကြင်သူတို့သည် လေးမြားဘိုကို လက်နက်ပြုသော သူရဲကောင်းတို့အား အမုန်းတရားကို ပြုမိသည်ဖြစ်စေကာမူ၊ စကားလုံးတို့ကို လက်နက်ပြုသော မှူးမတ်တို့၏ မုန်းတီးခြင်းကိုကား မပြုအပ်ပေ။

၃။ အကြင်သူတယောက်သည် မိမိတဦး ထီးထီးက အများမုန်းတီးရန် ပြုလုပ်နေပါက သူရူးတယောက်ထက်ပင် မကောင်းဖြစ်စေပေသေးသည်။

၄။ မုန်းတီးခြင်းကို မိတ်မဆွေဖြစ်ရခြင်းသို့ ရောက်ရှိအောင် ကျင့်ကြံနိုင်သော သူတော်ကောင်းတို့၏ ကြီးမြင့်မှုကို လောကကြီးသည် ဂုဏ်ပြုလိုက်နေ၏။

၅။ မိမိက တဦးတည်းဖြစ်လျက် ရန်မူသူက နှစ်ဦးဖြစ်နေလျှင် မိမိသည် ရန်သူနှစ်ဦးမှ တဦးကို မိမိနှင့်သဘော တူညီအောင် အားထုတ်ရာ၏။

၆။ မိမိ၏ရန်သူသည် မိမိချို့တဲ့ချက်များကို သတိထားမိသည်ဖြစ်စေ၊ မထားမိသည် ဖြစ်စေ မိမိသည် မှန်ကန်စွာ ပြုရာ၏။

၇။ မိမိ၏ ခံစားရသော ဒုက္ခအပေါင်းတို့အား၊ ၎င်းတို့၏ အကြောင်းကို မသိသော မိမိ၏ မိတ်ဆွေတို့ကိုပင်လည်း မပြောသင့်ပေ။ မိမိ၏ ရန်သူတို့ရှေ့၌ မိမိ၏ အား နည်းချက်များကို ထုတ်ဖော်မပြောအပ်ချေ။

၈။ မည်သို့ ပြုကျင့်ရမည့် နည်းလမ်းနှင့် အထောက်အကူရမည့်နည်းလမ်းတို့ကိုသိရှိ၍ ကာကွယ်နိုင်ပါက ရန်သူ၏ ဝမ်းမြောက်ခြင်းတို့ကို ဖျက်ဆီးပြစ်နိုင်လိမ့်မည်။

၉။ ဆူးရှိသော အပင်များကို ငယ်စဉ်ကပင်လျှင် လှဲ၍ ပစ်ရာ၏။ အကြောင်းမှာ ကြီးခါမှ ခုတ်လှဲလျှင် ခုတ်လှဲသူအား စူးရှစေနိုင်သောကြောင့်တည်း။

၁၀။ အကြင် သူတို့သည် မိမိအား မုန်းတီး သူ၏ ဂုဏ်မာနကို မချိုးနှိမ် နိုင်လျှင် အသက် ရှင်ရန်လည်း မရှိသည်မှာ သေချာ၏။



သီရကုရယ်ပယ်

## အခန်း (၈၉)

## အတွင်းစိတ်မှ မုန်းတီးခြင်း။

၁။ ရိပ်ခိုရန် နေရာနှင့် သောက်ရန် ရေတို့သည် ရောဂါပိုးတို့ကို ဖြစ်ပွားစေပါက မကောင်းပေ။ ထို့အတူ တပါးသူတို့နှင့် ဆက်ဆံရာ၌ အကြင်သူ ထပ်ဦး၏ အ ရည်အသွေးသည် မလျော်ကန်သဲ အန္တရာယ်ပြုစေတတ်ပါက မကောင်းပေ။

၂။ မိမိအား ဝါးနှင့် ခုတ်ဖြတ်မည်ဟူသော [illegible]ကို မကြောက်ပါနှင့်။ မိတ်ဆွေ ယောင်ဆောင်၍ ဆွေမျိုးရင်းချာပမာ ဆက်ဆံသော အယောင်ဆောင်မိတ်ဆွေ အားသာ ကြောက်ရွံ့ပါလေ။

၃။ အတွင်းစိတ်မှ မုန်းတီးစွာ ရန်ငြိုးဖွဲ့ခြင်းကို ကြောက်ရွံ့စွာဖြင့် မိမိသဏ္ဍာန်မှ ပယ်ရှားပါလော့။ မကောင်းသောအချိန် တချိန်တွင် ၎င်းမှာ အိုးထိန်းသည်၏ လက်နက်သည် အိုးကို ဖျက်သကဲ့သို့ မိမိအား ပျက်ပြားစေတတ်သည်။

၄။

လျှို့ဝှက်စွာ ရန်ငြိုးဖွဲ့လျက် [illegible] မရှိသော ဆွေမျိုးရင်းချာတို့ အလယ်၌ပင် မုန်းတီးခြင်းကို ခံရစေနိုင်၏။

သူသည် မိမိ၏ ၅။

မင်းဆွေ မင်းမျိုး မိသားစုယဲ၌ အတွင်းသဘော မုန်းတီးခြင်း ရှိပါက အန္တရာယ် ဖြစ်လောက်သော ဖြစ်မှုများကို ဦးတည်နေပေသည်။

အသက် ၆။

မိမိ လူရင်းများထဲ၌ မုန်းတီးခြင်းတရား ပွါးများလာပါက လွတ်အောင်သွားရန် မဖြစ်နိုင်တော့ပေ။

သေခြင်းတရားနှင့်

၇။ မိသားတစုထဲတွင် မုန်းတီးခြင်း အတွင်းသဘော ပေါ်လာပါက မည်သည့် အခါမှ အမှန်တကယ် မစည်းလုံးနိုင်သည့်အပြင် သေတ္တာနှင့် အဖုံးကဲ့သို့ အလိုက်သင့် ပေါင်းစပ်နေသော်လည်း အချည်းနှီးပင် ဖြစ်တော့သည်၊

ဂ။

အတွင်း၌ မုန်းတီးခြင်း ရှိပါက မိသားတစုသည် တစဉ်းဖြင့် သော မှန်ကဲ့သို့ တဖြည်းဖြည်းနှင့် လုံးပါးပါးရလေသည်။

ပွတ်တိုက်ခံရ

၉။ နှမ်းစေ့ တစေ့မျှပင် သေးငယ်သော မုန်းတီးစိတ်ပင်

ဖြစ်သော်လည်း အဖျက်

တရားမှာ ငှင်းတွင် ရှိနေ၏။

၁၀။ တဦးနှင့်တဦး သဘောချင်း မတိုက်ခိုက်သော သူတို့သည် အတူနေရသည်ရှိသော် တအိမ်ထဲတွင် မြွေဟောက်နှင့်အတူ နေရသကဲ့သို့ ဖြစ်ပေသည်။



# သိရုကုရယ်လ်

## အခန်း (၉၀)

## ကြီးမြင့်သူတို့အား မရိုသေခြင်း။

၁။ မိမိ၏ဆန္ဒကို ကောင်းစွာပြီးစီးအောင် ဆောင်ရွက်တတ်သူတို့၏ အင်အားကို မထေမဲ့မြင် မပြုခြင်းသည် မိမိကိုယ်ကို မကောင်းမှုမှ ကာကွယ်စောင့်ရှောက်တတ်ခြင်းထက် အရေးပါ အရာရောက်၏။

၂ ။

ကြီးမြတ်သော အစိုးရတို့အား မရိုမသေ ပြုခြင်းသည် ကျွန်ုပ်တို့အား မပျောက်ပျက်နိုင်သော မကောင်းမှုများ ဖြစ်ပေါ်စေတတ်သည်။

၃။ အကြင်သူသည် ပျက်စီးခြင်းကို အလိုရှိအံ့၊ ထိုသူအား တရားနှင့်အညီ ပြုကျင့်အပ်သည်တို့ကို မလိုက်နာစေဘဲ၊ တပါးသော ထီးဆောင်းမင်းတို့အား ဖျက်ဆီးနိုင်သူတို့ကို ဆန့်ကျင်တိုက်ခိုက်ပါစေလော့။

၄ ။

ခွန်အား ကြီးသူအား မကောင်းကြံသော အားနည်းသူတို့၏ အမှုသည် ယာမမင်းကြီးအား မိမိကိုယ်ကို လာရောက်ဖျက်ဆီးရန် လက်ယပ်ခေါ်သည်နှင့်တူ၏။

၅။ အကြင်သူတို့သည် တန်ခိုးကြီးသော အစိုးရမင်းတို့၏ အမျက်ဒေါသထားခြင်းကို ခံရပါက မည်သည့်နေရာသို့ သွားစေကာမူ ကြီးပွားတိုးတက်ခြင်း မရှိနိုင်တော့ပေ။

၆။ အကြင်သူ တဦးသည် တောမီးလောင်မြိုက်ခြင်း ခံရသော်လည်း အသက်ရှင်နိုင်သေး၏။ သို့သော် ကြီးမြင့်သူတို့အား မခန့်မငြား ပြုလျှင်ကား မည်သည့်အခါမှ အသက်ရှင်နိုင်မည် မဟုတ်ပေ။

၇။ ဘုရင်တဦးသည် ကြီးမြတ်ဖြောင့်မှန်သော သူတဦးအား အမျက်ဒေါသ ဖြစ်စေပါက၊ မိမိ၏ များလှစွာသော အခြေအရံများနှင့် မဖေါ်ပြနိုင်သော ဥစ္စာ ဓနတို့မှာ အဘယ်သို့ ဖြစ်သွားမည်နည်း။

၈။ တောင်ကြီးတမျှ ပမာဏရှိသော ကြီးမြင့်သူတို့က ဖျက်ဆီးရန် ဆုံးဖြတ်ပြီး ဖြစ်ပါက ထာဝဉ်တည်မြဲလိမ့်မည်ဟု ထင်မြင်သော သူတို့သည်ပင် ဤကမ္ဘာမြေပြင်မှ အမြစ်ပါမကျန် ပျက်စီးဆုံးပါး သွားလိမ့်မည်။

၉။ ကြီးမြင့် မွန်မြတ်သော ပုဂ္ဂိုလ်ထူးတို့သည် ရုတ်တရက် အမျက်ထွက်လာပါက နတ်တို့၏ အရှင်ဖြစ်သော ဣန္ဒာသိကြားမင်းသည်လည်း ရုတ်တရက်ဆုံးရှုံး၍ ပျက်စီးသွားလိမ့်မည်။

၁၀။ အကြင်သူတို့၌ မြောက်မြားလှစွာသော အထောက်အကူတို့ ရှိနေစေကာမူလည်း မြင့်မြတ်သူတို့အား ဒေါသအမျက်ကို ဖြစ်စေပါက အတိုင်းမသိဖြစ်သော အပြစ်ဒဏ်ကို ပေးနိုင်မည်ဖြစ်၍ ပျက်စီးဆုံးပါးကုန်ကြရဘွယ် ရှိပေသည်။

၉၀

# အခန်း (၃၁)

၁။

## ဇနီးသည်အား အလိုလိုက်ခြင်း။

အိမ်သူ ဇနီးကိုသာ သပ်မက်မော နေသူတို့သည် ကောင်းမှုကုသိုလ် ထိပ်တန်းကို မရောက်နိုင်ပေ။ မိန်းမွှားဥစ္စာကို လိုသူတို့သည်လည်း ဤအချက်ကိုမနှစ်သက်ပေ။

၂။ မိမိ၏ ယောက်ျားအဖြစ်ကို ဂရုမထားဘဲ ဇနီးဖြစ်သူ၏ မိန်းမ အာဝကို နှစ်သက်မက်မော နေသူ၏ ပမာဏကို ကျက်ပြား၍ မိမိ အမျိုးရင်း ယောက်ျား ပမာသတ်အသက်ရှင်း ရှက်ဖွယ်ဖြစ်ပေသည်။

၃။

မိမိ ဇနီးသည်၏ စေရာသို့ ပါရသော အားနည်းသူတို့သည်
လယ်တွင် အစဉ်သဖြင့် အရှက်ရလိမ့်မည်။

လူကောင်းတို့၏ အ ၄။

ဇနီးသည်ကို ကြောက်၍ သဖြင့် တရားကို ဆောင်ရွက်ရသူတို့သည် ကောင်းချီးမင်္ဂလာ ကင်းမဲ့သည်ဖြစ်၍ ပြည်သည့်အခါမှ ချီးမွမ်းသံသာန်ရမည်မဟုတ်ပေ။

၅။

ဇနီးသည်ကိုကြောက်ရွံ့နေရသူတို့သည် ကောင်းသော ပုဂ္ဂိုလ်တို့အားကောင်း
သောအမှု ပြုရန်ကိုပင် ကြောက်ရွံ့၍ အစဉ်ရှိတတ်၏။

၆။ အကြင်သူတို့သည် နူးညံ့သော မိန်းမတို့၏
ယောကျ်ားပီသမှု ကင်းမဲ့၍ နုပ်ဖျော့ပျော့ညံ့

ဟုံးသားကို ကြောက်ရွံ့နေရပါက
စည်းမိမိ ပျုံးတက် နေသော်လည်း
အချီးနှိုးတည်း။

၇။

ဇနီးဖြစ်သူ၏ အမိန့်ကို နာခံနေရသောသူ၏ ယောကျ်ား ဘဝထက် မိန်းမရှင်
တဦး၏ ဘဝကပင် ပို၍လေးစားဖွယ် ကောင်းသေး၏။

၈။ ဇနီးသည်တို့၏ အလိုလိုက်၍ နေရသောသူတို့သည် မိတ်ဆွေတို့၏ တောင့်တ
ခြင်းကိုလည်း မဖြေဖျောက်နိုင်သည့်အပြင် ကောင်းမှုကိစ္စဘိုကိုလည်း မဆောင်
ရွက်နိုင်ချေ။

၉။

ဇနီးသည်တို့၏ အမိန့်ပေးရာကို လိုက်နာနေရသော သူတို့ထံမှ ကောင်းသော အမှုတို့သည်ဂုဏ်း, စီးပွားဥစ္စာကိုဂုဏ်း,ကြည်ရွှင်ဘွယ်ကိုဂုဏ်း,မမျှော်လင့်နိုင်ပေ။

၁၀။ ဇနီးသည်ကိုသာ အာရုံပြုနေရသူတို့၏ မိုက်မဲမှု အကျိုးသည် ပိုင်းခြား ဝေဖန်တတ်သော ဥာဏ်ဖြင့် အကျိုးစီးပွား ဖြစ်ထွန်း နေသူတို့ထံတွင် မတွေ့နိုင်ပေ။

၉၁

# သိရုကုရယ်လ်

## အခန်း (၉၂)
## ပြည့်တန်ဆာများ။

၁။ လူတယောက်အား ချစ်ခင်ကြင်နာ၍မဟုတ်ဘဲ အလိုရမက်ကြောင့် ချိုသာသောစကားတို့ကိုသာ ပြောဆိုတတ်၏။ ထိုလှပသော လည်ဆွဲဖြင့် တင့်တယ်သည့်ပြည့်တန်ဆာတို့၏ စကားသည် ကြေကွဲခြင်းကို ဖန်ဟီးလိမ့်မည်။

၂။ အကြင်သူ တဦးသည် မကောင်းသော မိန်းမတို့၏ သဘောကို သိရှိသင့်၏။ ထိုမိန်းမတို့သည် ယောကျ်ားတို့၏ စီးပွားဥစ္စာ အခြေအနေကို သိရှိပြီးနောက် အမျိုးကောင်း သမီးယာန်ဆောင်၍ ပြောဆိုတတ်၏။ သူတို့အား မဆက်ဆံဘဲ ရှောင်ရှားရာ၏။

၃။ ဥစ္စာစီးပွားကိုလို၍ ပွေ့ဖက်ကာ ချစ်ယောင်ဆောင်တတ်သော မိန်းမတို့သည် မှောင်ခန်းအတွင်း၌ မမြင်ဘူးသော လူသေကောင်ကို ပွေ့ဖက်သောကြေးတန်းစား အလုပ်သမားတို့နှင့် တူ၏။

၄။ တင့်တယ်သော ကိုယ်ကျင့်တရားကို ရှာဖွေသော ပညာရှိတို့မှာ ငွေကြေးစုဆောင်းကြသော သူတို့သည်၊ ယုတ်ညံ့သော ကြည်ရှင်မှုကို ချမ်းသာခြင်းကဲ့သို့သဘောထားသည့်နယ်၊သဘောမထားကြဘဲ ၎င်းကိုနှစ်လိုခြင်းမရှိကြပေ။

၅။ ပညာဗဟုသုတ၌ ကျွမ်းကျင်သော သူတို့သည် လူကိုင်းက ဆန္ဒရှိ၍ ထပ်မက်သော အသေးအဖွဲ ကြည်နူးဖွယ်တို့ကို အားမကျပေ။

၆။

မိမိတို့၏ ဂုဏ်သတင်းကို ပျံ့နှံ့စေလိုသူတို့သည် ငွေပေးသူတို့အား အယောင်ဆောင်၍ မျက်နှာသာပေးသူတို့၏ အတွေ့အထိတွင် မသာယာကြပေ။

၇။ ဆင်ခြင် တည်ဆောက်ပြီးသော စိတ်မရှိသူတို့သည် မိမိတို့အား ငွေ့ဖက်ယင်းဖြင့် တပါးသော အရာတို့ကို လိုချင်အားကျနေကြသော အမျိုးသမီးတို့၏ ခန္ဓာကိုယ်ကို နှစ်သက်တတ်၏။

၈။ ပညာရှိတို့ကဆိုသည်မှာ ပိုင်းဖြတ်ခွဲခြားတတ်သော ဉာဏ်မရှိသူတို့သည် သစ္စာမရှိသော မိန်းမတို့၏ ဖွေ့ဖက်ခြင်းကြောင့် မကောင်း ဆိုးဝါးတို့ ဖန်တီးသည့် နည်းကဲ့သို့ ပျက်စီးနိုင်ကြသည် ဟူ၏။

၉။

လှပသောလည်ဆွဲတန်ဆာကို ဆင်ထားသော ပြည့်တန်ဆာတို့၏ ညံ့သက်သည့် ပုခုံးသားသည် နိမ့်ကျ၍ ပညာကင်းသော သူတို့ ဇောက်ထိုးဆင်းရန် ငရဲအိုးဖြစ်ပေသည်။

၁၀။ သစ္စာမရှိသော မိန်းမ၊ အရက်နှင့် လောင်းကစားခြင်းတို့သည် ကုသိုလ်ကံအကျိုးပေးတရားက ဖယ်ကြဉ်ထားခြင်းခံရသော သူတို့၏ မိတ်မျှားဖြစ်သည်။

## အခန်း (၉၃) ၄

### သရည်မသောက်ခြင်း၊

၁။ သေရည်ကို သောက်ရန် အခွင့်ကြုံ၍ ဆာလောင်နေသူတို့သည်၊ တပါးသူတို့အား ကြောက်ရွံ့ခန့်ညားစေရန် မတတ်နိုင်။ မိမိတို့၏ ဂုဏ်သတင်း အားလည်း အလင်း မဆောင်နိုင်ကြကုန်။

၂။

သေရည်ကို သောက်၍ မမူးယစ်အပ်သေး။ သေရည်ကိုမကပ်မောသော ပညာရှိတို့ အရေးထားခြင်းကို ဂရုမစိုက်လိုသူတို့သာ ဖြစ်ကြ၏။

သူတို့သည် ၃။

မူးယစ်ခြင်းသည် မိခင်၏ ရှေ့မှောက်၌ပင် အလွန် သည်းခံရ၏။ ရှေ့မှောက်၌ မူကား အဘယ်သို့ ဖြစ်မည်နည်း။

မူးယစ်ခြင်း တည်းဟူသော အလွန် စက်ဆုပ်ဖွယ် ကောင်းသည့်ဖြစ်မှုကို လွန်သူတို့အား ဋ္ဌခြေ့ရှင် အမျိုးသမီးသည် ကျော်မိုင်း၌ သွားပေမည်။

ကျူး ၅။

ကြေးငွေကိုပေး၍ မိမိကိုယ် မိမိ သတိလစ်အောင် ဝယ်ယူ ရရှိခြင်းသည်၊ ကိုယ့်အမှုကို ကိုယ်နားမလည်သော အပေါင်းအဖော်၏ သဘောမျိုးပေးပင်တည်း။

၆။

အိပ်၍ နေသူတို့သည် လူသေနှင့် တူကြ၏။ ထို့နည်းတူစွာ မူးယစ်သောက်စား၍ နေသူတို့သည် အဆိပ်ကို စားသောက် နေသူတို့နှင့် မခြားပေ။

၇။

အမှောင်ရိပ်ခို၌ တဦးတည်းထည်း အစဉ်သဖြင့် မူးယစ်နေသူတို့အား တရပ်တည်း နေသူတို့သည် စုံးမ်းတွေ့ရှိ၍ ပြက်ရယ် ပြုကြလိမ့်မည်။

၇။ ကျွန်ုပ် ဘယ်အခါမှ မမူးယစ် ခဲ့ပါဟု သေသောက် ကျူးသည် မပြောအပ်ပေ၊ မိမိသေရည် သောက်မိသည်နှင့် တပြိုင်နက် ပဋ္ဌမက ဖုံးကွယ်လိုသော စကားတို့ကို မဖုံးကွယ်နိုင် ဖြစ်လိမ့်မည်။

၉။

မူးယစ်နေသူနှင့် ဆင်ခြေတက်နေခြင်းသည် ရေနစ်သူကိုရှာရန် ရေထဲသို့ မီးခွက်ကိုင်၍ ဆင်းသူနှင့် အလားတူ၏။

၁၀။

အမူးပြေနေသော သေရည်သမား တဦးသည် မူးယစ်နေသော သူကို ကြည့်၍ မိမိ၏သေသောက်နေစဥ်က မကောင်းမှုများကိုသတိမရသကဲ့သို့ ရှိသည်။



# သိရကုရယ်လ်

## အခန်း (၉ ၄)

## လောင်းကစားခြင်း။

၁။

မိမိတွင် နိုင်ခြေရှိသည့် တိုင်အောင် လောင်းကစားခြင်းကို မနှစ်သက် ရာပေ။ မိမိ၏အောင်နိုင်ခြင်းသည်ပင် ငါးတကောင်သည် ငါးမျှားချိပ်ကို မျိုမိသည့်နှယ်

ဖြစ်ပေသည်။

၂။ တကျပ်နိုင်၍ တရာဆုံးရှုံးလတ်သော လောင်းကစားသာယာ ပျော်ရွှင်သော အဖြစ်ဟူ၍ ရှိနိုင်ပါမည်လော။

သမား၏ ဘဝတွင်

၃။ ဘုရင်တပါးသည် ကြွေအံကစားခြင်းကို အငြဲမပြတ် စိတ်ဝင်စားလျက်ရှိပါက ထိုဘုရင်၏ ဥစ္စာဘဏ္ဍာတို့သည် မိမိအထံမှ ခွါလျက် တပါးသူ၏ လက်တွင်းသို့ ရောက်ကြ ကုန်လိမ့်မည်။

၄။

လောင်းကစားခြင်းကဲ့သို့ ကျွန်ုပ်တို့အား ဆင်းရဲခြင်းကို ဖြစ်စေ၍ ကြေကွဲမှု အမျိုးမျိုးကို ဖန်တီးကာ ဂုဏ်သိက္ခာကိုလည်း ဖျက်ဆီးသော အရာသည် မရှိပေ။

၅။ တပဲတရွေးမျှ ကုန်းကောက်ရန် မရှိသူတို့ကား မိမိတို့၏ တွယ်တာမှုကြောင့် လောင်းကစားခြင်းကိုငင်း၊ လောင်းကစားရာ နေရာကိုငင်း၊ လောင်းကစားရန် ကြွေအံကိုငင်း၊ မစွန့်လွှတ်နိုင်သော သူများ ဖြစ်ပေသည်။

၆။ လောင်းကစားခြင်း တည်းဟူသော အဖျက်နတ်သမီးက ဖမ်းစားခံရသော သူတို့သည် မည်သည့်အခါမှ မွတ်သိပ်ခြင်း ပြေပျောက်မည် မဟုတ်ပေ။ နောက်ဘဝတွင်လည်း ငရဲတွင် ပူလောင်စွာ ခံရလိမ့်မည်။

၇။

လောင်းကစားဝိုင်း၌ အချိန်ကိုဖြုန်းခြင်းသည် အမွေရရှိသော ဥစ္စာပစ္စည်းတို့ကို ဖျက်ဆီးခြင်းနှင့် ကောင်းသော ကိုယ်ကျင့်တရားကို ဖျက်ဆီးခြင်း ဖြစ်ပေသည်။

၈။ လောင်းကစားခြင်းကို မည်သည့် ဥစ္စာစည်းစိမ်ကို ဖျက်ဆီး၏။ မသမာမှုကို သင်ပေး၏။ အကြင်နာတရားကိုကုန်ခန်းစေ၍ ဘုံဘဝပျောင်ရင်းမနောဘဝတွင် ငင်း၊ ကြေကွဲဝမ်းနည်းခြင်းတို့ကို ဆောင်ခြင်းပင်တည်း။

၉။ လောင်းကစားခြင်း အလေ့အထသည် အောက်ပါအကြောင်း ငါးရပ်ကို ရရှိခြင်းမှ အတားအဆီးပြု၏။ ထိုငါးရပ်ကား အဝတ်အထည်၊ ဥစ္စာ၊ အစား၊ အသောက်၊ ဂုဏ်ဒြပ်နှင့် ပညာတို့ ဖြစ်လေသည်။

၁၀။ လောင်းကစားသူသည် မိမိ၏ ဒုစရိုက်မှုကို ကြိုက်လေလေ၊ မိမိတွင် ရှုံးလေလေ ဖြစ်၏။ ထို့အတူ ဝိညာဉ်သည် ခန္ဓာကိုယ်ကို တွယ်တာလေလေ ပို၍ဒုက္ခခံရ လေလေ ဖြစ်၏။ ..

၉၄

ယံ ရှု ဂ ရ ယံ လ

**အခန်း (၉ ၅)** သင့်ဝ

## လျော်ဂူဝေးသောက်ခြင်း။

၁။ အစားစားခြင်းနှင့် အလုပ်လုပ်ခြင်းတို့သည် လွန်ကဲသွားလျှင်ငင်း၊ မလုံလောက်လျှင်ငင်း၊ အောက်ပါ အကြောင်းသုံးရပ်တို့သည် ဖြစ်ပေါ်နိုင်သည် ဟူ၍ ဆေးပညာရှိတို့ဆို၏။ ထိုသုံးရပ်မှာ လေပွခြင်း၊ သည်းခြေပျက်ခြင်း၊ သလိပ်ထခြင်း၊ တို့ဖြစ်၍ ရောဂါကို ဖြစ်စေနိုင်သည်။

၂။ စားပြီးသော အစာကို ကောင်းစွာ ကျေညက်ပြီးမှ ထပ်မံစားသောက်သောသူ၌ မည်သည့် ဆေးဝါးမှ မလိုပေ။

၃။ စားပြီးသော အစာသည် ကြေညက်သွားသည် ဖြစ်ပါက အသင့်အတင့် ထပ်မံစားသောက်ရာ၏။ ဤနည်းသည် အသက်ရှည်စေသောနည်းဖြစ်သည်။

၄။ စားပြီးသော အစာသည် ကြေညက်ပြီးဖြစ်ကြောင်း ဦးစွာပဌမသေချာစေရာ၏။ ဆာလောင်သော အခါ၌၊ ပလိုလားအပ်သော အစာမျိုးမဟုတ်လျှင် မည်သည့်အစာကိုမဆို စားသုံးရာ၏။

၅။ အကြင်သူတဦးသည် မသင့်တင့်သည် မဟုတ်သောလျှင် အသက်အန္တရာယ်ကို ပဖြစ်ပေါ်နိုင်ပေ။

အစာကိုမျှတစွာ စားသုံး။

၆။ မျှတစွာ စား သုံးသူ တို့၌ ကြည်ရွှင်ခြင်းသည် မှီခိုနေသကဲ့သို့ အားပါးတရ
များများစားစား စားသုံးသူတို့၌ ရောဂါဘယတို့သည် မှီခိုမနေ၏။

၇။ ကျန်းမာရေး နည်းလမ်းတို့ကို မသိဘဲ မမျှမတ အမျိုးမျိုးတို့ ကျရောက် လိမ့်မည်။

စားသုံးသူ၌ ရောဂါဘယ

၈။ သမားတော်ကိုသာ ရောဂါ၏ ဇစ်မြစ်ကို ရှာဖွေခြင်း၌ အပိုင်း တာဝန်မပေးပဲ လုံသမျှ၏။

ဆေးပညာ နည်းနာများ

၉။ ပညာရှိသော သမားတော်တို့သည် လူနာ၏ အခြေအနေကို ခွဲခြားရာ၏။ ရောဂါ၏ အခြေအနေကို ခွဲခြားရာ၏။ ရာသီ၏ အခြေအနေကို ခွဲ ခြား ရာ ၏။ ထိုနောက်မှ ဆေးပေး ကုသရာ၏။

၁၀။ ဆေးပညာ၌ အပိုင်းကြီးလေးပိုင်းရှိ၏။ ၎င်းတို့မှာ လူနာ, သမားတော်, ဆေးဝါး, နှင့်ဆေးစပ်သူတို့ဖြစ်၏။ ယင်းတို့ကွင် တခုမီ တခုစီ၌လည်း လေးမျိုးစီ ထပ်မံ ကွဲပြား နေသေး၏။



သီရကုရယ်

အထွေထွေပိုင်းဆိုင်ရာ အခန်း (၉၆မှ၁၀၈)

ကောင်းသော ဇာတိဖြင့် မွေးဖွားခြင်း။

အခန်း (၉၆)

၁။ မြင့်မြတ်သော ဘဝ၌ မွေးဖွားလာသူတို့သည် တွေးကြံမှု ပြောဆိုမှု လုပ်ကိုင်မှု တို့၌ အညီအညွတ်ရှိလျက် ဒုစရိုက်မှုကိုလည်း ကြောက်ရွံ့သည်မှာ သဘာဝ ဖြစ်ပေသည်။

၂။

မြင့်မြတ်စွာ မွေးဖွားလာသူတို့သည် ကောင်းသော ဒသမူအကျင့်ရှိခြင်း၊ မှန်ကန်ခြင်း၊ ဂုဏ်ရှိခြင်း တည်းဟူသော အကြောင်းသုံးချက်တို့မှ သွေဖီသည် မရှိပေ။

၃။ ကြည်ရွှင်သော မျက်နှာထား၊ သဘောထားပြည့်ဝမှု ချိုသာသော စကားဆိုမှု၊ ကဲ့ရဲ့ ပြစ်တင်မှုကင်းသော စိတ်ထားဟူသော အကြောင်း လေးချက်မှာ မြင့်မြတ်စွာ မွေးဖွားလာသူတို့၏ တကယ့်အရည်အခြင်း လေးရပ်ဖြစ်ပေသည်။

၄။ မြင့်မြတ်စွာ မွေးဖွားလာသူတို့သည် ဥစ္စာစီးပွား များစွာ ရှိကြသော်လည်း မဖွယ်ရာသော အမှုတို့ကို မည်သည့်အခါမှ ပြုလေ့မရှိကြပေ။

၅။ မိမိတို့သည် အခွင့်အရေးများ ဆုံးပါးသည် ဖြစ်စေကာမူ၊ ရက်ရောတတ်သည့် ဗီဇကို မျိုးရိုးကောင်းမှ မွေးဖွားသူတို့သည် မစွန့်လွှတ်ကြပေ။

၆။ ကဲ့ရဲ့ ပြစ်တင်းခြင်း လွတ်ကင်း၍ ဂုဏ်သိက္ခာကို ထိန်းသိမ်းကြသော သူတို့သည် ထိုဂုဏ်သိက္ခာ ပျက်ပြားစေမည့် ဆိုးသွမ်းမှုတို့ကို မပြုလုပ်ကြပေ။

၇။ မြင့်မြတ်သော သူတို့၌ ချွတ်ယွင်းချက်ရှိခြင်းကို လမင်းကြီးထဲတွင် အနက်စက်များကို မြင်ရသကဲ့သို့ ထင်ရှားစွာ မြင်နိုင်၏။

၈။ အမျိုးကောင်း သား၊သမီးမှ ဆင်းသက်သောသူတို့၌ ချစ်ခင်ကြင်နာမှု မရှိပါက မိမိဆင်းသက်လာသော မျိုးရိုးကို သံသယ ရှိဖွယ်ဖြစ်၏။

၉။ မြေမှ ပေါက်လာသော အစို့အညှောက်ကလေးသည် မြေ၏ သဘာဝကို ဖေါ်ထုတ်သကဲ့သို့ လူတယောက်၏ စကား ပြောဆိုခြင်းသည် မြင့်မြတ်စွာ မွေးဖွားလာသော ဇာတိကို ရည်ညွှန်း ပြဆိုပေသည်။

၁၀။ နာမည်ကောင်း ရလိုသူတို့သည် ဣန္ဒြေသိက္ခာ ရှိခြင်းကိုလည်း လိုလားရမည်။ မျိုးရိုး၏ ကြီးမြင့်ခြင်းကို ဆက်လက် တည်တံ့စေလို သူတို့သည် လူအများနှင့် သင့်မြတ်ကြရမည်။



# သ်ရုကုရယ်လ်

## အခန်း (၉၇)

## မိမိကိုယ်ကို လေးစားခြင်း။

၁ ။

မျိုးရိုးကို နိမ့်ကျစေမည့် အပြုအမူများအား ထိုအပြုအမူကို မပြုလုပ်လျှင် အသက် ဆုံးပါးလိမ့်မည် ဆိုသည့် တိုင်အောင် မပြုဘဲ ရှောင်ရှားအပ်၏။

၂ ။

မိမိတို့၏ ဂုဏ်သိက္ခာကို တက်ကြွ လိုသူတို့သည် ဂုဏ်ကျက်သွယ် ကိစ္စများကို နာမည်ကြီးမပေမည့် အမြော်အမြင်ဖြစ်မသိမ့် မပြုလုပ်သင့်ပေ။

၃။ ကြီးမြင့်သောအခါ၌ ဂိုဏ်ဂိုဏ်များ၏ ကြီးထွားမသောအား

နှလုံးရောက်နေမည့်ဝင်
ခန့်ခန့်ထယ်ထယ်ရှိရာ၏။

၄။ ကြီးမြင့်သော အခြေအနေမှ ကျဆင်းသွားသူတို့သည် ကျသော ဆံပင်ကဲ့သို့ ဖြစ်ကြ၏။

ဦးခေါင်းယက်မှ ကျွတ်၍

၅။

တောင်ကုန်းကဲ့သို့ မြင့်မောက်သော အခြေအနေ၌ ရှိသူဟိုပင် အမှုတို့ကို ပြုမိမှားပါက နိမ့်ကျစွာ အထင်ခံရဟတ်သည်။

နိမ့်ကျသော

၆။ မြင့်မြတ်စွာ မွေးဖွားလာသူသည် မိမိအား ကဲ့ရဲ့သူတို့ကို ခုခံဆန့်ကျင်နေခြင်းဖြင့် အဘယ်သို့ ကောင်းမှု ဖြစ်နိုင်မည်နည်း။ ဤသို့ပြုမိသဖြင့် မိမိအား ဂုဏ်ပျက်စေ၍ ကောင်းကင်ဘုံသို့ မရောက်စေနိုင်ပေ။

၇။ မိမိအား ဂုဏ်သရေ ဖျက်ဆီးသူတို့၏ နောက်သို့ တကောက်ကောက်လိုက်၍ ဘဝကို တာရှည်နေစေခြင်းထက်၊ သွေးရိုးသားရိုးဖြင့် သေလွန်သွားသည်ဟု အပြောခံရခြင်းက ကောင်းမြတ်သေး၏။

ဂ ။

မြင့်မြတ်စွာ မွေးဖွားလာသူတို့သည် မိမိတို့၌ ဂုဏ်သိက္ခာ လွင့်ပါးသွားပါက သေခြင်းတရားမှ ကင်းရှင်းနေရန်အကြောင်းလည်း အမှန်တကယ် မရှိတော့ပေ။

၉။ မိမိတို့တွင် ဂုဏ်သိက္ခာ ညှိုးမှိန်ရန်အကြောင်း ပေါ်ပေါက်နေစဉ်၌ ဘဝကို လက်မြှောက် အရှုံးပေး၍ စွန့်သွားသူတို့သည် မိမိ၏အမွေးတချောင်း ကျွတ်သည်ကို အသေခံသော စာမရီကောင်ကဲ့သို့ ဖြစ်၏။

၁၀။

မတင့်မတယ် ဖြစ်ရမည့်အစား၊ အသေခံ၍ ဂုဏ်ဆောင်သွားသူအား ကြီးသည့် အစဉ်သဖြင့် ချီးမွမ်းဂုဏ်ပြု၍ ကျန်ရစ်လိမ့်မည်။

လောက

# သိရကုရယ်လ်

အခန်း (၉၇)

ကြီးမြင့်မှန်မြတ်ခြင်း။

၁။ ပုဂ္ဂိုလ်တဦး၏ အလင်း ရောင်ကား အတော်မသတ်နိုင်သော သတ္တိ ဖြစ်၏။

ထိုသူ၏ အမှောင်ခေတ်ကား ထိုသို့သော သတ္တိမျိုး ကင်းမဲ့ခြင်း ဖြစ်၏။

၂။ လူအားလုံးတို့သည် မွေးဖွားလာရာတွင် မခြားတူညီကြ၏။ သို့သော် ကိုယ်ကျင့်

တရားမှာ မူကား မိမိတို့ပြုကျင့်ဆောင်ရွက်ကြသော အရည်အသွေးကို လိုက်၍

ကွဲပြား ခြားနား ကြကုန်သည်။

၃။ နိမ့်ကျသော သူတို့သည် အမြင့်သို့ ရောက်အောင် မြှင့်ပေးရုံနှင့် ကြီးမြင့်သူများ ဖြစ်မလာနိုင်။

ကြီးမြင့်သူတို့အားလည်း အောက်တန်းသို့ နှိမ့်ပေးရုံဖြင့် နိမ့်ကျ
သူများ ဖြစ်မလာနိုင်ပေ။

၅။ နှိမ့်ချထားစေကာမူ ကြီးမြင့်သောသူတို့သည်
တပါးသူတို့ လုပ်ရန် ခက်ခဲသော
အမှုတို့ကို သင့်တင့်လျောက်ပတ်သော
နည်းလမ်းဖြင့် ဆောင်ရွက်နိုင်၏။

၆။ နိမ့်ကျသော လူစားတို့၏ သဘာဝ၌ ကြီးမြင့်မွန်မြတ်သော သူတို့၏ အသိုင်း
အဝိုင်းသို့ ဝင်ရောက်ရန် ကြိုးစားလိုသော စိတ်မရှိကြချေ။

၇။ နိမ့်ကျသူတို့၌ မြင့်မြတ်စွာ မွေးဖွားလာရခြင်း, စီးပွားဥစ္စာရှိခြင်း, ပညာရှိခြင်း,
စသည်တို့ရှိ၍ နေသော်မှ ဂုဏ်မာနတက်စရာကို ပို၍သာ ဖန်တီးနိုင်သည်။

၈။ မြင့်မြတ်သော သူတို့သည် မိမိကိုယ်ကို အစဉ်နှိမ်ချ၏။ တကိုယ်ကောင်း ဆန်
သောသူတို့မူကား မိမိကိုယ်ကို ချီးမွမ်းသံသာပြု၍ ဝင့်ကြွားတတ်ကြ၏။
၉။

မာနထောင်လွှားခြင်းမှ ကင်းရှင်းခြင်းသည် ကြီးမြင့်သူတို့၏ တကယ့် သဘာဝ
ဖြစ်၏။ အယူသန်ခြင်းမူကား တကိုယ်ကောင်းသမားတို့၏ သဘာဝဖြစ်၏။

၁၀။ ကြီးမြင့်သူတို့သည် တပါးသူတို့၏ အပြစ်ကို ဖုံးကွယ်ပေးကြ၏။ နိမ့်ကျသောသူတို့သည် ထိုအပြစ်တို့ကို လူသိရှင်ကြား ပြုကြ၏။

၉၀

# အခန်း (၉၉)
## ကောင်းမြတ်ခြင်း။

၁။ မိမိတို့၏ တာဝန်ကို သိတတ်၍ ကောင်းစွာ ပြည့်စုံအောင် ပြုမူကျင့်ကြံတတ်သော သူတို့မှာ အကောင်းဟူသမျှကို တာဝန်အဖြစ် သဘော ထားတတ်ကြသည်ဟု ဆိုရိုးရှိ၏။

၂။ ကောင်းမြတ် ပြည့်စုံသူတို့၏ ပီတိမှာ ကောင်းမြတ်ခြင်းပင်ဖြစ်၏။ အခြားတပါးသော အာရုံ၌ ခံစားမှုဟူသမျှတို့မှာ ဤပီတိတွင် မပါဝင်ပေ။

၃။ ချစ်ကြင်နာခြင်း၊ ဒုစရိုက်ကိုကြောက်ခြင်း၊ သဘောထားကြီးခြင်း၊ လိုက်လျောခြင်း၊ မှန်ကန်ခြင်း အစရှိသော မဂ္ဂုိုပ်ကြီး ငါးခုတို့မှာ အမှန်တကယ် ပြည့်စုံကောင်းမွန်ခြင်း၏ အခြေစိုက်ရာဖြစ်၏။

၄။ အသက်မသတ်ခြင်းသည် ကောင်းမြတ်ခြင်းကို မဖျက်ဆီးသောတရားဖြစ်၏။ ကောင်းမြတ်ခြင်းကို ပြည့်စုံစေခြင်းသည် တပါးသူတို့အား အပြစ်မပြောခြင်းပင်တည်း။

၅။ အမှုတခုကို ပြီးမြောက်အောင် ဆောင်ရွက်နိုင်သောသူတို့၏ ခွန်အားသည် မိမိတို့ထက် နိမ့်ကျသူတို့အား ကိုင်းညွှတ်ခြင်းဖြစ်၏။ ဤသည်ပင် ကြီးမြတ်သောသူတို့သည် မိမိတို့ ရန်သူများအား စိတ်ပြောင်းစေနိုင်သော လက်နက်ဖြစ်ပေသည်။

၆။ ပြည့်စုံကောင်းမွန်ခြင်း၏ မှတ်ကျောက်သည် မိမိထက်နိမ့်ကျသူတို့၏ လက်ထဲ၌ ရှိစေကာမူ ဆုံးရှုံးခြင်းကို လက်ခံရန် ဖြစ်၏။

၇။ ကိုယ်တိုင် အနှစ်နာခံစားရသူတို့ကို ကြည့်ရှင်မှု မပေးနိုင်လျှင် ပြည့်စုံသောကောင်းမြတ်ခြင်း ဟူသည်မှာ အဘယ်သို့ အကျိုးထူးအံ့တော့နည်း။

၈။ ဆင်းရဲခြင်း ဟူသည်မှာ ကောင်းသော အရည်အခြင်း ရှိသူတို့အတွက် မတင့်တယ်ခြင်း မဟုတ်ပေ။

၉။ ပြည့်စုံ မှန်ကန်ခြင်း၏ ဖြစ်ကမ်းပါးဟု ဆိုအပ်သော သူတို့သည် ခေတ်အဆက်ဆက် ပြောင်းစေကာမူ၊ ပြောင်းလဲမှု မရှိပေ။

၁၀။ ပြည့်စုံကောင်းမွန်သောသူ၌ ချွတ်ယွင်းချက်တခု ရှိသည်ဖြစ်အံ့၊ ဤကမ္ဘာကြီးသည်ပင် ထိုဝန်ကို အလေးမခံနိုင်ပေ။



# သိရုကုရယ်လ်

**အခန်း (၁၀၀)**

**ယဉ်ကျေးဖွယ်ရာခြင်း။**

၁။

အကြင်သူသည် အများတကာနှင့် ကူးလူးဆက်ဆံရန် လွယ်ကူပါက ဖြတ်သည်ဟူသော ဂုဏ်ထူးကို ရရန် လွယ်ကူပေသည်။

ကောင်း

၂။ ကောင်းသော မိဘမှ ဆင်းသက်ခြင်းနှင့် ချစ်ခင်ကြင်နာတတ်ခြင်းတို့မှာ အခါ ခပ်သိမ်း လိုအပ်သော အရည်အသွေး နှစ်ရပ် ဖြစ်သည်ဟု ဆိုပေသည်။

၃ ။

ခန္ဓာကိုယ်ချင်း တူရုံဖြင့် စိတ်ခေါက်ခြင်း မတူနိုင်ပေ။ တူညီသည် ဆိုရာတွင် ဆွဲဆောင်တတ်သော အရည်အသွေးခြင်း တူညီမှသာ မှန်ကန်ပေသည်။

၄ ။

မျှတခြင်းနှင့် သဒ္ဓါကြည်ဖြူခြင်းတို့ကြောင့် အသုံးဝင်သောသူအား လုံးက သူ၏ အကျင့်တရားကို ကောင်းချီးသြဘာ ပြုကြပေသည်။

တကဗ္ဗ ၁

၅။ ကဲ့ရဲ့ပြစ်တင်ခြင်းမှာ နောက်ပြောင်ကြည်ဆယ်၍ ပြုသည်ဖြစ်စေ၊ အခံရခက်၏။ ထို့ကြောင့် တပါးသူတို့၏သဘောကို သိသူတို့သည် မိမိတို့စိတ်၌ မုန်းတီးသည်ဖြစ်စေကာမူလည်း ကြည်ရွှင်သော မျက်နှာထားကို ဆောင်ကြ၏။

၆။ လောကကြီး၏ တည်နေနိုင်မှုမှာ ကောင်းမှုနှင့် နှီးနွှယ်သောကြောင့်ဖြစ်၏။ အကယ်၍သာ ထိုသို့မပြုလျှင် မြေတွင်မြှုပ်လျက် ပျက်စီးဆုံးပါးသွားရပေမည်။

၇။

အကြင်သူသည် လူတို့ရှိအပ်သော အရည်အသွေးများ ကင်းမဲ့ပါက ကဲ့သို့ပင် ထက်စေကာမူ လူမဟုတ်ဘဲ သစ်ပင်တပင်မျှသာတည်း။

တံစဉ်း ၈။

ပညာရှိတို့မည်သည် မိမိတို့အား မိတ်မပြုဘဲ မုန်းတီးဖွယ်တို့ကို ပြုလုပ်နေသူအား ကောင်းသော အရည်အသွေးများဖြင့် မပြသလျှင် မှားယွင်း၏။

၉။ မေ့လျော့ပျော်ရွှင်ခြင်း မရှိနိုင်သော သူတို့အား ဤကျယ်ပြောသော ကမ္ဘာကြီးသည် နေ့လည်ကြောင်တောင်မှာပင် မှောင်နှင့်မဲမဲကဲ့သို့ ဖြစ်၏။

၁၀။

ကောင်းမှု အချင်းအရာ မရှိသောသူ၏ ဥစ္စာပစ္စည်း ကြီးမားစွာ ရရှိခြင်းသည် စင်ကြယ်သော နွားနို့ကို မသန့်သော အိုးဖြင့် ထည့်၍ ပျက်စီးရသကဲ့သို့ဖြစ်၏။

၁၀၀

သိမ္မကုရလ်ယ်

အခန်း (၁၀၁)

စေးနဲခြင်း။

၁။ အိမ်တွင်း၌ ဥစ္စာပစ္စည်း အများအပြား စုဆောင်း မိသည်နောက် ယင်းတို့ကို သုံးစွဲစံစားခြင်း မပြုသော သူတို့သည် လူသေနှင့် တူ၏။ အဘယ့်ကြောင့် ဆိုသော် မိမိကိုယ်တိုင် မည်သို့မျှ မစံစားရသောကြောင့် ဖြစ်၏။

၂။ ဥစ္စာပစ္စည်းတို့ မည်သည်မှာ လူတို့အား ကြည်ရွှင် စေမှုကို ဖြစ်စေသည်ကို သိပါလျက်နှင့် မကြည်ရွှင်နိုင်သော ဘဝကို ဦးဆောင် နေသူတို့ကား မွေးကတည်းက မကောင်းဆိုးဝါး ဖြစ်ခဲ့သည်ဟု ဆိုရပေမည်။

၃။ နာမည်ကောင်းမှုကို ရရှိရန် မကြိုးစားဘဲ ချမ်းသာကြွယ်ဝမှုကိုသာ ရရှိရန် စိတ်ညွတ်နေသူတို့မှာ ကမ္ဘာကြီးအတွက် ဝန်ပိုတခု ဖြစ်လေသည်။

၄။ တပါးသူတို့က မိမိနှင့်ထပ်တူ ချစ်နှစ်သက်ခြင်း မခံရသော စေးနဲသူအား သေသည်၏ နောက်တွင် အဘယ်သူက ချစ်နှစ်သက်မည်နည်း။

၅။ အကြင်သူတို့သည် မိမိကလည်း သူတပါးကိုမပေး။ မိမိတို့၏ ဥစ္စာကိုလည်း သုံးစွဲခြင်းမရှိ။ ထိုသူတို့ကား ပစ္စည်းဥစ္စာ အနန္တရှိပါလျက်နှင့် လက်မဲ့ဖြစ်နေ သူများပင်တည်း။

၆။ အကြင်သူသည် မိမိ၏ ဥစ္စာစီးပွားကိုလည်း မခံစား။ ခံစားထိုက် သူတို့အား လည်း လိုအင်ဖြင့် ကြောင့်ကျရခြင်းမှ ငြိမ်းချမ်းခွင့် မပေးလျှင် ထိုသူသည် ပစ္စည်းကြောင့် ရောဂါကျရောက် နေသူတည်း။

၇။ ခိုကိုးရာမဲ့သူတို့အား မိမိရှိသောစီးပွားတစုံတရာကို မပေးကမ်း မချီးမြှင့်သူသည် ရုပ်ရည် ချောမောလှပပါလျက် လင်သားမရဘဲ အိုမင်းရသော အမျိုးသမီးနှင့် ပမာတူ၏။

၈။ တပါးသူတို့က နှစ်သက်ခြင်း မခံရသောသူ၏ ကြွယ်ဝခြင်းသည် မြို့အလယ်၌ ပေါက်ရောက်နေသော ကျီးအာသီးပင် ကဲ့သို့တည်း။

၉။ မိတ်ဆွေတို့၏အကျိုးငှာဒင်း၊ တပါးသူတို့၏ အကျိုးငှါဒင်း၊ ကုသိုလ်ရေးအကျိုး ငှာဒင်းမဟုတ်သော ပစ္စည်းဥစ္စာတို့ဖြင့် ချမ်းသာနေသူများကို သူစိမ်းတို့သည် အမွေ ဆက်ခံကြလိမ့်မည်။

၁၀။ မြင့်မြတ်၍ ချမ်းသာသောသူတို့၏ ဆင်းရဲခြင်းမူကား တိုတောင်းလှ၍ ခေတ္တ ခဏ မိုးတိမ် ဖုံးခြင်းကဲ့သို့သာ ဖြစ်၏။

14



# သီရကုရယ်လ်

## အခန်း (၁၀၂)

## ကိုယ်နှုတ်စောင့်စည်းခြင်း။

၁။ တကယ်စစ်မှန်သော ဂုဏ်ရှိခြင်းကား မကောင်းမှုများကို ပြုလုပ်ရန်ကြောက်ရွံ့ခြင်းဖြစ်သည်။ အခြားသော ဂုဏ်ရှိခြင်းတို့ကား ဂုဏ်ကြီးသော မိန်းမလေးတို့၏ အရှက်အကြောက် ကြီးခြင်းမျိုးမျှသာ ဖြစ်သည်။

၂။

အစားအဝတ် စသည်တို့မှာ လူများအားလုံးတွင် တူညီကြ၏။ သို့သော် ဂုဏ်ရှိမှုကား ကောင်းမြတ်သော သူတို့၌သာလျှင် တည်ပေသည်။

၃။ ဤ ခန္ဓာကိုယ်သည် ဝိညာဉ်၏ ပြည့်စုံခြင်း၏ ခိုမှီးရာ ဖြစ်၏။ ခိုမှီးရာ ဖြစ်သကဲ့သို့ ဂုဏ်ရှိသည် ကောင်းမြတ်

၄။

ဂုဏ်ရှိခြင်းသည် မြင့်မြတ်သူတို့၏ အဆင်းတန်ဆာ မဟုတ်ပါလော။ ထိုအရည်အချင်း မရှိပါဘဲ ဝင့်ဝါလျှင် တပါးသူတို့အား အခံရ ခက်စေမည်ဖြစ်၏။

၅။

မိမိ၏ အပြစ်ကိုရင်း၊ တပါးသူ၏အပြစ်ရခြင်းကိုရင်း၊ ကြောက်ရွံ့သော သူအား ဂုဏ်ရှိရှင်ဟူ၍ လောကကြီးက အသိအမှတ် ထား၏။

၆။ ကြီးမြတ်သော သူတို့သည် မိမိတို့၏ အကာအကွယ်အဖြစ် ဤကျယ်ပြောသော ကမ္ဘာကြီးအား၊ အားမထားတဲ ဂုဏ်ကိုသာ အကာအကွယ် ပြုကြပေသည်။

၇။ ဂုဏ်စောင့်စည်းသော သူတို့သည် ဂုဏ်ကို အပျက်အစီး မခံကြဘဲ၊ အသက်ကိုသာ စွန့်လွှတ်ကြသည်။

၀၁။

တခြားသူတို့ ပြုလုပ်ရန် ရှက်ကြောက်သောအမှုတို့ကို မရှက်မကြောက် ပြုလုပ်တတ်သော သူအား ကောင်းခြင်းဟူသော ဂုဏ်ဒြပ်သည် ရှောင်ဖယ်၍ သွားလိမ့်မည်။

၉။ အမူအကျင့် မပြည့်စုံခြင်းသည် မိမိ၏မျိုးရိုးကို ထိခိုက်၏။ ဂုဏ်သိက္ခာ မပြည့်စုံခြင်းသည် မိမိ၏ ကိုယ်ကျင့်တရားကို ထိခိုက်၏။

၀ ၀။

မိမိတို့၏ စိတ်ထဲ နှလုံးထဲ၌ ဂုဏ်စောင့်စည်းခြင်း မရှိသော သူတို့၏ ပြုမူချက်များသည် ကြိုဆွဲ၍ ကပြ လှုပ်ရှားသော ရုပ်သေးရုပ် ကဲ့သို့ဖြစ်၏။

အခန်း (၁၀၃)

၁။ "ကျွန်ုပ်သည် အိမ်ယာထောင်ခြင်း။ ပြောကြားသော

အိမ်ထောင်အတွက် ကြိုးပမ်းရာ၌ ရပ်နားသည် မရှိပါ"ဟု ၂။ လူကြီးထက် မြင့်သောသူသည် မရှိ။

လူတဦးတယောက်၏ အိမ်ထောင်ကို ကောင်းမြတ်သော မနေမနား ပြုအပ်သော ဇွဲလုံ့လတို့ကိုမှီ၍ ထူထောင်ရာ၏။

အကြံအစည်နှင့်

၃။ အိမ်ယာ ထူထောင်တော့မည်ဟု ပေါ်လာပေလိမ့်မည်။
ဆုံးဖြတ်သောသူ၏ ရှေ့၌ ဘုရားရှင်သည်

၄ ။

မိမိတို့၏ အိမ်ထောင်ကို တိုးတက်အောင် ကြိုးစားလိုသူတို့သည် ထွေထွေရာရာ စဉ်းစားရန်မလိုပေ။ မိမိတို့၏ ကြိုးစားမှုများသည် အောင်မြင်ရမည်သာဖြစ်၏။

၅။ မိမိ၏ အိမ်ထောင်ကို မတရားသောနည်းဖြင့် မဟုတ်ဘဲ ထူထောင်သောသူအား၊ လူတို့သည် အားတက်သရော

မွေးကျေး သုတ်သင်၍ ၆။
မိတ်ပြုကြလိမ့်မည်၊

လူတဦး၏ ယောကျ်ားပီသမှုမှာ အိမ်ထောင်၏ အကြီးအကဲပြုခြင်းနှင့် ထိုအိမ်ထောင်၏ ကျေးဇူးရှင်အဖြစ် တည်ရှိခြင်း ဖြစ်သည်။

၇။

အိမ်ထောင်တခုအတွင်းရှိ တက်ကြွသော သူတို့တွင် အိမ်ထောင်သားတို့အား ထိန်းသိမ်း စောင့်ရှောက်ရန် တာဝန်သည် စစ်မြေပြင်တွင် သူရဲကောင်းတို့၌ တာဝန်ရှိသကဲ့သို့ ရှိပေ၏။

၈။ အိမ်ထောင်စုတခုသည် ပုဂ္ဂိုလ်တဦးတယောက်၏ ဝီရိယမရှိခြင်းနှင့် ဂုဏ်သိက္ခာ ပျက်ခြင်းတို့ကြောင့် အနစ်နာခံကြရ၏။ မိမိတို့၏ အိမ်ထောင်ကို တိုးတက်ရန် ပြင်းစွာ အားထုတ်သူတို့၌ ရာသီဥတု အကောင်း,အဆိုး ဟူ၍ မရှိပေ။

၉။ မိမိ၏ အိမ်ထောင်အား မကောင်းမှု ကင်းမဝေးအောင် ဒုက္ခခံစားရရုံမျှ ဖြစ်သလော။

ကြိုးစားအားထုတ်ရာ၌

၁၀။ စိတ်ပျက်ဖွယ်အချိန်ကာလ၌ အိမ်ထောင်ကို စောင့်ရှောက် ထိန်းသိမ်းပေးမည့်သူ မရှိပါက၊ ကံကြမ္မာသိုး ဝင်ရောက်မည့် အချိန်တွင် ပုဆိန် တချက်စာမျှဖြင့် ပြိုကွဲရဘို့ရှိ၏။

၁၀၃

# သိရကုရယ်လ်

## အခန်း (၁၀၄)
## စိုက်ပျိုးရေး။

စိုက်ပျိုးရေးသည် ပင်ပမ်းသော အလုပ် ဖြစ်သော်လည်း အကောင်းဆုံးသော လုပ်အား စိုက်ထုတ်မှုဖြစ်၏။ လူတို့သည် လုပ်ငန်း အမျိုးမျိုးကို ရှာကြံကြသော်လည်း နောက်ဆုံးတွင် လယ်ယာသမားဘဝကိုသာ ပြန်လည်၍ အားထားရ၏။

၂။ စိုက်ပျိုးရေးသမားတို့သည် ဤကမ္ဘာလောကကြီး၌ အထိန်း အကြောင်း နားပန်ဖြစ်လေသည်။ အဘယ့်ကြောင့်ဆိုသော် သူတို့သည် မြေကို မထွန်ယက်နိုင်သူတို့အား ထောက်ပံ့နေသောကြောင့် ဖြစ်၏။

၃။ စိုက်ပျိုးရေးနှင့် အသက်မွေးသူတို့သည်သာလျှင် တကယ်တန်း အသက်ရှင် နေထိုင်သူများ ဖြစ်ကြ၏။ တခြားသော ပုဂ္ဂိုလ်တို့၌မူကား ခိုလှုံ ဝပ်တွားရသော ဘဝမျိုး ဖြစ်လေသည်။

၄။ မျိုးချစ်စိတ်ရှိသော လယ်သမားသည် အခြား နိုင်ငံများအား မိမိဘုရင်၏ လက်အောက်သို့ ရောက်ရှိစေရန် ဆန္ဒရှိသူများ ဖြစ်၏။

၅။ လက်လုပ် လက်စားဘဝနှင့် နေထိုင် စားသောက်ရသော သူတို့သည် မည်သည့်အခါမျှ တောင်းရမ်းခြင်း မပြု၊ တောင်းရမ်းသူတို့အားသာ ပေးကမ်းတတ်၏။

၆။ လယ်သမားသည် လက်သည် ပင်ပန်းနွမ်းလျှော့ခဲ့လျှင် သူတော်စဉ်တို့ နိုင်ငံပင်လည်း ဆင်းရဲဒုက္ခ ရောက်ရမည်ပင် ဖြစ်၏။

၇။ လယ်ယာမြေသည် ခြောက်သွေ့လျက် လက်တဆုပ်စာမှ လေးပုံ တပုံထိ ဖြစ်သွားပါက လက်တဆုပ်စာမျှလောက်ဖြစ်သော မြေဩဇာပင် မလိုဘဲ ကောင်းစွာ စိုက်ပျိုး ဖြစ်ထွန်း နိုင်၏။

၈။ မြေဩဇာ ထည့်ခြင်းသည် ထွန်ယက်ခြင်းထက် ကောင်း၏။ ပေါင်းသင်ခြင်းမှလွဲ၍ ရေလောင်းခြင်းထက် စောင့်ကြပ်ကြည့်ရှုခြင်းက ကောင်း၏။

၉။ လယ်ယာသမား တဦးသည် မိမိ စိုက်ပျိုးသောမြေကို ကိုယ်တိုင် ကြည့်ရှုစောင့်ရှောက်ခြင်းမရှိက လယ်ယာမြေသည် ဒေါသထွက်သော ဇနီးသည်ကဲ့သို့ မိမိအား စိတ်ချမ်းသာမှု ပေးလိမ့်မည် မဟုတ်ပေ။

၁၀။ ဆင်းရဲသည်ဟူ၍ ငြီးငြူကာ ပျင်းရိသော ဘဝကို ဦးတည်နေထိုင်ကြသူတို့အား ကမ္ဘာမြေကြီးတည်းဟူသော မိခင်မပျိုက ပြက်ရယ်ပြုလိမ့်မည်။



# သ် ရု ကု ရ ယ် လ်

## အခန်း (၁၀၅)

ဆင်းရဲခြင်း။

၁။ ဆင်းရဲခြင်းကဲ့သို့ လူကို ဒုက္ခပေးသော အခြား အကြောင်းသည် မရှိ။

၂။

အလွန် ဆင်းရဲပင်ပန်းခြင်း ကျရောက်သော အခါ၊ ယခုအတွက်ရင်း၊ အတွက်ရင်း၊ ကြည်ရွှင် ချမ်းမြေ့ရခြင်းတို့သည် ပပျောက်စေသည်။

နောင်

၃။ ဆင်းရဲတာရှည်ခြင်းသည် လူတဦး၏မျိုးရိုး ကိုရင်း ပျက်စီးစေ၏။

ကြီးကျယ်ခြင်းကိုရင်း၊ သြဇာရှိခြင်း

၄။

မြင့်မြတ်စွာ မွေးဖွားလာသူတို့တွင် ဆင်းရဲသောအခါ ကိုယ့်လိုဘအဟွက် ဖြစ်သောစကားများကို ပြောဆိုစေရန် စေ့ဆော်ပေးတတ်၏။

၅။ ဆင်းရဲကြေကွဲခြင်းသည် နောက်ယပ်
လာတတ်၏။

ဆင်းရဲကြေကွဲခြင်းများစွာကို ယူဆောင်

၆။ ဆင်းရဲသူတို့၏ စကားသည် စိတ်ကူးအားဖြင့် ကောင်းမွန်ခြင်း၊ ဖေါ်ပြပုံ မှန်ကန်ခြင်း ရှိစေကာမူလည်း အကျိုးမပေးပေ။

၇။ လုံးဝမှီတွယ်စရာ မရှိအောင် ဆင်းရဲသွားသော

သူဟာယောက်အား မိပင်ရင်း
ကပင် တစိမ်းပမာ ဆက်ဆံလိမ့်မည်။

၈။ ယမန်နေ့က သေလုမျှောပါးဖြစ်ခဲ့သော

ဆင်းရဲခြင်းသည် ယနေ့ပင် ကျွန်ုပ်ထံ
ပြန်လည် လာဦးမည်လော။

၉။ မီးတောက် မီးလျှံအတွင်း၌ပင် အိပ်စက်၍ နေသော်၊

နေနိုင်သူ ရှိကောင်း၏။

သို့သော် ဆင်းရဲခြင်း၏ အလယ်၌မူ မည်သို့မျှ နေနိုင်လိမ့်မည် မဟုတ်ပေ။ ၁၀။ ခိုကိုးရာမဲ့၍ ဆင်းရဲသော သူတို့သည် ခန္ဓာကိုယ်ကို မစွန့်ပစ်နိုင်ကြသည့်

အလျှောက် အိမ်နီးချင်းတို့၏ အစားအသောက်တို့ကို သုံးစွဲ၍ နေကြရ၏။



# သီရကုရယ်လ်

## အခန်း (၁၀၆)

## တောင်းရမ်းခြင်း။

၁။ အသင်သည် တောင်းရမ်းဘွယ် ရှိသည်တို့ကို တွေ့သော် တောင်းလိမ့်မည်။ သို့သော် ပေးဘွယ်ဝတ္ထုကို မပေးလျှင် တောင်းသူအား အပြစ်ဆိုရန် မဟုတ်၊ မပေးသူအား အပြစ်ဆိုရန် ဖြစ်၏။

၂။ တောင်းရမ်းခြင်းသည် တောင်းရမ်းသူအား ကြေကွဲ ရရှိလျှင် ထိုသို့ပြုလုပ်ခြင်းပင်လည်း တင့်တယ်၏။

ဝမ်းနည်းဘွယ် မဖြစ်ဘဲ ၃။

တောင်းရမ်းလာသူတို့အား ပေးကမ်းရမည့် ဝတ္တရားကို နားလည်သော ရက်ရောသူတို့၏ ရှေ့ရပ်ရခြင်းသည်ပင် တင့်တယ်ခြင်းဖြစ်၏။

သဒ္ဓါ ၄။

မိမိတို့အား တောင်းရမ်းလာသူတို့ကို အိမ်မက်ထဲ၌ပင် မတွန့်မဆုတ် ပေးမည် ဖြစ်သော သူတို့ထံ တောင်းရမ်းခြင်းသည် ပေးကမ်းခြင်းနှင့် အတူတူပင်ဖြစ်၏။

၅။ လောကကြီးတွင် မငြင်းမပယ်တဲ ပေးကမ်းလှူဒါန်းသူများ ရှိသည့်နည်းတူ လူတဦး၏ ရှေ့တွင် မည်သို့မျှ မဆိုဘဲရပ်၍ အလှူခံသူတို့လည်း ရှိကြသည်။

၆။

ပေးကမ်းရာတွင် ငြင်းပယ်မှုမရှိသော သူတို့ကို ကြုံရသော ခဏ၌ ရခြင်း၏ မကောင်းမှုတို့သည် ပပျောက်လိမ့်မည်။

တောင်းရမ်း

၇။ မိမိတို့ ပေးကမ်းစွန့်ကြဲသော လှူဘွယ်ဝတ္ထုတို့ကို ကြင်နာရက်ရောစွာ ပေးကမ်း သောသူတို့ကို မြင်သောအခါ တောင်းရမ်း သူတို့သည် အလွန် အကျူး ဝမ်း မြောက် ရွှင်လန်းကြ၏။

၈။ တောင်းရမ်း စားသောက်သူတို့ မရှိဟုဆိုလျှင် ကျယ်ပြော၍ စေတနာမရှိသော ဤလောကကြီး၏ လှုပ်ရှားမှုတို့သည် ရုပ်သေးရုပ်တရု လှုပ်ရှားမှုကဲ့သို့သာ ဖြစ်လိမ့်မည်။

၉။ တောင်းရမ်း၍ လှူဘွယ်ဝတ္ထုကို လက်ခံသူများ မရှိခဲ့လျှင် ဒါန ပြုသူတို့အား အဘယ်သို့ ချီးမွမ်းဂုဏ်ပြု နိုင်တော့မည်နည်း။

၁၀။ တောင်းရမ်းသူတို့သည် တောင်းရမ်းခြင်းကို ငြင်းပယ်သူတို့အား အမျက် မထွက်ရာပေ။ အဘယ်ကြောင့်ဆိုသော် မိမိ၏ ဆင်းရဲသော အဖြစ်ကပင်လျှင် ဤသို့ အပြောခံရစေရန် အကြောင်းခံ ဖြစ်သောကြောင့်တည်း။



သရကုရယလ

## အခန်း (၁၀၇)

## တောင်းရမ်းခြင်း၏ မကောင်းမှုများ။

၁ ။

တောင်းဆိုသမျှတို့ကို မငြိုးမငြင် ရက်ရက်ရောရော ပေးကမ်းတတ်သူတို့ထံမှပင်လျှင် မတောင်းဆိုဘဲ နေနိုင်ခြင်းသည် အလွန်ကောင်း၏။

၂။ ဤကမ္ဘာကြီးကို ဖန်ဆင်းသူက တောင်းရမ်းခြင်းကို အသက်မွေးမှု တခုဟူ၍ ပညတ်ထားခဲ့သည်ရှိသော် ထိုကိုယ်တော်အရှင်ပင်လည်း လှည့်လည် တောင်းရမ်းသော အမှုကြောင့် ပျက်စီးရာ၏။

၃။ မိမိ၏ဆင်းရဲခြင်းကို ပြေပျောက်စေရန် အလုပ်မလုပ်ဘဲ လှည့်လည်တောင်း ရမ်းခြင်းဖြင့်သာ အသက်မွေးသူ၏ ရဲရင့်ခြင်းထက် မိုက်မဲသော အရာသည် မရှိ။

၄ ။

လုံး၀ ခိုကိုးရာမဲ့နေစဉ် ကာလတွင် တောင်းရမ်းခြင်းကို မပြုဘဲ နေပါက ထိုသူအား အပြည့်အ၀ ချီးမွမ်းနိုင်မည် မဟုတ်ပေ။

ဂုဏ်ဆောင်၍

၅။ မိမိလုပ်အားဖြင့် လုပ်ကိုင်၍ရသော ကစီရည် ဆန်ပြုတ်ပင်ဖြစ်စေ မိမိအတွက် နတ်သုဓါတမျှပင်တည်း။

၆။

နွားတကောင်အတွက် ရေကို တောင်းသည်ဖြစ်စေ၊ ထိုသို့တောင်းရမ်းရသူ၏ နှုတ်ထက်ပို၍ မတင့်တယ်သော အရာသည် လူတယောက်အတွက် မရှိပေ။

၇။ ကျွန်ုပ်အထူးတောင်းပန်လိုသည်မှာ တောင်းရမ်းစားသောက်သူတို့သည် "တောင်းရမ်းရန် လိုအပ်သည်ရှိသော် လိုက်လိုက်လျောလျော ပေးကမ်းခြင်း မပြုလိုသူတို့ထံတွင် မတောင်းရမ်းကြပါနှင့်" ဟူ၍ဖြစ်၏။

၈ ။

တောင်းရမ်းခြင်းဟူသည့် မလုံလဲသော လှေငယ်သည် ငြင်းပယ်ခြင်းတည်းဟူသော ကျောက်ဆောင်နှင့် တွေ့ပါက ကွဲပျက်ရလိမ့်မည်။

၉။ တောင်းရမ်းခြင်း၏ မကောင်းမှုတို့ကို စဉ်းစားရုံမျှဖြင့်ပင်လျှင် လူတဦး၏ နှလုံးသားကို အရည်ပျော်စေနိုင်၏။ သို့သော် တောင်းရမ်းသည်ကို ငြင်းပယ်ခြင်းအား စဉ်းစားရခြင်းသည် လူတဦး၏ နှလုံးသားကို ကွဲကြေနိုင်၏။

၁၀။ တောင်းရမ်းစားသူ တဦးအား "မပေးနိုင်" ဟူ၍ ငြင်းပယ်ခြင်းသည် ထိုသူ၏ ဘဝကို ပယ်ရှားခြင်းဖြစ်၏။ သို့သော် ကိုယ့်ကိုကြော်ငြာခြင်းကပင်လျှင် ငြင်းပယ်သူအား ပျက်စီးစေ၏။ ငြင်းပယ်သူ၏ အသက်ကို အဘယ်နေရာတွင် ဖုံးကွယ်ထားလေမည်နည်း။

၁၀၇

## သိရုကုရယ်လ်

### အခန်း (၁၀၈)

### ဟိရီဩတ္တပ္ပ ကင်းခြင်း။

၁။

နှိမ့်ကျသော သူတို့သည် ပြည့်စုံသော သူတို့နှင့် ပုံပန်းသဏ္ဍာန်အားဖြင့် ဆင်တူကြ၏။ ဤသို့ အမျိုးအစားချင်း တူညီခြင်းကို အခြားသော သတ္တဝါ၌ မတွေ့ရပေ။

၂။ နှိမ့်ကျသူတို့သည် အကောင်း အဆိုးကို ခွဲခြားသိသူတို့ထက် ရှင်လန်း ချမ်းမြေ့ရခြင်း ရှိကြ၏။ အဘယ်ကြောင့်ဆိုသော် နှိမ့်ကျသော သူတို့သည် သူတော်ကောင်းတို့ ကဲ့ရဲ့ ပုပန်မှု မရှိရသောကြောင့်ဖြစ်၏။

၃။

နှိမ့်ကျသော သူတို့သည် ဘုရားများနှင့်လည်း တူကြ၏။ အဘယ်ကြောင့်ဆိုသော် မိမိတို့ ကြိုက်ရာတို့ ပြုလုပ်တတ်ကြသောကြောင့်တည်း။

၄။

နှိမ့်ကျသော သူတို့သည် မိမိတို့ထက် ယုတ်ညံ့၍ တကိုယ်ကောင်းဆန်သောတို့အား တွေ့ရလျှင် မိမိတို့ကို ဂုဏ်ထုတ်ကြ၏။

သူ

၅။ တကိုယ်ကောင်း ဆန်သော သူတို့၏ အမူအကျင့်၌ ကြောက်ရွံ့ခြင်းသည် လက်သုံးဖြစ်၏။ ထိုသို့မဟုတ်လျှင် အနည်းငယ်ဖြစ်စေ အောင်မြင်ရန် မျှော်လင့်ခြင်းတည်း။

၆။ ယုတ်ညံ့သော သူတို့သည် တီးခတ်နေသောပုံကဲ့သို့ ဖြစ်၏။ အဘယ်ကြောင့်ဆိုသော် မိမိတို့ ကြားသိသော လျှို့ဝှက်ချက်များကို တပါးသူတို့အား ဖြန့်ဖြူးသောကြောင့် ဖြစ်၏။

၇။ တကိုယ်ကောင်း ဆန်သူတို့သည် စားသောက်၍ ပြီးစီးချိန်၌ လက်ဖဝါးတွင်ကပ်၍ နေသည်တို့ကို တပါးသူအား ပေးရန်ပင် မဆိုထားဘဲ၊ ထိုသူတို့၏ မေးရိုးကို မဖြန့်ဘဲ ဆုပ်ထားသော လက်သီးနှင့် တောင်းလာသူတို့ကို ထိုးနှက်ပေလိမ့်မည်။

၈။ မြင့်မြတ်သူတို့သည် အလှူဒါနကို မေတ္တာရပ်သည်နှင့် တပြိုင်နက် ပေးလှူကြ၏။ ယုတ်ညံ့သော သူတို့မှာမူကား ကြံကိုအရည်ညှစ်၍ ယူမှရသကဲ့သို့ ညှဉ်းဆဲသတ်ဖြတ်ယူမှသာ ပေးတတ်ကြ၏။

၉။ ယုတ်ညံ့သော သူတို့သည် တပါးသူတို့ ကောင်းစွာ ဝတ်ဆင် စားသောက်နေကြသည်ကို မြင်သည်နှင့်တပြိုင်နက် မကောင်းသော စွပ်စွဲချက်များကို ပြုတတ်ကြ၏။

၁၀။ ယုတ်ညံ့သော သူတို့သည် ဒုက္ခကြီးစွာ ကျရောက်သောအခါ မိမိတို့ကိုယ်ကို ရောင်း၍စားကြသည်။ ထိုသို့မပြုလျှင် သူတို့သည်အဘယ်သို့ပြုတတ်ဦးမည်နည်း။

၀၀၀

# သိရုကုရယ်လ်

# ချစ်ခြင်းမေတ္တာ ဆိုင်ရာ ကဏ္ဍ

## (အခန်း–၁၀၉ မှ ၁၃၃)



(၁) လျှို့ဝှက်သော မေတ္တာ (အခန်း–၁၀၉ မှ ၁၁၅)
(၂) အိမ်ထောင်သည်ဘဝ မေတ္တာ (အခန်း–၁၁၆ မှ ၁၃၃)

သိရုကုရယ်လ်

**အခန်း (၁၀၉)**

အလှတရားကိုကြည့်မြင်ခံစားရခြင်း။

(အမျိုးသား)

၁။

ကျောက်သံ ပတ္တမြားတို့ ဝတ်စား ဆင်ယင်ထားသော မိန်းကလေးသည် နတ်မိမယ်လော၊ ဒေါင်းပျိုမကလေးလော၊ လူသားပင်လောဟု ကျွန်ုပ်၏ စိတ်ဝယ်

ရှုပ်ထွေးရပါ၏။

၂။

ကျွန်ုပ်အား လည်ပြန်, ပြန်၍ ကြည့်ရှုသော ဤအမျိုးသမီး၏ အလှသည် တပ်တောင်တာချီ၍ ကျွန်ုပ်ထံ လာရောက်၍ ကျေနပ်မှုပေးသော နတ်မိမယ်ကဲ့သို့ သဏ္ဍာန်တူပါ၏။

၃။ ယမဟူသည် အဘယ်ကို ခေါ်သည်ကို ကျွန်ုပ် ယခင်က မသိခဲ့ပါ။ ယခု ကျွန်ုပ် သိမြင်ပါပြီ။ ၎င်းမှာ မိန်းမတို့၏ အရည်သွေးများဖြင့် တိုက်ခိုက်လျက် ရှိသော မျက်လုံးများဖြစ်ပါသည်။

၄။

အမျိုးသမီးသည် ယဉ်ကျေးသိမ်မွေ့ လှပေသည်။ သို့သော် သူ့ မျက် လုံး များ သည် မိမိကို ကြည့်သူတို့အား သတ်တော့ဖြတ်တော့မည်ကဲ့သို့ ထင်ရပါ၏။

၅။

သူသည် ယမမင်းလော၊ မျက်လုံးအစုံလော၊ သမင်ပျိုမကလေးလော ထိုသုံးမျိုးစလုံးသည် ဤမိန်းမပျို၏ ကိုယ်ဟန်၌ တည်ရှိလေသလော။

၆။ သူမ၏နဖူးအောက်မှ ရက်စက်တတ်သော မျက်ခုံးများက ဖုံးကွယ်၍ထားလျှင် သူမ၏ မျက်လုံးတို့သည် အကျွန်ုပ်အား ကြေကွဲဝမ်းနည်း ဘွယ်ဖြစ်သော အရာကို ဖန်တီးနိုင်မည် မဟုတ်ပါ။

၇။ မို့မောက် တင်းရင်း နေသော ထိုမိန်းမပျို၏ ရင်သားကို ဖုံးလွှမ်း ထားသော အဝတ်သည် မုန်ယိုနေသော ဆင်၏ မျက်လုံးတို့ကို ဖုံးလွှမ်းထားသော အဝတ်ကဲ့သို့သာတည်း။

၈။

မကြောက်မရွံ့တတ်သော ရန်သူတို့အား စစ်မြေပြင်တွင် ချောက်လှန့်နိုင်သော ကျွန်ုပ်၏ စွမ်းအားတို့ကို သူမ၏ မျက်စိအကြည့်က ဖျက်ဆီး၍ ပစ်နိုင်ပါ၏။

၉။ အကြင် အမျိုးသမီး၌ ဂုဏ်ရှိခြင်းဖြင့် လွှမ်းချယ် ထားလျှင်ရင်း၊ သမင်ပျိုမကဲ့သို့ သိမ်မွေ့သော အကြည့်ရှိလျှင်ရင်း၊ ကျောက်သံပတ္တမြားတို့ကို အဘယ်နည်းဖြင့် အလှအပ ဆင်ရန် လိုတော့အံ့နည်း။

၁၀။ ကျိုချက်ထားသော ပျားရည်သည် သောက်သုံးသော ခဏတွင်မှ အရသာကို ဖြစ်စေသော်လည်း ချစ်ခြင်းမေတ္တာတို့မည်သည်ကား ကြည့်ရုံခဏမျှဖြင့်ပင် ကြည်ရွှင်မှုကို ဖြစ်စေ၏။



# သိရုကုရယ်လ်

အခန်း (၁၁၀)

## တဦးသဘောကို တဦးစစ်ခြင်း။

### (အမျိုးသား)

၁။ ဆေးချယ်၍ ထားသော ဤချောမောလှပသည့် မိန်းကလေး၌ အကြည့်နှစ်မျိုးရှိ၏။ တမျိုးသောအကြည့်မှာ နာကျင်ခံစားရခြင်းကို ဖြစ်စေ၏။ ကျန်အကြည့်တမျိုးမှာ ထိုသို့ခံစားရခြင်းကို ပပျောက်စေနိုင်၏။

၂။

ရုတ်တရက် ခိုးဝှက်၍ ကြည့်လိုက်သော အကြည့်သည်ပင် ထိုမိန်းမပျိုနှင့် ပွေ့ပက်၍ ကြည်နူးရခြင်း၏ တဝက်သာမျှလောက်သော ကြည်ရွှင်မှုကို ဖြစ်စေ၏။

၃။ သူမသည် ကျွန်ုပ်အား ကြည့်လျက် ခေါင်းကိုငုံ့လိုက်၏။ ထိုသို့သော လက္ခဏာသည် အကျွန်ုပ်တို့၏ မေတ္တာပင်ပျိုအား ရေစင်ဖြင့် သွန်းလောင်းလိုက် သကဲ့သို့ ရှိပေသည်။

၄။

ကျွန်ုပ်က ကြည့်သည်ရှိသော်၊ သူသည်မျက်လွှာကို ချ၏။ ကျွန်ုပ်ကမကြည့်စဉ်၌ သူသည် ကြည့်၍ ငြင်သာစွာ ပြုံး၏။

၅။ သူသည် ကျွန်ုပ်အား တိုက်ရိုက်
အစုံဖြင့် ပြုံး၍ကြည့်၏
မကြည့်ပါဘဲ၊ တဝက် မှေးမှိတ်သော မျက်စိ

၆။

သူတို့သည် တစိမ်းတရံဆံကဲ့သို့ ခက်ထန်စွာ ပြောကြားမည် ဖြစ်သော်လည်း မိတ်ဆွေဖြစ်သူတို့၏ စကားမျိုးကို မကြာခင် နားလည်ကြ၏။

၇။ ခက်ထန်၍ ကြမ်းတမ်းသော စကားလုံးများနှင့် မုန်းတီးဟန် ရှိသော အကြည့်တို့မှာ ချစ်သူတို့၏ တစိမ်းတရံဆန်အတွက် ပြုလုပ်လိုသော စိတ်ဆန္ဒများ မျှသာဖြစ်၏။

၇။ အကျွန်ုပ်က ကြည့်သောအခါ ကြင်နာဘွယ်ဖြစ်သော မိန်းကလေးသည် ပြန်၍ ကြည့်လျက် ပြင်သာစွာ ပြုံး၏။ ထိုအချက်သည် အကျွန်ုပ်အား ဖြေသိမ့်စေ သော လက္ခဏာပင်။

၉။ ချစ်သူတို့သည် တဦးနှင့်တဦး တစိမ်းတရံဆန်ကဲ့သို့ ဖြင့်လည်း ကြည့်နိုင် ကြ၏။

မသိကျိုးကျွန် အကြည့်မျိုး

၁၀။ ချစ်သူတို့၏ မျက်လုံး၌ အချင်းချင်း စကားလုံးများပင် မလိုတော့ပေ။

သဘောတူပြီးကြလျှင် နှုတ်မှ ပြောဆိုရန်



သံ ရု ကု ရ ယ် လ်

အခန်း (၁၁၁)

ကာပဂုဏ်အာရုံတွင် မွေ့လျော်ခြင်း။

(အမျိုးသား)

၁။ မြင်မှု, ကြားမှု, အရသာ ခံမှု, အနံ့ ရမှု, ထိတွေ့မှုဟူသော အာရုံငါးပါးလုံးကို လည်ဆွဲ တန်ဆာ ဝတ်ဆင်ထားသော လှပသည့် မိန်းမပျိုနှင့် သာလျှင် တပြိုင်တည်း ခံစားနိုင်၏။

၂။ ရောဂါတခု၏ ပျောက်ကင်းရာ ဆေးဝါးကား ထိုရောဂါနှင့် သဘာဝချင်း အလွန်ခြားနားမြဲ ဖြစ်၏။ သို့သော် အဆင်းတန်ဆာနှင့် ပြည့်စုံသော အမျိုးသမီး၏ ဖန်တီးသော ရောဂါကိုမူကား သူနှင့် သာလျှင် ပျောက်ကင်းအောင် ကုသနိုင်၏။

၃။ မိမိတို့ ချစ်နှစ်သက်သောသူ၏ လက်ပေါ်တွင် အိပ်စက်ရခြင်းထက် ကြာမျက်စိ ကဲ့သို့ ရှိသော ပိဿနိုး၏ကောင်းကင်ဘုံ၌ အိပ်စက်ရခြင်းက သာလွန်ပါမည်လော။

၄။ သူ့ထံ၌ လောင်မြိုက်လျက်ရှိသော မီးတို့သည် ကျွန်ုပ်ချဉ်းကပ်သွားလျှင် အေး၍သွား၏။ ဆုတ်ခွါသွားလျှင် တောက်လောင်၍လာ၏၊ ဤသို့သော မီးလျှံကို အဘယ်မှ ရခဲ့လေသနည်း။

၅။ ပန်းနံ့သာတို့ဖြင့် တန်းဆာဆင်ထားသောသူ၏ ပုခုံးသားတို့သည် ကျွန်ုပ် ပိုင်ဆိုင်လိုသော သာယာဖွယ်များ မလွဲအမှန် ဖြစ်လေသည်။

၆။ ဤလှပသောသူ၏ ပုခုံးသားများသည် နတ်သုဓ္ဓါနှင့်ဖန်တီးထားသကဲ့သို့ရှိ၏။ အဘယ်ကြောင့် ဆိုသော် ယင်းတို့ကို ပွေ့ဖက်သည့်အခါတိုင်း ကျွန်ုပ်၌ အားသစ် ခွန်သစ်များ တိုးတက်၍ ကြည်ရွှင်ခြင်း ဖြစ်ရ၏။

၇။ အသား ရွှေရောင်တမျှ လှပသော မိန်းမငယ်ကို ပွေ့ဖက်ရခြင်းသည် ကိုယ်ပိုင် အိမ်တွင်နေ၍ ကိုယ့်လုပ်စာတို့ကို စားသုံးလျက် ထိုအထဲမှ လှူဒါန်းကာ စည်းစိမ်ဖြင့် နေရသော အဖြစ်ကဲ့သို့ပင် ပျော်မွေ့ဖွယ် ရှိ၏တကား။

၈။ ထက်သန်စွာ မေတ္တာထားသူအတွက် ရွှင်ချိခြင်းဟူသည်မှာ အလွန်နုနယ်သော လေညှင်းကလေးပင် မထိုးဖေါက်နိုင်သော ပွေ့ဖက်ရခြင်းဖြစ်၏၊

၉။ ချစ်ခင်ခြင်း၊ ရန်ပြုခြင်း၊ ရန်အေးခြင်း၊ စပ်ယှက်ခြင်းအစရှိသော အကျိုးတို့မှာ တဏှာပေမအတွက် အိမ်ယာထောင်သူတို့ ရရှိသော အရာများဖြစ်သည်။

၁၀။ လူတတောက်သည့် ပုရွပုရွ လေ့လာပါက မမ၏ မုကာမမျက်ကို မြင်လောရသည့် ကောင်းစွာ ပြုပြင်ဆင်ယင်ထားရှိသော အမျိုးသမီးနှင့် ကာမဂုဏ်ခံစားရခြင်း သည် ပို၍ပို၍သာ အလိုဆန္ဒ ကို ဖြစ်ပေါ်စေ၏။

၁၁၃

# သီရိကုရယ်လ်

## အခန်း (၁၁၂)

## စည်းစိမ်တွင် မွေ့လျော်ခြင်း။

### (အမျိုးသား)

၁။

အို၊ နုနယ်သော ပန်းကလေး ပွင့်လန်းပါလော့။ သင်ကား နုနယ်သော သဘာဝရှိ၏၊ သို့သော် အကျွန်ုပ်၏ ချစ်သူကား သင့်ထက် ပို၍ နုနယ် ပေသေး၏။

၂။ တပါးသူတို့ မြင်လေသမျှသော ပန်းတို့သည် သူမ၏ မျက်လုံးများနှင့်တူ၏။ ထို့ကြောင့် ၎င်းတို့ကို မြင်ရလျှင် သင်သည် မရွေးချယ်နိုင် ဖြစ်ရလေသည်။

၃။ ဝါးပိုးနှစ်ကဲ့သို့ အဆင်းကို ဆောင်သော သူမ၏ ပုခုံးသားတို့သည် မျှစ်ကဲ့သို့ နုနယ်၏၊ သွားများသည် ပုလဲလုံးကလေးများဖြစ်၏၊ သူမ၏ ထွက်သက်သည် မွှေးရနံ့သင်း၏။ ဆေးချယ်ထားသော မျက်လုံးများသည် လှံသွားများနှင့်တူ၏။

၄။ ကြာညိုတပင်သည် မျက်စိသာ မြင်တတ်ပါက၊ မြေပေါ်သို့ ကိုင်းညွတ်၍၊ အကျွန်ုပ်ကား ဤသို့ လှပစွာ ပြုပြင် တန်းဆာဆင်ထားသော အမျိုးသမီး၏ မျက်လုံးနှင့် မည်သည့် အခါမှ တူနိုင်လိမ့်မည် မဟုတ်ပါဟူ၍ ဆိုပေအံ့။

၅။ သူမ၏ခါးသည် နုနယ် သွယ်ပျောင်းလှ၏။ နုလွန်း လှလွန်းသော ပန်းကလေးကို ပန်ဆင်ရာ၌ပင် ခါးကလေးသည် ကျိုးမတတ်ဖြစ်ရ၏။

၆။ အမျိုးသမီး၏ မျက်နှာသွင်ပြင်နှင့် လမင်းတို့သည် ခွဲခြားမရသည့် အားလျော်စွာ ကောင်းကင်ရှိ ကြယ်တို့မှာ မိမိတို့နေရာကို မရွေ့တတ်အောင် ဖြစ်ရ၏။

၇။ လပြည့်ဝန်း၏ မျက်နှာတွင် အစက်ကလေးများ ရှိသကဲ့သို့ ဤအမျိုးသမီး၏ မျက်နှာမှာ အပြောက်အစက် ရှိနိုင်ပါမည်လော။

၈။ အို့ ဖိုးရွှေလမင်း– သင်သည် အမျိုးသမီးတို့၏ မျက်နှာကဲ့သို့ အလှအရည်သွေးကို ဆောင်နိုင်မည်ဆိုပါက သင့်အားလည်း ချစ်ခင်မြတ်နိုး ထိုက်ပေသည်။

၉။ အို့ ဖိုးရွှေလမင်း– ပန်းပွင့်များ သဏ္ဌာန်ရှိသော သူမ၏ မျက်လုံးများရှိသည့် မျက်နှာသွင်ပြင်မျိုးကို သင်ဆောင်လိုပါက၊ အများတကာ မြင်ရအောင် ထွက်ပေါ်ခြင်း မပြုပါလင့်။

၁၀။ နုနယ်သော ပန်းကလေးများနှင့်ဘဲငန်း၏ အမွေးအတောင်တို့ပင်လျှင် ဤနုနယ်သော မိန်းကလေး၏ ဘဝါးအောက်၌ ဆူးကို နင်းရသကဲ့သို့ ရှိဘိ၏။

၁၁၂

သ ရူ ကု ရ ယ် လ

**အခန်း (၁၁၃)**

ပြင်းထန်သောအချစ်

## ( အမျိုးသား )

၁။ ညင်သာစွာ စကားဆိုတတ်သော ကညာပျို၏ ဖြူဖွေးသော သွားများအကြားမှ ယိုစိမ့်၍ ထွက်လာသော ရေပေါက်တို့သည် နို့နှင့်ပျားရည်တို့၏ အရောအစပ် ကဲ့သို့ ထင်ရပေသည်။

၂။ ကျွန်ုပ်နှင့် ဤချစ်နှမတို့၏ မေတ္တာကား ကိုယ်နှင့်စိတ်တို့၏ ပေါင်းစပ် ထားခြင်း ကဲ့သို့ အလားတူပေသည်။

၃။ အို-ကျွန်ုပ်၏ မျက်ဆန် အတွင်းပုံ တည်ရှိသော ရုပ်ပုံလွှာ၊ ပယ်ရှားပါလော့။ ကျွန်ုပ်၏ ချစ်မြတ်နိုးသူအတွက် နေရာမရှိသောကြောင့် ဖြစ်ပေသည်။

၄။ ကျောက်မြတ်ရတနာတို့ ချယ်လှယ်လှပသော ဤမိန်းမပျိုသည် ကျွန်ုပ်နှင့် မေတ္တာကြွမ်းဝင် ချစ်ခင်နေသည့်အခါ၊ အသက်ရှိသောဝိညာဉ်နှင့်တူ၏။ ရှောင် ဖယ်သွားသည့်အခါ အသက်ငင်နေသော ဝိညာဉ်နှင့်တူ၏။

၅။ တောက်ပသော မျက်လုံး အစုံရှိသည့်သူအား အကျွန်ုပ် မေ့လျော့နိုင်ခဲ့သည် ရှိသော် အသင့်ကို အကျွန်ုပ်သတိရပါလိမ့်မည်။ သို့သော် အကျွန်ုပ်သည် မည်သို့ မှ သူ့အား မမေ့နိုင်ပါဟူ၍ သူသည် သူ့အလုပ်အကျွေး အမျိုးသမီးအားဆို၏။

## ( အမျိုးသမီး )

၆။

ကျွန်ုပ်၏ ချစ်သူသည် ကျွန်ုပ်၏မျက်စိထဲမှ လွဲခွါ၍ မသွားပေ။ အကျွန်ုပ် မျက်တောင် ခပ်လိုက်သည်တိုင် သူသည် မနာမကျင်ဘဲ လေကဲ့သို့ လွင့်ပါး၍

နေ၏။

၇။ အကျွန်ုပ်၏ ချစ်သူသည် အကျွန်ုပ်၏ မျက်လုံးအိမ်အတွင်း၌ တည်နေသည့် အခါ ကျွန်ုပ်သည် မျက်လုံးတွင် ဆေးကိုမျှ မဆိုးရက်ပါ၊ ဆိုးခဲ့သော် သူ့အား ဖုံးကွယ်မိမည်စိုး၍ ဖြစ်သည်။

၈။ ချစ်သူသည် ကျွန်ုပ်၏ နှလုံး၌ရှိသောအခါ ပူလောင်သောအစာတို့ကို စားရန် စိုးရိမ်မိပါ၏။ အဘယ်ကြောင့်ဆိုသော် သူ့အား ပူလောင်မည် စိုးရွံ့၍ ဖြစ်ပေသည်။

၉။ အကျွန်ုပ်သည် မျက်တောင်မခတ်ပါ၊ ခတ်ခဲ့သည်ရှိသော် ချစ်သူ ပုန်းကွယ်မည် စိုး၍ ဖြစ်ပါသည်။ သို့အတွက်ကြောင့် အရပ်က သူသည် ကျွန်မကို မချစ် မနှစ် သက်တော့ဟု ဆိုပေသည်။

၁၀။ ကျွန်မ၏ချစ်သူသည် ကျွန်မ၏နှလုံးသားအတွင်း၌ ထာဝရ ရွှင်ကြည်စွာ ကိန်း အောင်း၍ နေပါ၏။ သို့သော်လည်း အရပ်က သူသည် မချစ်မနှစ်သက်သော ကြောင့် အဝေးတွင် ရှိနေသည်ဟုဆိုပေသည်။



# သီရိကုရယ်လ်

အခန်း (၁၁၄)

## ရှက်ရွံ့ထိန်းသိမ်းမှုစွန့်လွှတ်ခြင်း။

(အမျိုးသား)

၁။

အကြင်သူတို့သည် ကာမဂုဏ်ကို ခံစားပြီးနောက် ထပ်မံ၍ ပူပန်သဖြင့် ထိုပူပန်ခြင်းကို မည်သို့မှ ဖြေဖျောက်၍ မရပေ။

ခံစားလိုမှုဖြင့်

၂။ အရှက်ကို စွန့်လွှတ်ပြီးသည့်နောက် ပူပန်နေလျက်ရှိသော သည့် ဖြေရာမရ ဖြစ်ရလေသည်။

ခန္ဓာကိုယ်နှင့် စိတ်တို့

၃။ ဣန္ဒြေရှိခြင်းနှင့်ယောက်ျားပီသခြင်းတို့သည်မူလကအကျွန်ုပ်၏ ကိုယ်ပိုင်ပစ္စည်း ဖြစ်ပါ၏၊ သို့သော် တပ်မက်မိသော စိတ်ကြောင့် ကျွန်ုပ်မှာ ဖြေဖျောက်၍ မရ တော့ပါ။

၄။ ဣန္ဒြေစောင့်စည်းခြင်းနှင့် ယောက်ျား ပီသခြင်းတည်းဟူသော လှေငယ်သည် တပ်မက်ခြင်း တဏှာတည်းဟူသော ရေစီးကြမ်းတွင် မျောပါ၍ သွားပါလေ သည်။

၅။

ချစ်စဖွယ်ကောင်းသော လည်ဆွဲတန်ဆာကို ဆင်ထားသည့်သူမသည် ထိုညက အကျွန်ုပ်အား မဖြေဖျောက်နိုင်သည့် ပူဆွေးခြင်းကို ဖန်တီးခဲ့ပါ၏။

၆ ။

အကျွန်ုပ်၏ မျက်လုံးတို့သည် သူမ၏ အလို့ငှာ အိပ်၍ မပျော်သဲ တိုင်သည်အထိ ဖြေဖျောက်၍ မရတော့ပါ။

သန်းကောင်

၇။

မိန်းမတို့၌ မည်သို့ပင် တပ်မက်ခြင်း စိတ်ရှိသည် ဆိုစေ နိုင်ခြင်းသည် ချီးကျူးဖွယ် ဂုဏ်အင်္ဂါတရပ် ဖြစ်၏။

ကာမူ၊ ဟန်ဆောင်

( အဓိပ္ပါယ် သမီး )

၈။ မိန်းမတို့ပင်လျှင် တပ်မက်ခြင်းသည် လူ လည် ခေါင် တွင် ပေါ်ပေါက်တတ်၏၊ မိမိတို့သည်စင်ကြယ်သည် တွေးခေါ်တတ်သည်ဟူသော အသိကိုပင် မေ့ပျောက်သွားတတ်ကြ၏။

၉။ အကျွန်ုပ်၏ တပ်မက်ခြင်းကို မည်သူမှ မသိနိုင်ဟု ထင်သဖြင့် ဤအရပ်ရှိ လမ်းတကာတွင် မှောက်မှားခြင်း ဖြစ်ခဲ့မိ၏။

၁၀။ တစိမ်းတရံဆန်တို့သည် မိမိတို့မခံစားရသောကြောင့် ကျွန်ုပ်တို့ မြင်သာအောင် ပြက်ရယ် ပြုကြပေသည်။



# သိရုကုရယ်လ်

## အခန်း (၁၁၅)

## ကွဲကွာနေရစဉ် စကားတင်းဆိုခြင်း။

(အမျိုးသား)

၁။

ကျွန်ုပ်၏ အဖိုးတန်လှသော အသက်ကို အတင်းအဖျင်းများ လာခြင်းက ကာကွယ်လိုက်၏။ ကံကောင်းသဖြင့် ကျွန်ုပ်အား

ပေါ်ပေါက်
မည်သူမှ သတိ
မထားမိပေ။

၂။

ပန်းကဲ့သို့ သဏ္ဍာန်ရှိသော မျက်လုံးများ၏ ပိုင်ရှင် အမျိုးသမီးအား တန်ဖိုးမသိကြသော ဤမြို့မှလူတို့သည် ကျွန်ုပ်အကြောင်းကိုပင် စကားတင်းဆိုကြ၏။

၃။

ဤတမြို့လုံး ပြောနေကြသော အတင်းအဖျင်းများကို အကျွန်ုပ်သည် မရရှိပါသလော။ မရရှိသည်မှာ ကျွန်ုပ် ရရှိနေပြီးသည်ကဲ့သို့ ဖြစ်သောကြောင့်တည်း။

၄။ အကျွန်ုပ်၏ တပ်မက်စွဲလန်းခြင်းများ ပြင်းထန်လာသည်နှင့်အမျှ အတင်းပြောဆိုခြင်းလည်း ပြင်းထန်လာ၏။ ထိုသို့ဖြစ်လျှင် ကျွန်ုပ်၏ တပ်မက်ခြင်းသည်လည်း လျော့နည်း၍ ပျောက်ပျက် သွားမပေလိမ့်မည်။

၅။ အကြင်သူတဦးသည် ရှင်ပြမ္ဘူးတူးနေသည့်အခါ သေရည် သောက်ရခြင်းသည် ကြည့်ရှုင်ဖွယ်ဖြစ်၏။ ထို့ အတူကျွန်ုပ်အား အတင်းပြောခံရစဉ် လိုချင်တပ်မက်မှုမှာ ကြည့်ရှုင်ဘွယ် ဖြစ်၍နေ၏။

## ( အမျိုး သမီး )

၆။

အကျွန်ုပ်သည် ချစ်သူအား တနေ့တည်းသာ ကြည့်ခွင့်ရခဲ့၏။ သို့သော် သတင်းများကမူကား လပေပ်ဖမ်းသည်ကဲ့သို့ ပြန့်နှံ့၍သွား၏။

၇။ ဤသို့ တပ်မက်ပူပင်ရခြင်း တည်းဟူသော ရောဂါကား အမျိုးသမီးတို့၏ ဆိုစကားဖြင့် မြေသြဇာ ထည့်ပေးသကဲ့သို့ဖြစ်၍ အကျွန်ုပ်မိခင်ထံမှ ကြမ်းတမ်းသောစကားတို့ကား ရေလောင်းပေးသကဲ့သို့ ဖြစ်ပေ၏။

၈။

အရပ်ထဲတွင် သတင်းဖြစ်နေသောကြောင့် တပ်မက်ခြင်းကို ငြိမ်းသတ်နိုင်မည် ဆိုလျှင် မီးကို ဆီဖြင့် ငြိမ်းသတ်နိုင်သည်ဟု ဆိုသကဲ့သို့ပင် ဖြစ်ပါလိမ့်မည်။

၉။ မကြောက်ပါနှင့်ဟူ၍ ပြောသောသူ ထွက်ခွါသွား၍ အရှက်ရသော အခါ ကျွန်ုပ်သည် အများ၏ အတင်းအဖျင်း ပြောခြင်းကို ရှက်ကြောက်ရန် အဘယ့်ကြောင့် လိုအပ်ပါတော့ မည်နည်း။

၁၀။

အကျွန်ုပ်လိုချင်သော အတင်းစကားမျိုးကို ဤအရပ်က ပြော၍နေ၏၊ အကျွန်ုပ်၏ ချစ်သူကား အကျွန်ုပ်သည် သူ့နောက်သို့ လိုက်လိုပါက သဘောတူမည်ပင်။



# သီရိကုရယ်လ်

အခန်း (၁၁၆)

ကွဲကွာရသဖြင့် ပူပန်ခြင်း။

အိမ်ထောင်သည်ဘဝ မေတ္တာ (အခန်း ၁၁၆ မှ ၁၃၃)

( အမျိုးသမီး )

၁။ သင်နှင့် မကျေကွင်းရမည့်အကြောင်းဆိုလျှင် ပြောကြားပါလော့။ သင် လျှင်မြန်စွာ ပြန်ရောက်လာပါမည်ဟု ဆိုလျှင် ယိုအချိန်တွင် ရှင်နေမည့် သူတို့အားသာ ပြောကြားပါလော့။

၂။ သူ၏အကြည့်တို့သည် တကြိမ်တခါက အလွန်တရာကြည်လင်ဘွယ်ဖြစ်ခဲ့ပါ၏။ သို့သော် ယခုအခါ ကာမဂုဏ်ခံစားနေရစဉ်၌ပင် ကွဲကွာသွားမည်ကို စိုးရိမ်ကြသဖြင့် စိတ်ဝေဒနာ ခံစားရပါ၏။

၃။

အရာအားလုံးကို နားလည်သော ချစ်သူပင်ဖြစ်စေ၊ ဖုံဖန်ရံခါ ခွဲခွါသွားတတ်၏။ စိတ်ချရန်မှာ မဖြစ်နိုင်သလောက်ပင် ရှိရတော့သည်။

၄။

မကြောက်ပါနှင့်ဟူ၍ အချစ်ကို အပ်နှင်းကာ ပြောခဲ့သောသူပင်လည်း ထွက်ခွါသွားတတ်၏။ ဤသို့ပြောသောသူ၏ စကားကို ယုံစားမိသောသူ၌ အပြစ်ရှိပါသလော။

၅။ သင်သည် အကျွန်ုပ်၏ အသက်ကို ကယ်မည်ဆိုပါက၊ အကျွန်ုပ်၏ ဖူးစာရှင်ခင်ပွန်းလောင်း ထွက်ခွါသွားမည်ကို တားဆီးပေးပါလော့။ သူထွက်ခွါသွားတော့လျှင် ချစ်တင်းနှောရန် ဖြစ်နိုင်တော့မည် မဟုတ်ပါ။

၆။ အကြင်သူသည် သူထွက်ခွါမည့်အကြောင်းကိုရက်စက်စွာ ပြောရဲပါက၊ သူ့ထံမှအချစ်ကို ရရှိရန် မျှော်လင့်ချက်ကိုလည်း စွန့်လွှတ် ရမည်ဖြစ်သည်။

၇။ အကျွန်ုပ်၏ လက်စွပ်တို့သည် ချောင်၍နေပါ၏။ ထိုသို့ဖြစ်ခြင်းမှာ အကျွန်ုပ်၏ အရှင်သခင် ထွက်သွားသောကြောင့် မဟုတ်ပါလော။

မိတ်ဆွေကောင်းမဲ့ သော အရပ်တွင် နေရသည်မှာ အလွန်နာကျည်းဖွယ် ကောင်း၏၊ သို့သော်ချစ်သူနှင့် ကွေကွင်းရခြင်းမှာ ပို၍ နာကျည်းဖွယ်ဖြစ်၏။

၉။

မီးသည်လက်နှင့် ထိတွေ့သောအခါ လောင်ကျွမ်း၏။ သို့သော် မီးသည် အချစ်ရောဂါကဲ့သို့ ဖယ်ရှားသော အခါတွင်လည်း လောင်ကျွမ်း နိုင်စွမ်းပါသလော။

၁၀။

များစွာသောသူတို့သည် မဖြစ်နိုင်သည်ကို လက်ခံကြရလျက်၊ နာကျင်ခြင်းကို ဖြေဖျောက်ကာ ကွေကွင်းရခြင်းကိုလည်း ခံယူလျက် ဘဝကို ထူထောင်နေကြကုန်သည်။

သဲ ရူ ကု ရ ယ် ပ်

## အခန်း (၁၁၇)

## ဝမ်းနည်း ပူပန်ခြင်း။

(အမျိုးသမီး)

၁။ အကျွန်ုပ်သည် အများသူငါ မသိစေရန် စိတ်မကောင်း ဖြစ်ရခြင်းကို လျှို့ဝှက်၍ ထားပါ၏။ သို့သော် ပူပန်ဆင်းရဲရခြင်းသည် စမ်းရေကဲ့သို့ တသွင်သွင် စီးထွက်၍ လာပါသည်။

၂။

အကျွန်ုပ်သည် ကျူးလွန်မှုကို သိမှတ်၍ မထားပါ။ ကိုယ့်ဂုဏ်သိက္ခာ ဤသို့ဖြစ်အောင် မည်သူပြုခဲ့သည်ကို အရှက်ကင်းမဲ့စွာနှင့်လည်း မပြောနိုင်ပါ။

၃။

တပ်မက်ခြင်းနှင့် အရှက်ရခြင်းတို့သည် ကျွန်ုပ်၏ ဝိညာဉ်က မနိုင်ပါဘဲနှင့် ကိုယ်ပေါ်တွင် ထမ်းထားစေသော ဝန်များဖြစ်လေသည်။

၄။

တပ်မက်ခြင်းတို့သည် စင်စစ်အားဖြင့် ဒီရေပမာကဲ့သို့တက်၍နေပါ၏။ သို့သော် လုံခြုံသော လှေဖေါင်ဟူ၍ တပ်မက်ခြင်း ပင်လယ်ကို ဖြတ်ကူးရန်မရှိပါ။

၅။

အကြင်သူသည် မိတ်ဆွေဖြစ်ရခြင်းမှ ကြေကွဲရခြင်းကို ဖြစ်ပေါ်စေနိုင်လျှင် ရန်ငြိုးဖွဲ့ရခြင်းမှ အဘယ်အရာကို မဖြစ်ပေါ်စေအောင် ပြုလုပ်ပါမည်နည်း။

၆။

တပ်မက်ခြင်း၏ စည်းစိမ်ချမ်းသာကား ပင်လယ်ပမာရှိ၏။
ရခြင်း၏ ဆင်းရဲကား ထို့ထက် ကြီးပေသေး၏။

သို့သော် တပ်မက်

၇။ အကျွန်ုပ်သည် တပ်မက်ခြင်းတည်းဟူသော ဒီရေလှိုင်းတံပိုးတို့ အကြားတွင် ကူးဖြတ်ခဲ့ပါ၏။ သို့သော် ကမ်းခြေကို မမြင်သေးပါ။ ညဉ့်နက်သန်းခေါင် တို့၌ပင် အကျွန်ုပ်သည် တကိုယ်ထည်းထည်း နေရဆဲရှိပါသေး၏။

၈။

အများတကာတို့အား အိပ်ပျော်စေအောင် လေးဆေး ငြိမ်သက်စွာ ချော့မော့၍ သိပ်သော ညသည် အကျွန်ုပ်ကိုသာ သူ၏ အဖော်အဖြစ် ထားပါ၏။

၉။ ရှည်လျားလှသော ညများသည် အကျွန်ုပ်အား မရှိသူထက်ပင် ရက်စက်ပါသေး၏။

နှိပ်စက်ခဲ့သော နှလုံးသား

၁၀။ ကျွန်ုပ်၏ မျက်လုံးများသည် စိတ်ကူးနှင့်အတူ ကျွန်ုပ်အား စွန့်ပစ်လေသူ သခင်ရှိရာသို့ သွားနိုင်မည်ဆိုဤ။ သူတို့သည် ဤမျက်ရည် ပင်လယ်များ အကြားတွင် ကူးခတ်လိမ့်မည် မဟုတ်ပေ။

၀၁၇

# သိရုကုရယ်လ်

## အခန်း (၁ ၁ ၈)

## ပူပန်ဆင်းရဲရခြင်း။

### (အမျိုးသမီး)

၁။ အကျွန်ုပ်အား ထိုသူ့ကို မြင်စေအောင်ပြခဲ့သော မျက်လုံးတို့သည် မပျောက်နိုင်သော အနာရောဂါကြီးကို ခံစားနေရန် ဖန်တီးခဲ့ပါ၏။ထိုမျက်လုံးတို့သည်ပင် ယခုသူ့အတွက် အဘယ်ကြောင့် ငိုကြွေးကြရမည်နည်း။

၂။ မျက်ရစ်ဝန်းတွင် ဆေးခြယ်ထားသော မျက်လုံးတို့သည် အမြော်အမြင် မရှိခဲ့ပါဘဲလျက် ယခုမှ အဘယ့်ကြောင့် ကြေကွဲနေပါသနည်း။ မိမိတို့၏ အပြစ်ကို တခါက အဘယ့်ကြောင့် သဲကွဲစွာ မမြင်နိုင်ခဲ့ပါသနည်း၊

၃။ တချိန်ကမူ သူတို့သည် ထိုသူ့အား ထက်သန်စွာ ကြည့်ရှုနေခဲ့ပါ၏။ ယခုအခါ သူတို့သည် ငိုယိုကြ၏။ ဤအဖြစ်သည် ရယ်ဖွယ်ကောင်းလှ၏ တကား။

၄။ ဆေးခြယ်ထားသော မျက်လုံးတို့သည် အကျွန်ုပ်အား ထာဝရ စွဲမြဲစေမည့် သေလောက်သော ရောဂါကို ဖန်တီးပေးခဲ့ပါ၏။ ယခုအခါ မျက်ရည်များ ခြောက်ခန်း၍ ထိုမျက်လုံးတို့သည်လည်း မငိုနိုင်တော့လေပြီ။

၅။ အကျွန်ုပ်၏ မျက်လုံးတို့သည် ပင်လက်ထက်ကြီးမားသော ဇပ်မက်ခြင်းတို့ကို အကျွန်ုပ်အား ဖြစ်စေခဲ့ပါ၏။ ယခုအခါ သူတို့ပင်လျှင် အိပ်၍ မပျော်နိုင်သော ဒဏ်ကို ခံစားနေရလေသည်။

၆။ အကျွန်ုပ်အား ဤရောဂါကို ပေးခဲ့သော မျက်လုံးတို့သည် ဤသို့သောဒဏ်ကို သူတို့လည်း နှောင့်ဖွဲ့ခံနေရ၏။ ကျွန်ုပ်ကား ဝမ်းသာလေစွ။

၇။ ထိုသူ့အား ကြင်နာစွာ စွေ့စိုက်၍ ကြည့်ခဲ့သော မျက်လုံးတို့သည် မျက်ရည်များ ခန်းခြောက်သည့်အထိ ခံစားရပါစေလော့။

၈။ သူ၏ နှုတ်ခမ်းတို့ဖြင့် အကျွန်ုပ်ကို ချစ်ကြောင်းဖွဲ့ခဲ့၍ သူ၏ နှလုံးသားမှာမူ ချစ်ခဲ့ခြင်း မရှိသောသူသည် ဤနေရာသို့ ရောက်ရှိနေသည်။ သို့သော် အကျွန်ုပ်၏ မျက်လုံးများကမူကား သူ့ကို မတွေ့မြင်နိုင်အောင် ခံစားကြရလေသည်။

၉။ သူမရှိစဉ် ကာလ၌ မျက်လုံးတို့သည် မမှေးအိပ်နိုင်ကြပါ။ သူရောက်ရှိနေစဉ်၌လည်း မျက်လုံးတို့သည် မမှေးအိပ်နိုင်ကြပါ။ အဖြစ်နှစ်မျိုးစလုံး၌ပင် အကျွန်ုပ်၏ မျက်လုံးတို့သည်လည်း မခံနိုင်သော ပူပန်ဆင်းရဲခြင်းကို ခံစားရ၍ နေကြရ၏။

၁၀။ ဤအရပ်ရှိ လူများတို့သည် ကျွန်ုပ်၏ မျက်လုံးနှင့်အလားတူသော သူ၏ မျက်လုံးများသည် တီးခပ်အပ်သောဗုံဝိုများကဲ့သို့ ထင်ရှားနေကြောင်း နားလည်ရန် မခဲယဉ်းကြပါပေ။



သံရကုရယ်လ

**အခန်း (၁၁၉)**

ညှိုးနွမ်းခြင်း။

( အမျိုးသမီး )

၁။ အကျွန်ုပ်သည် ချစ်မြတ်နိုးသော အရှင်သခင်ကို ထွက်ခွါသွားခဲ့ရန် သဘောတူခဲ့ပါ၏။ ယခုအခါ အကျွန်ုပ်သည် ညှိုးလျော်ခဲ့သည်ဖြစ်ကြောင်း အဘယ့်သူ့အား ထုတ်ဖေါ် ပြောကြားရပါအံ့နည်း။

၂။ ညှိုးလျော်ခြင်းသည် ထိုသူဖန်တီးခဲ့၍ ဖြစ်သည် ဟူသော အကျွန်ုပ်၌ ဖိစီး၍ နေပါလိမ့်မည်။

ပင့်ကြွားချက်မှာ

၃။ သူသည် အကျွန်ုပ်၏ အလှတရားနှင့် ဣန္ဒြေသိက္ခာတို့ကို ဆောင်ယူသွားခဲ့ပါသည်။ ထိုနောက် ကျွန်ုပ်အား ညှိုးလျော်ခြင်းနှင့် ရောဂါဘယတို့ကိုသာ ပေး၍ထားခဲ့ပါသည်။

၄။ အကျွန်ုပ်သည်သူ့အား တွေးတော၍ နေရပါသည်။ အကျွန်ုပ်ပြောဆိုနေသည်တို့မှာ သူ၏ သာလွန်ခြင်း အကြောင်းတို့ဖြစ်ပါ၏။ သို့တိုင်အောင် လှည့်ဖြားတတ်သော ဤသဘောကြောင့် ကျွန်ုပ်မှာ ညှိုးလျော်နေရပါ၏။

၅။

အကျွန်ုပ်၏ ချစ်သူသည် ထိုအခါကျွန်ုပ်ကို ခွဲခွါသွားခဲ့စဉ်က သည်အကျွန်ုပ်၏ ကိုယ်ပေါ်တွင် မည်မျှ ပြန့်နှံ့ခဲ့ပါသလော။

ညှိုးလျော်ခြင်း

၆။ မှောင်မိုက်ခြင်းသည် အလင်းရောင်အားနည်းလာမည်ကို စောင့်၍ နေသကဲ့သို့ ညှိုးလျော်ခြင်းသည်လည်း ကျွန်ုပ်၏ချစ်လင်၏ ချစ်တင်းနှောခြင်းတို့ မလျော့ပါးလာမည်ကို စောင့်ဆိုင်း၍ နေပါ၏။

၇။

အကျွန်ုပ်သည် သူ၏ တင်းကြပ်းစွာပွေ့ ဖက်ခံရပြီးနောက် တဖက်သို့ လှည့်လိုက်သည့် ခဏတွင် ကျွန်ုပ်အား ညှိုးလျော်ခြင်းသည် ဖမ်းစား၍ ထားပါတော့သည်။

၈ ။

"ဤသူငယ်မသည် ညှိုးလျော်၍ သွားချေပြီ" ဟု ပြောတတ်သူတို့မှ လွဲ၍ ထိုသူသည်ဤသူမအား စွန့်ပစ်၍သွားသည်ဟူ၍ကား မည်သူမျှ မပြောကြချေ။

၉။ သူသည် အပြစ်ကင်းစင်၍ သူမထွက်ခွါမီ ညှိုးလျော်ခြင်းကို ခံစားစေသင့်ပါ၏။

ချော့မော့နှစ်သိမ့်ခဲ့ပါက ကျွန်ုပ်၌

၁၀။ အကျွန်ုပ်၏ မိတ်ဆွေတို့သည် တချိန်က အကျွန်ုပ်ကြည်ရွှင် ခံစားရခြင်းတို့ကို ဖြစ်စေခဲ့သူအား ကဲ့ရဲ့ခြင်း မပြုပါက၊ အကျွန်ုပ် ညိုးငယ် ရစေကာမူလည်း ကောင်းပေ၏။

၁၁၉

# သီရကုရယ်လ်

## အခန်း (၁၂၀)

## တကိုယ်တည်းနေရ၍ဆင်းရဲကြေကွဲခြင်း။

### (အမျိုးသမီး)

၁။ အမျိုးသမီးတို့သည် မိမိတို့၏ ချစ်နှစ်သက်သောသူက ချစ်နှစ်သက်ခြင်းကို ခံယူရရှိသည့်အခါ အနှစ်မဲ့သောအသီးမျိုးဖြစ်သည့် ကာမဂုဏ်ချမ်းသာကိုရရှိသည် မဟုတ်ပါလော။

၂။ မိမိတို့ ချစ်နှစ်သက်သောသူက မေတ္တာမျှခြင်းသည် ရွှာသွန်းခြင်းနှင့် တူညီ၏။

၃။

မိုးကိုအခါ ရာသီနှင့် မှန်မှန်

"အကျွန်ုပ်တို့ သက်ရှင် နေထိုင်သွားကြမည်တည်း။" ဟူ သော ဝင့်ကြွားသည့် စကားမျိုးမှာ မိမိတို့၏ ချစ်လင်က မေတ္တာထားခြင်း ခံရသော သူတို့နှင့်သာ အပ်စပ်ပေသည်။

၄။ မိမိတို့က ချစ်ခင်နှစ်သက်သူတို့၏ မေတ္တာအတုံ့အပြန်ကို မရသော အခါ အခြားအမျိုးသမီးတို့က အထင်ကြီးခြင်း ခံရစေကာမူလည်း၊ ထိုသူသည်သာ လွန်ခြင်းကင်း၏။

၅။ ထိုသူအား အကျွန်ုပ်က ချစ်ခင်သောအခါ အကျွန်ုပ်အား ထိုသူကမချစ်ခင်လျှင် သူအဘယ်သို့ ပြုမည်နည်း။

၆။ တပ်မက်ခြင်းသည် ချိန်ခွင်ညှာကဲ့သို့ တဖက်စွန်းသာ ဖြစ်ရချိန်တွင် ကြေကွဲရခြင်းဖြစ်စေလျက်၊ နှစ်ဖက်စွန်းစလုံးညီသော အခါတွင်မူ ကြင်ရွှင်ရခြင်းဖြစ်၏၊

၇။ ဖူးစာနတ်မောင်သည် တဖက်သတ်သာလျှင် ကြည့်ရှု စောင်မ၍ တဖက်သတ် ဖြစ်သော ဝမ်းနည်းရခြင်း၊ ဆင်းရဲရခြင်းတို့ကိုသာ ပြုလေသလော။

၈။ ဤလောကကြီးတွင် မိမိတို့ ချစ်သူတို့ထံမှ ကြင်နာသော စကား တလုံးတလေမျှကိုပင် မရရှိဘဲ နေနိုင်သူသည် အလွန် အသဲခိုင်သူဖြစ်၏။

၉။ အကျွပ်၏ ချစ်သူသည် အကျွန်ုပ်အား မေတ္တာမထားသော်လည်း သူ၏ စကားလုံးတို့သည် အကျွန်ုပ်နားတွင်း၌ ချိုသာ၍ နေဆဲဖြစ်ပါ၏။

၁၀။ အို-အကျွန်ုပ်၏ ဝိညာဉ်၊ သင်သည် သင်၏ ဝမ်းနည်း ကြေကွဲမှုများကို၊ တပါးသူတို့အား ထုတ်ဖော်ပြောမည်လော။ သင်၏ ဝမ်းနည်းခြင်းများ ကိုသာ ဖြည့်တင်းရန် ကြိုးစားပါလော။

၁၂၀

# သိရုကုရုယ်လ်

## အခန်း (၁၂၁)

အာဗေါ်မှ၍ ဝိုကြွေးရခြင်း။

## ( အမျိုးသား )

၁။ ကာမဂုဏ်ကိစ္စသည် သေရည်ကို သောက်ခြင်းထက်ပင် ချိုမြိန်၏၊ အဘယ့်ကြောင့် ဆိုသော် ထိုကိစ္စကို အမှတ်ရခြင်းကပင်လျှင် လွန်စွာပီတိ ဖြစ်စေနိုင်သောကြောင့်တည်း။

၂။ မိမိ၏ ချစ်သူတဦးအား တွေးတောစဉ်းစားခြင်းသည် မိမိအား နာကျင်စေမှုကို မပြုပေ။ ကာမဂုဏ်ကိစ္စ ဟူသည်မှာ နည်းသည် များသည်မဟူ၊ အစဉ်သဖြင့် စိတ်ကျေနပ်ဖွယ်ရာရှိ၏။

## ( အမျိုးသမီး )

၃။ အကျွန်ုပ်သည် နှာချေ အံ့ကဲ့သို့ ဖြစ်ပြီးမှ နှာမချေတော့ပေ၊ ထို့ကြောင့် အကျွန်ုပ်၏ ချစ်သူလည်း ကျွန်ုပ်အကြောင်းကို စဉ်းစားမည်ပြုပြီးမှ မစဉ်းစားတော့ပေ။

၄။

ကျွန်ုပ်၏ ဝိညာဉ်ထဲတွင် သူသည် ကိန်းအောင်း၍ နေပါ၏။
သူ၏ ဝိညာဉ်တွင်း၌ ကိန်းအောင်း၍ နေပါသလော။

အကျွန်ုပ်သည် ၅။

သူသည် ကျွန်ုပ်အား သူ၏ဝိညာဉ်ထဲတွင် နှောင်ဖွဲ့၍ ထားတော့၏။
အကျွန်ုပ် ဝိညာဉ်ထဲသို့ အစဉ်မပြတ်ဝင်ရန် ရှက်နွံ၍ နေပါသလော။

သူကား ၆။

အကျွန်ုပ်သည် သူနှင့် ကာပဂုဏ် မံစားခဲ့မှုပြင်းကို အမှတ်ရလျက် နေပါသည်။
ဤသို့မှ မပြုလုပ်ရလျှင် အကျွန်ုပ်အတယ်သို့ အသက် ရှင်နိုင်မည်နည်း။

၇။ အကျွန်ုပ်သည် ထိုစည်းစိမ်ကို မည်သည့်အခါမှ မမေ့နိုင်ပါ။ ထိုအကြောင်းကို စဉ်းစားခြင်းကပင်လျှင် ဝိညာဉ်အား ပူလောင်စေပါ၏။ အကယ်၍ ကျွန်ုပ် အသက်ရှင်နေရမည်ဆိုသော် ထိုအကြောင်းကိုမေ့ပစ်၍ ထားသင့်ပါမည်လော။

၈။ သူ့အကြောင်း အကျွန်ုပ်စဉ်းစားလေသမျှ သူသည် စိတ်ဆိုးမည် မဟုတ်ပါ။ ဤနည်းဖြင့် အကျွန်ုပ် ချစ်သူသည် အကျွန်ုပ်အား အလိုလိုက်ခြင်း မဟုတ်ပါသလော။

၉။ အကျွန်ုပ်၏ အဖိုးတန်လှသော ဘဝသည် "ငါတို့တွင် မခြားနားပါ"ဟု ပြောခဲ့ဘူးသော ရက်စက်သောသူ၏ အကြောင်းကို တွေးယင်းဖြင့် အချိန်ကုန်ဆုံးရ၏။

၁၀။ အို့ ဖိုးလမင်း၊ မဝင်ပါနှင့်ဦး။
သွားသောသူအား မြင်သော်

အကျွန်ုပ်သည် အကျွန်ုပ်၏ ဝိညာဉ်မှ ဖဲကြဉ်၍
မြင်ရကောင်းပါအံ့။

# သိရကုရလ်ယ်

## အခန်း (၁၂၂)

## သူမ၏ အိပ်မက်ခြင်း။

(အမျိုးသမီး)

၁။ အိပ်မက်ထဲတွင် ချစ်သူက စေလွှတ်လိုက်သော တမန်နှင့် တွေ့ရခြင်း အကြောင်းကို အကျွန်ုပ်သည် အဘယ်သူနှင့် ကြည်နူးစွာ ပြောရပါမည်နည်း။

၂။

အကျွန်ုပ်၏ ငါးငယ်ပုံသဏ္ဌာန်နှင့် တူသော မျက်လုံးတို့ကို စေစား၍ မှိတ်ထားနိုင်လျှင် အကျွန်ုပ်၏ သခင်အား ကျွန်ုပ်၏ ခံစားရခြင်းတို့ကို ပြောပြနိုင်ပါမည်။

၃။

အကျွန်ုပ် အသက် တည်နေခြင်းမှာ နိုးကြားနေစဉ် အချိန်များ၌ အကျွန်ုပ်ကို အလိုမလိုက်သောသူအား အိပ်မက်မက်နေရသောကြောင့် ဖြစ်ပါ၏။

၄။ အကျွန်ုပ်၏ အိပ်မက်ထဲတွင် ကြည်နူးဧရာရှိပါ၏။ အဘယ့်ကြောင့် ဆိုသော် ကျွန်ုပ်နိုးကြားနေစဉ်ကာလ၌ ကျွန်ုပ်အား လာရောက်လည်ပတ်ခြင်း မရှိသောသူကို အိပ်မက်ထဲတွင် ရှာဖွေ၍ တွေ့ရှိနေသောကြောင့်ဖြစ်၏။

၅။

ကျွန်ုပ်သည် သူ့အား နိုးကြားနေစဉ်၌ တွေ့ရသောအခါ ကြည်နူးစရာ ဖြစ်ရတော့၏။ ယခု အိပ်မက်ထဲတွင် မြင်ရသော အခါ၌လည်း အလားတူ ကြည်နူးရပါ၏။

၆။

နိုးကြားခြင်းဟူသောအရာသည် မရှိဟု ဆိုပါက အကျွန်ုပ်အား အိပ်မက်ထဲတွင် လာရောက် လည်ပတ်သော ချစ်သောသူသည် အကျွန်ုပ်ထံမှ ထွက်ခွါသွားမည် မဟုတ်ပါ။

၇။ အကျွန်ုပ်အား နိုးကြားနေစဉ် အခါတွင် အလိုမလိုက်သော ရက်စက်သူသည် အိပ်မက်ထဲ၌ အကျွန်ုပ်အား နှိပ်စက်ညှဉ်းပမ်းရန် အဘယ်သို့ အခွင့်ရှိပါမည်နည်း။

၈။ အကျွန်ုပ် အိပ်ပျော်နေစဉ် အခါ၌ သူသည် အကျွန်ုပ်၏ ပုခုံးသားများပေါ်တွင် မှီ၍ နားနေပါသည်။ သို့သော် အကျွန်ုပ် နိုးကြား လာသောအခါ သူသည် ဝိညာဉ်ထဲသို့ အလျင်စလိုပြန်၍ ဝင်သွားလေသည်။

၉။ အိပ်မက်ထဲတွင် မြင်တွေ့ရန် ချစ်ကြင်နာရမည့်သူ မရှိသော ပုဂ္ဂိုလ်တို့သည် ကျွန်ုပ်အား နိုးကြားနေစဉ်တွင် လာရောက် တွေ့ဆုံခြင်း မရှိသော ချစ်သူအား အပြစ်ပြောကြ၏။

၁၀။ ဤအရပ်ထဲရှိ အမျိုးသမီးများက သူသည် အကျွန်ုပ်အား နိုးကြားနေစဉ်၌ စွန့်ပစ်၍ ထားသည်ဟု ပြောကြား၏။ကျွန်ုပ် ထင်သည်မှာ သူတို့သည် ကျွန်ုပ်၏ အိပ်မက်ထဲတွင် သူလာ၍ တွေ့သည်ကို သူတို့မမြင်ကြရ၍ ဖြစ်သည်ဟူ၏တည်။

## အခန်း (၁၂၃)

## ညဥ့်မှောင်ရောက်စတွင် ငိုကြွေးရခြင်း။

(အမျိုးသမီး)

၁။ အို- ဆည်းဆာ ပျောက်ကွယ်၍ မသွားပါနှင့်၊သင်သည် မနေ့က ညနေ ဆည်းဆာပင်လော။ မဟုတ်ပါလေ။ သင်ကား ချစ်သူရှိသော အမျိုးသမီးတို့အား သတ်ဖြတ်နေသော ရာသီဥတုသာတည်း။

၂။ အို- မှောင်ရီပျိုးစ ချိန်ဆည်းဆာ၊ သင်သည် ရှည်ကြာပါစေလော့၊ သင့်ကို မမြင်ရပါ။ သင်၏ အဖေါ်ဖြစ်သောသူသည် အကျွန်ုပ်ကဲ့သို့ပင် နှလုံး မာကျောလှပါ၏လော။

၃။ တုန်ယင်စွာဖြင့် မှောင်ရီပျိုး၍ လာသော ချိန်ဆည်းဆာသည်ယခုအခါကျွန်ုပ်အား ဘဝကို မုန်းတီးရန် ဝမ်းနည်းခြင်းကို တိုးပွားရန် ဆောင်ရွက် ယူခဲ့ပါတော့သည်။

၄။ ကျွန်ုပ်၏ ချစ်သူမရှိခိုက်၌ ချိန်ဆည်းဆာ သမားကဲ့သို့ပင်တည်း။

ရောက်ရှိလာခြင်းသည် သားသတ်

၅။ အကျွန်ုပ်ကား နံနက်ခင်းကို မည်သို့ကောင်းမှုပြု၍ မကောင်းမှု ပြုခဲ့ပါသနည်း။

ညနေခင်းကိုမူ အဘယ်

၆။ ကျွန်ုပ်၏ ချစ်လင်ထွက်ခွါမသွားမီ အချိန်များကမူ ၏ ကြေကွဲဘွယ် သဘာဝကို မသိရှိခဲ့ပါ။

ကျွန်ုပ်သည် နေဆည်းဆာ

၇။

ဤရောဂါသည် နံနက်ခင်းတွင် စတင်ဖြစ်ပေါ်၍ တနေကုန် ကြီးမားလာပြီးသော် ညနေပိုင်း၌ အသီးအပွင့် ဖြစ်ထွန်းလာလေတော့သည်။

ဂ။ နွားကျောင်းသား၏ပြေသံသည်ညချမ်းသို့ရောက်တော့မည်ဟူသောအကြောင်း၏ ချွေတော်ပြေး ဖြစ်နေပါသည်၊ ဤသည်ပင် အကျွန်ုပ်အား နှိပ်စက်နေသော လက်နက်ကြီး ဖြစ်တော့သည်။

၉။

ညသည်ရောက်ရှိလာသောအခါ၊ လူတိုင်း၏ စိတ်ကို ရှုပ်ထွေးစေလျက် တရပ်လုံးသည် အာရုံလွှင့်ပျောက်၍ ကြေကွဲခြင်း၌ မေ့မျောကြကုန်တော့မည်၊

၁၀။ ဘဝဆီမီးမငြိမ်းခဲ့သေးသော အကျွန်ုပ်၏ ဘဝသည် ကြောက်မက်ဖွယ်ကောင်းသော ဤညတွင် စီးပွားရေးအလို့ငှာ ထွက်ခွါသွားသည့် သူတယောက်အတွက် စဉ်းစားယင်း လမ်းစ ပျောက်နေပါတော့သည်။

## အခန်း (၁၂၄)

## ကိုယ်၏ အလှတရား ပျက်ပြားခြင်း။

### ( အမျိုးသမီး )

၁။ ကျွန်ုပ်တို့သည် သည်းမခံနိုင်လောက်အောင် ဖြစ်သောကြေကွဲခြင်းတို့ကို ခံစားနေရစဉ်၌ သင့်မျက်လုံးတို့သည် အဝေးသို့ ထွက်ခွါသွားသော သူ့အတွက် ငိုကြွေးနေကြရသည်။ ထိုပြင် မွှေးရနံ့ သင်းသော ပန်းတို့ကို မမြင်တော့လေ။

၂။ အရောင်မှေးမှိန်၍ မျက်ရည်ပေါက် ကြီးငယ် ကျခဲ့ရသော မျက်လုံးတို့သည် ကျွန်ုပ်ချစ်ခင်သော သူ၏ မကြင်နာခြင်းကို တော်လှန်သကဲ့သို့ ရှိလေသည်။

၃။ ကျွန်ုပ်တို့ မွေ့လျော်ပျော်မြူးစဉ်က မို့မောက်၍ ပြည့်ဖြိုးနေခဲ့သော ပုခုံးသားတို့သည် ယခုအခါတွင် လူတို့အား ကျွန်ုပ်တို့ ကွဲကွာသွားပြီဟူသော အချက်ကို ဖေါ်ပြော၍ နေပါတော့သည်။

၄။ ချစ်သူကင်းမဲ့ပြီးသည့်နောက် သင့်ပုခုံးသားတို့သည် ယခင်ကကဲ့သို့ အလှတရားနှင့်ပြည့်ဖြိုးခြင်းတို့သည် ကင်းမဲ့ကြလေကုန်၏၊ သင့်လက်ကောက် သည်လည်း ချောင်၍ သွားခဲ့လေသည်။

၅။ ချောင်သွားသော လက်ကောက်နှင့် အလှတရား ပျက်ယွင်းသွားသော ပုခုံးသားတို့မှာ အကြင်နာကင်းမဲ့သော သူ၏ အကြောင်းကို ဖေါ်ထုတ်၍ ပြောနေသည်ကဲ့သို့ ရှိပါဘိသည်။

၆။ အကျွန်ုပ်သည် သင်က ထိုသူအား ရက်စက်သော သူဟုခေါ်ခြင်းကို နာကျည်းလှပါ၏။ အဘယ်ကြောင့်ဆိုသော် ကျွန်ုပ်၏ ပုခုံးသားတို့သည် ပိန်ချုံးကျလျက် လက်ဝတ်တို့သည် ချောင်၍ ကုန်ပြီဖြစ်သောကြောင့် ပေတည်း။

၇။ အို–ကျွန်ုပ်၏ ဝိညာဉ်၊ သင်သည် ရက်စက်သည်ဟု အများဆိုကြသောသူအား နွမ်းနယ်နေသော ကျွန်ုပ်၏ ပုခုံးသားများ၏ အကြောင်းကို ပြန်လည်ပြောဆို၍ ဂုဏ်ဆောင် နိုင်ပါမည်လော။

၈။ အကျွန်ုပ်သည် သိုင်း၍ ပွေ့ထားသော လက်တို့ကို ဖြေလျှော့လိုက်သည့် အခါ တွင် ရွှေလက်ဝတ်ကို ဆင်ယင်ထားသော မိန်းမပျို၏နဖူးဆံစတို့သည် ညွှတ်ချ၍ သွားပါတော့၏။

၉။ အကျွန်ုပ်တို့ ပွေ့ဖက်ထားသည့် အကြားသို့ လေပြေ လေညှင်းကလေး ဝင်၍ တိုက်လိုက်သည့်အခါ၊ ကြီးမား၍ အေးဆေး တည်ငြိမ်သော သူ့မျက်လုံးကြီး များသည် မှေးမှိန်၍ သွားပါတော့သည်။

၁၀။ တောက်ပြောင်သော နဖူးဆံစများ ညွှတ်ချသည်ကို မြင်၍ မျက်လုံး တို့သည် ဝမ်းနည်း ကြွေလေသလော။



# သိမျူကျုမယ်လ်

## အခန်း (၁၂၅) ဖြစ်အင်ကို ကိုယ်တိုင်ပြန်ပြောခြင်း။

### (အပျိုးသမီး)

၁။ အို- ကျွန်ုပ်၏ ပိညာဉ်၊ သင်သည် ဂဉ်းစားကြံဆ၍ အဘယ်သို့သော ဆေးဝါး သည် အကျွန်ုပ် ယခုခံစားနေရသော ဝေဒနာကို ကင်းပျောက် စေလိမ့်မည်ဟု ပြောပါလော။

၂။ အို - ကျွန်ုပ်၏ ဝိညာဉ်၊ သင်သည် ရှည်ကြာပါစေလော့။ ထိုသူက အချစ်မဲ့ နေ သော ကာလတွင် သင်က အနစ်နာခံရမည်ဆိုသော အချက်ကား၊ ရှုံးမိုက်မှု သက်သက်သာ ဖြစ်ပါ၏။

၃။ အို–ကျွန်ုပ်၏ဝိညာဉ်၊ ဤနေရာတွင်နေ၍ သူ့အားတွေးတောခြင်းဖြင့် အဘယ့်ကြောင့်ခံစား၍ နေပါသနည်း။ သင်၌ဤသို့ ကြေကွဲဝမ်းနည်းရန် သူ့အတွက် တပ်မက်ခြင်းစိတ်တို့သည် မရှိမဟုတ်ပါလော။

၄။ အို–ကျွန်ုပ်၏ ဝိညာဉ်၊ သင်နှင့်အတူ ကျွန်ုပ်၏မျက်လုံးများကို ဆောင်ယူသွားပါလော။ ထိုသို့မှ သင်မယူလျှင် ထိုမျက်လုံးတို့သည် သူ့အား မြင်ချင်ဇောနှင့် အကျွန်ုပ်ကို ဝါးမြိုပစ်ကြပါလိမ့်မည်။

၅ ။

အို–ကျွန်ုပ်၏ဝိညာဉ်၊ သူကအချစ်ခံရသည်ဖြစ်လျက်၊ အကျွန်ုပ်ကို မချစ်ဘဲနှင့် သူသည် မုန်းသည်ဟု ပြောနိုင်ပါသလော။

၆။ အို–ကျွန်ုပ်၏ ဝိညာဉ်၊ မနှစ်သက်မှုကို ကာမဂုဏ်ခံစားရမှုဖြင့် ဖျောက်ဖျက်ပစ်နိုင်သော ကျွန်ုပ်၏ ချစ်သူကို တွေ့ပါကသင်သည် မနှစ်သက်ဘဲ ဆက်၍ပင် ဤအတိုင်းနေလျှင် သင်မှား၏။ သင်ကသူ့အား မနှစ်သက်ခြင်းသည် မမှန်ကန်မှုသက်သက်မျှ ဖြစ်၏။

၇။ အို–ကောင်းမြတ်သော ကျွန်ုပ်၏ ဝိညာဉ်၊ ဂုဏ်တူးဝိသေသကို၎င်း၊ တပ်မက်ခြင်းကို၎င်း လက်လျှော့ပါလော့။ အကျွန်ုပ်သည် နှစ်မျိုးစလုံးကိုပင် ခံနိုင်ရည် မရှိတော့ပေ။

၈။ အို– ကျွန်ုပ်၏ ဝိညာဉ်၊ သင်သည် ရူးမိုက်လှ၏။ သင့်အား အလိုမလိုက်ပါဘဲနှင့် ကျွန်ုပ်အား စွန့်လွှတ်သွားသူတို့၏ နောက်သို့သင်လိုက်၍ သင်သည်ကြေကွဲဝမ်းနည်း၍နေ၏။

၉။ အို–ကျွန်ုပ်၏ ဝိညာဉ်၊ သင်သည် အဘယ်သူ့ကို
သူသည် သင်၏ ရင်တွင်း၌ပင် ရှိနေ၏။

ပြုပြင်မည်နည်း။ ချစ်သော

၁၀။ ကျွန်ုပ်အား မချစ်ခင်တဲ့နှင့် ထွက်ခွါသွားသော သူကို နှလုံးသားတွင် သိုမှီးထားရပါက၊ ကျွန်ုပ်၌ ကျန်ရစ်နေသော အတွင်းအလှတရား တို့ပင်လည်း ဆုံးရှုံးရမည် ဖြစ်ပါ၏။

၁၂၅

# သိရုကုရယ်လ်

အခန်း (၁၂၆)

## ကာယိန္ဒြေ ပျက်ပြားခြင်း။

### ( အမျိုးသမီး )

၁။ တပ်မက်ခြင်း တည်းဟူသော ပုဆိန်သည် ဋ္ဌန္ဒြေရှိခြင်း တည်းဟူသော မင်းတုံးဖြင့် ထိုး၍ ထားသည့် စင်ကြယ်မှု တည်းဟူသော တံခါးကို ချိုးဖေါက်ဖျက်ဆီးနိုင်သည်၊

၂။

ညဥ့်သန်းကောင်ပင် တိုင်သော်လည်း အကျွန်ုပ်၏ စိတ်သည် တပ်မက်ခြင်းဖြင့် ထိုတခုတည်းသောအရာကို ပူပန်နေရသည်။ ဒို့, အကြင်နာ ကင်းစွတကား—

၃။

အကျွန်ုပ်သည် တပ်မက်မှုကို ဖုံးကွယ်ပါမည်။ သို့သော် ထိုသို့ပြုလုပ်ရန်စိတ်နှဆကို ထိန်း၍မရပါ။ နှာချေသကဲ့သို့ ပြင်ပသို့ထွက်၍ လာတတ်ပေသည်။

၄။

ကျွန်ုပ်သည် ခိုင်ခိုင်မာမာ ရှိပါစေတော့မည်ဟု ပြောသော်လည်း ဖုံးကွယ်ထားသော အနာရောဂါမှာ လူ့ရှေ့သူရှေ့တွင် ပေါ်ထွက်လာပေသည်။

၅။

အချစ်နှင့် ပတ်သက်၍ ဝေဒနာခံစားရသူတို့သည် မရှိတော့သော ချစ်သူ၏ နောက်သို့ ပါသွားသော ဂုဏ်ဆောင်ခြင်းကို နားလည်နိုင်သည် မဟုတ်ပေ။

၆။ ထွက်ခွါသွားသော ကျွန်ုပ်၏ ချစ်သူနောက်သို့ လိုက်လျက် စိတ်ကကြွေကျဲဝင်းနည်း နေခြင်းသည် မည်သို့သောနည်းဖြင့် သာလွန်မှု ရှိပါမည်နည်း။

၇။ ကျွန်ုပ်၏ ချစ်သူသည် ကျွန်ုပ်၏ လိုလားသောကိစ္စကို မေတ္တာအား အကြောင်းပြု၍ ပြုလုပ်သောအခါတွင် ရှက်ခြင်းဟူသော တရားကို ကျွန်ုပ်နားမလည်ပါ။

၈။ ကျွန်ုပ်၏ မိန်းမတို့ ကာယိန္ဒြေတည်မြဲမှုကို ဖေါက်ဖျက်၍ သွားသော လှည့်ဖြားတည်သည့် အရာကား ထိုလူလိမ် လူကောက်၏ မက်မောဖွယ်ဖြစ်သော စကားလုံးများပင် မဟုတ်ပါလော။

၉။ ကျွန်ုပ်သည် သူ့အား မနှစ်သက်ဟန်ဆောင်၍ ထွက်သွားမည်ဟု ဆိုခဲ့ပါ၏။ သို့သော် သူ့ကိုမြင်လျှင် သူ့စိတ်ထားနှင့် တသားတည်းဖြစ်၍ ကျွန်ုပ်သည် သူ့အား ပွေ့ဖက်မိ၏။

၁၀။ ဆီတိုသည် မီးတွင် ပျော်တတ်သကဲ့သို့ စိတ်ထားရှိသူတို့၌ အလွန်မချစ်ဟန်၊ မနှစ်သက်ဟန်ဆောင်၍ နေနိုင်ပါမည်လော။

၁၂၆

# ဿဂုကုဂုယ်လ်

## အခန်း (၁၂၇) တဦးနှင့်တဦး

စွဲလန်းတောင့်တခြင်း။

(အမျိုးသမီး)

၁။ သူထွက်သွားသော နေ့ရက်များကို နံရံတွင် လက်ညှိုးဖြင့် ရေးခြစ်မှတ်သား ရသဖြင့် ကျွန်ုပ်၏လက်ညှိုးမှာ တုံး၍ကုန်ပါပြီ။ ကျွန်ုပ်၏ မျက်လုံးများမှာ လည်း တောက်ပခြင်း ကင်း၍ မှေးမှိန်စပြုပါပြီ။

၂။ အို- လှပစွာ တန်ဆာ ဆင်ထားသည့် အမျိုးသမီး၊ ကျွန်ုပ်သည် သူ့အား ယနေ့ မေ့ပျောက်လိုက်ပါက ကျွန်ုပ်၏ ပုခုံးသားများသည် အလှ တရားပျက် ပြားလျက် ကျွန်ုပ်၏ လက်ဝတ်တို့မှာ နောင်ဘဝ၌ပင် ချောင်၍ နေတော့မည်။

၃။

အချစ်တွင် အောင်မြင်၍ သတ္တိကိုလမ်းပြအဖြစ်ထွက်၍ သွားသောသူ ပြန်လာ မည့်ရက်ကို စောင့်မျှော်ယင်းဖြင့် ကျွန်ုပ်အသက်ရှင်၍ နေပါသည်။

၄။ ပျောက်ကွယ်သွားသော ချစ်သူပြန်လာမည်ဟူသော အချက်ကိုတွေးမိလျှင် ကျွန်ုပ်၏ နှလုံးသားနှင့် ကြေကွဲခြင်းတို့၏ ပယ်ရှား၍ အားတက်ဝမ်းသာ ဖြစ်မိပါသည်။

၅ ။

အကျွန်ုပ်သည် ထိုအခါ ချစ်သူအား အားရကြေနပ်အောင် စေ့စေ့ကြည့်ပါမည်။ ပိန်ချုံးနေသော ပုခုံးသားများလည်း လတ်ဆတ်ပြည့်ဖြိုးလာပါလိမ့်မည်။

၆ ။

တနေ့တွင် ကျွန်ုပ်၏ ချစ်လင်ပြန်လာမည်လျှင် ခံစားခဲ့ရသမျှသော ပူလောင်ဆင်းရဲမှုများ ပြေပျောက်စိမ့်သောငှါ ကျွန်ုပ်သည် သူနှင့် ပျော်မွေ့ပါမည်၊

၇။ ကျွန်ုပ်၏ မျက်စေ့ကဲ့သို့ နှစ်သက်မြတ်နိုးသော ချစ်သူပြန်လာသည့် အချိန်တွင် ကျွန်ုပ်သည် စိတ်ဆိုးရမည်လော။ ပြေး၍ဖက်ရမည်လော၊ သို့တည်း မဟုတ် နှစ်မျိုးလုံးကိုပင် ပြုရမည်လော။

( အပျိုးသား )

၈ ။

ဘုရင်တို့သည် တိုက်ခိုက်၍ အောင်ပွဲခံကြပါစေလော့။ ငါမူကား ဇနီးနှင့် ဆုံးစည်း၍ ယှဉ်နေခြင်းပွင့် ပျော်ပွဲဆင်ရပါစေသောဝ်။

ငါ၏ ချစ် ၉။

ချစ်သူ ပြန်လာမည့် လမ်းကို မျှော်ယင်းမဲ့ကြီးမှုဖြင့် စောင့်၍ နေသော ချစ်သူတို့အတွက် တနေ့ဟူသည်မှာ ခုနှစ်ရက်မျှ ရှည်လျားပေ၏။

ဖြေပေးမှ

၁၀။ ကျွန်ုပ်၏ ဇနီးသည်မှာ နှလုံးကွဲ၍ သေဆုံးပြီးနောက်မှ သူသည် ကျွန်ုပ်ကို လက်ခံကြိုဆိုမည် ဆိုသော်၊ သို့တည်းမဟုတ် ဖက်ရမ်းပွေ့ဖက်မည် ဆိုသော် အဘယ်အကျိုး ရှိပါဦးမည်နည်း။



# သိရကုရယ်လ်

**အခန်း (၁၂၈)**

**အချင်းချင်းစိတ်ကိုသိခြင်း။**

**(အမျိုးသား)**

၁။ သင့်ကား သင်၏ စိတ်ဆန္ဒတို့ကို လျှို့ဝှက်ပြား သော်လည်း ဆေးချယ်ထား သော သင်၏ မျက်လုံးတို့ကား သူတို့၏ နယ်နိမိတ်မှ လွန်လျက် ကျွန်ုပ်အားတစုံတရာကို ပြောကြားလျက်ရှိ၏။

( အမျိုးသားက မိန်းမအဖော်အား ပြောခြင်း )

၂။ မကြုံစဖူး ထူးကဲသော အလှတရားသည်ကား သင်၏ အဖော် မိန်းကလေး၏ မိန်းမတို့ဘာဝ ရိုးသားခြင်းနှင့် သူ့ ပုခုံးသားများကား ဝါးဖတ်ကဲ့သို့ အလား တူခြင်းဖြစ်၏၊ သူ့ အလှသည်ကျွန်ုပ်၏ မျက်လုံးအိမ်တွင် ပြည့်လျှမ်း၍နေသည်၊

၃။ ဤအမျိုးသမီး၏ အလှတရားတွင် တစုံတရာ အခြေခံ၍ နေသည်မှာ ကျောက် မြတ်ရတနာများကို သီကုံးထားရာ၌ အတွင်းတွင် သီထားသော ကြိုးကို မြင် နိုင်သကဲ့သို့တည်း၊

၄။ ဤမိန်းကလေး၏ မပွင့်တပွင့်အပြုံးသည် မပွင့်သေးသော ပန်းဖူး ပန်းငုံကလေး မှထွက်သော ရနံ့နှင့် တူလှပေသည်။

၅။ ထွက်သွားသော သူမ၏ လက်ဆစ်တွင် ဝတ်ထားသော လက်ကောက်များ သည် ကျွန်ုပ်၏ ကြေကွဲခြင်းကို ကုသရန် ပျောက်နိုင်သော ဆေးဖြစ်ပါ၏။

( အမျိုးသမီးက မိန်းမအဖော်အား တဦးတည်းပြောခြင်း )

၆။ အကျွန်ုပ်အား ကြည်ရှွင်ရန် ပွေ့ဖက်ခြင်းများသည် အကျွန်ုပ်အား ယခင်က ကြေကွဲရခြင်းများကို တာရှည်စေ၍ သူ၏ နှစ်လိုသော မေတ္တာများကို သတိရမိ စေပါသည်၊

၇။ သူ၏မြေခြင်းများကို သိသောကျွန်ုပ်၏ လည်ဆွဲများသည် သူနှင့် ကွေကွဲရခြင်း များကို ကျွန်ုပ်ထက်ပင် စော၍ပင် သတိပြုမိပါ၏၊

၈။ ချစ်သူကား မနေ့က ကျွန်ုပ်ကို စွန့်ခွါခဲ့၏၊ ကျွန်ုပ်၏ အသားအရေ များမှာ မူကား ခြောက်ခန်းခဲ့သည်မှာ ခုနစ်ရက် ရှိလေပြီ။

( အဖော်အမျိုးသမီးက အမျိုးသားအား ပြောခြင်း )

၉။ သူမသည် မိမိ၏ လက်ဆွဲကိုငင်း၊ နုနယ်သောပခုံးသားများကိုငင်း၊ ခြေဖဝါးကို ငင်းကြည့်၏။ ထိုနေရာတွင် ဤသို့အထင်အရှားပြုလေသည်။

( အမျိုးသားက အဖော်မိန်းမအားပြောခြင်း )

၁၀။ အချစ်ကြောင့် ကြေကွဲရခြင်းကို မျက်လုံးများနှင့် ဖော်ပြခြင်းနှင့် တိုးလျှိုး တောင်းပန် တတ်ခြင်းကို အားကိုးခြင်းတို့မှာ သာမာန်မိန်းမတို့ထက် လွန်ကဲ ခြင်းကို ပြပေသည်၊

ယိ ပျု ဟု ဖျ ယ် ယ်

**အခန်း (၁၂၉)** ကာပဂုဏ်

ခံစားရန် တောင့်တခြင်း။

( အမျိုးသမီး )

၁။ တွေးတောရသဖြင့် ပိတ်ချမ်းသာခြင်း၊ မြင်တွေ့ရသဖြင့် ကြည်နူးခြင်းတို့မှာ သေရည်အားမဟုတ်၊ တပ်မက်ခြင်းကိုပင် ဖြစ်သည်။

၂။ အမျိုးသမီးတို့တွင် ထန်းပင်ကဲ့သို့ ကြီးပွားသော တပ်မက်ခြင်းမျိုးမှုပါက၊ သူတို့တွင် ပြောင်းစေ့ခန့်မျှပင် မနှစ်မြို့ဟန်ဆောင်ခြင်း ရှိမည်မဟုတ်ပေ။

၃။ အကျွန်ုပ်၏ မျက်လုံးများသည် အကျွန်ုပ်ကို ဂရုမထားဘဲ ခင်ပွန်းသည်အား နှစ်သက်စေရန် ပြုခြင်းဖြင့် အချိန်ကုန်ပါ၏။ သို့သော်သူ့အား မတွေ့ရလျှင် မကြေနပ်နိုင်ကြပေ။

၄။ အို့ ချစ်ဆွေ – ကျွန်ုပ်သည် မနှစ်သက်ဟန်ဆောင်ရန် အသင့်ပြင်ထားခဲ့၏၊ သို့သော် ထိုအချက်ကို မေ့လျော့လျက် သူ့အား ပွေ့ဖက်ရန်အဆင်သင့် ဖြစ်နေပါ၏။

၅။

မျက်လုံးတို့သည် မျက်ရစ်၌ဆေးရေးသော ခဲတံကို မမြင်သကဲ့သို့ အကျွန်ုပ်သည်လည်း ကျွန်ုပ် ခင်ပွန်းသည်၏ အဖြစ်တို့ကို သူနှင့် တွေ့သောအခါ မမြင်နိုင်တော့ပေ။

၆။ အကျွန်ုပ်သည် ခင်ပွန်းသည်နှင့် တွေ့သောအခါ အပြစ်အစုံတရာကို မတွေ့ပါ။ သို့သော် သူ့အား မတွေ့ရသောအခါ အပြစ်များမှတပါး ဘာကိုမျှ မတွေ့ရတော့ပါ။

၇။ လူတို့သည် မျှောပါသွားမည်ကိုသိလျက် ချောင်းထဲသို့ခုန်၍ ချရသကဲ့သို့ မိန်းမတို့သည်လည်း မိမိတို့ကြာရှည် တိန်းသိမ်းမထားနိုင်ခြင်းကို သိလျက်နှင့် အဘယ်ကြောင့် မချစ်ဟန် ဆောင်နေမည်နည်း။

၈။ အို–လီမ်လည် လှည့်ဖြားတတ်သောလူ၊ သင်၏ရင်အုပ်တို့သည် သေရည်ကြိုက်တတ်သော သူတို့အတွက် သေရည်ကဲ့သို့ပင် မွှေ့လျော်ကြ၏။ မတင့်မတယ်ဖြစ်စေသော်လည်း သေရည်ကြိုက်သူတို့သည် သေရည်ကို နှစ်ခြိုက်မက်မောကြသကဲ့သို့ပင်တည်း။

(အမျိုးသား)

၉။ ကာမဂုဏ် ချမ်းသာ ဟူသည် ပန်းတပွင့်ထက်ပင် သိမ်မွေ့နုနယ်သေး၏။ ထိုအချက်၏ တကယ့်သဘာဝကို လူအနည်းငယ်တို့သာ သိရှိကြပေသည်။

၁၀။ သူမသည် တကြိမ်က မနှစ်သက်ဟန်ပြုခဲ့ပုံကို သူ့မျက်လုံးများတွင် တွေ့ခဲ့ပါ၏။ သို့သော်လည်း သူမ၏ ပွေ့ဖက်ခြင်းတို့သည် အကျွန်ုပ်ထက်ပင် လွန်ကဲလေသည်။



သီရုကုရယ်လ်

## အခန်း (၁၃၀)
## မိမိကိုယ်ကို မနှစ်သက်ခြင်း။

( အမျိုးသမီး )

၁။

အို– အကျွန်ုပ် ဝိညာဉ်၊ သူ၏ ဝိညာဉ်သည် သူ့ အပေါ်တွင် ရှိသည်ကို မြင်ပါလျက် သင်ကား အကျွန်ုပ်၏ အပေါ်တွင် အဘယ့်ကြောင့် မနေသနည်း။

၂။ အို– ကျွန်ုပ်၏ ဝိညာဉ်၊ သင်သည် သူက ကျွန်ုပ်အား မချစ်သည်ကိုသိလျက် သူ့ ထံသို့ သွား၍မြဲသွား၍ သူကား မနှစ်သက်ခြင်းရှိလိမ့်မည် မဟုတ်ဟု အဘယ့်ကြောင့် ပြောပါသနည်း။

၃။

အို– ကျွန်ုပ်၏ ဝိညာဉ်၊ သင်သည် ပျက်စီးနေသောသူ၌ မိတ်ဆွေ မရှိဟူသော သဘောဖြင့် သူ့ နောက်သို့ နှစ်သက်စွာ တကောက်ကောက် လိုက်နေသလော။

၄။ အို-ကျွန်ုပ်ဝိညာဉ်၊ သင်သည် ပဌမတွင် သုန်မှုန်ခြင်းမရှိ၊ ထိုနောက်တွင် သူ့အား နှစ်သက်သွား၏၊ သင့်အား နောင်အခါတွင် ဤကိစ္စမျိုးတွင် အဘယ်သို့တိုင်ပင် ရမည်နည်း။

၅။ ကျွန်ုပ်၏ဝိညာဉ်သည် သူ့မရှိသောအခါတွင် ကြောက်ရွံ့စိုးရိမ်ရ၏၊သူနှင့်အတူ ရှိသော အခါတွင်လည်း ကြောက်ရွံ့ စိုးရိမ်နေရ၏။ ၎င်းမှာ အစဉ်သဖြင့် ဝမ်း နည်းရ၏။

၆။ ကျွန်ုပ်၏စိတ်နှလုံးကား မည်သည့်အခါမဆို တကိုယ်ထည်းတည်းဖြင့် သူ့အား တွေ့တောမိသောအခါ ကျွန်ုပ်၏ ကိုယ်ကို ဝါးမြိုရန်သာ အသုံးကျပါ၏။

၇။ အကျွန်ုပ်သည် သူ့အား မမေ့ပျောက်နိုင်ခြင်းဖြင့် ဂုဏ်မာနမတက်တတ် သည်ကို အကြောင်းပြု၍ ရှူးလည်းရှူးမိုက်ပါ၏၊ ဣန္ဒြေကိုလည်း မေ့လျော့ပါ၏။

၈။ ဘဝကို နှစ်သက်သော ကျွန်ုပ်၏ဝိညဉ်သည် သူ၏ ကောင်းကျိုး ချမ်းသာ အတွက်သာ တွေး၍ သူ့အား စက်ဆုပ်မိလျှင် သူ၌ မတင့်မတယ် ဖြစ်မည်ကို ထင်မိလေသည်။

(အမျိုးသား)

၉။ အကြင်သူသည် မိမိ၏ဝိညာဉ်ကမှ မိမိအား ကူညီရန်ငြင်းပယ်လျှင် အရေး ကိစ္စတခု၌ အဘယ်သူကလာ၍ အကူအညီ ပေးပါမည်နည်း။

၁၀။ သူစိမ်းတို့သည် ဆွေမျိုးတို့ကဲ့သို့ ကျင့်ကြံရန်မှာ အကြင်သူတဦး၌ မိမိ၏ဝိညာဉ် ကိုယ်၌ပင် စိမ်းကားနေပါက၊ ဖြစ်နိုင်မည် မဟုတ်ပေ။



သိရုကုရယလ

အခန်း ၁၃၁။

မချစ်ဟန်ပြုခြင်း။

## အမျိုးသမီးချင်း

၁။

သူ့အား မပွေ့မဖက်ဘဲ မချစ်ဟန်ဆောင် နေခြင်းကြောင့် သူသည် ပင်ပမ်းဆင်းရဲခြင်း ဖြစ်ရသည်ကို ကျွန်ုပ်တို့ ခဏအားဖြင့် စောင့်ကြည့်ကြစို့။

၂။

မချစ်ဟန်ပြုခြင်း အနည်းငယ်သည် ဆားသင့်ရုံ ခပ်ထားခြင်းနှင့် တူ၏။ မချစ်ဟန်ပြုခြင်း ရှည်ကြာသွားသောအခါ ဆားများလွန်အောင် ခပ်မိခြင်းနှင့် တူ၏။

( ဇနီးသည်က ခင်ပွန်းအား မနာလိုစိတ်ဖြင့် )

၃။

မချစ်ဟန်ဆောင် သူတို့အား မပွေ့မဖက်ဘဲ နေသော ယောကျ်ားတို့သည် ဆင်းရဲခြင်း ဒုက္ခကို ခံနေရသူတို့အား နှိပ်စက်သည် နှင့်တူ၏။

၄ ။

မချစ်ဟန်ဆောင်နေသူတို့အား ချော့မော့ နှစ်သိမ့်ခြင်း မပြုခြင်းသည် နွမ်းနယ်နေသော နွယ်ပင်အား အမြစ်ကဖြတ်ခြင်း နှင့်တူ၏။

## (ခင်ပွန်းသည်က မိမိကိုယ်ကို ပြောခြင်း။)

၅ ။

မျက်လုံးတို့၌ရှက်ကြောက်ခြင်းတို့လွှမ်းကဲနေခြင်းကို တွေ့ရခြင်းသည် ယောကျ်ားကောင်းခင်ပွန်းကောင်းတို့၌ ပန်းကလေးကဲ့သို့ လှ၍ နေသည်။

၆။ အလွန် မရှည်ကြာဘဲ၊ မနှစ်သက်ခြင်း အနည်းငယ်မျှ မစွက်သော ကာမဂုဏ်စည်းစိမ်သည် အလွန်မှည့်သော သစ်သီးမျိုး အဖြစ်ငှင်း၊ မမှည့်သေးသော သစ်သီး အဖြစ်မျိုးငှင်း တူလှပေသည်။

၇။ ကာမဂုဏ် စည်းစိမ်ကို ချက်ချင်း စတင်ရမည်လော၊ စောင့်ဆိုင်း ရမည်လော ဟူသော ပြဿနာမှာ မချစ်ဟန် ဆောင်သူတို့အတွက်ပင်လျှင် ဝမ်းနည်းဘွယ်ဖြစ်၏။

(ဇနီးသည်၏ စကားကိုကြားပြီး ခင်ပွန်းသည်က မိမိကိုယ်ကိုပြောခြင်း)

၈။ ကျွန်ုပ်၏ စိတ်ဆင်းရဲရခြင်း အကြောင်းကို နားလည်ဂတ်သည့် ဇနီးသည် မရှိသောအခါ၌ စိတ်ဆင်းရဲခြင်းသည် အဘယ်သို့ ပြုနိုင်မည်နည်း။

၉။ အရိပ်တွင် ကျရောက်သော ရေပြင်ကဲ့သို့ မနှစ်သက်ခြင်း ဟူသည်မှာ ချစ်သူတို့အတွက်သာလျှင် ချိုမြိန်၏။

၁၀။ ကျွန်ုပ်၏ မနှစ်သက်ခြင်းဟန်ကို ဤအတိုင်း ထားရှိတတ်သော သူနှင့် သာလျှင် ကျွန်ုပ်၏ တက်ကြွသောဆန္ဒတို့သည် နှစ်ခြိုက် ပူးပေါင်းမိ၏။



# သိရုကုရယ်လ်

## အခန်း (၁၃ ၂)

## အသေးအဖွဲ့များကို မနှစ်သက်ခြင်း။

### ( အမျိုးသမီး )

၁။ သင်၏ အလှဲသုံးစားပြုခြင်း ခံရသည် မိန်းမသား အဖြစ် မွေးဖွားလာသောသူတို့သည် သင့်အား မျက်လုံးများဖြင့် ကြည့်ယင်း အာရုံခံ စားကြ၏။ ကျွန်ုပ်ကမူ သင့်အား ပွေ့ဖက်မည်မဟုတ်ပေ။

၂။ ကျွန်ုပ်သည် ဆက်လက်၍ သုန်မှုန်နေသောအခါသူသည် ကျွန်ုပ်က သူ့အား အသက် ရာကျော် ရှည်ပါစေရန် ဆန္ဒပြုမည်အထင်နှင့် နှာချေ၏။

### ( အမျိုးသား )

၃။ ကျွန်ုပ်သည် ပန်းတခိုင်လုံးမျှဖြင့် ကိုင်တွယ် ဆင်ယင်ထားစေကာမူလည်း သူမက ပြောသည်မှာ ဤသို့ ပူရခြင်းသည် အခြား မိန်းကလေးအား ပြရန်အတွက် ဖြစ်သည်ဟူ၏။

၄။ ကျွန်ုပ်ကသူ့အား အခြားမိန်းကလေးများထက် ချစ်သည်ဟု ပြောသောအခါ သူသည် "အခြားမိန်းကလေးများထက် ချစ်ပါပေသည်" ဟု ပြော၍ သုန်မှုန်မြဲ သုန်မှုန်နေသည်။

၅။ ကျွန်ုပ်က ဤဘဝတွင် သူ့အားမည်သည့်အခါမှ ပြစ်ခွါမသွားပါဟု ပြောသောအခါ သူ့ မျက်လုံးအိမ်များတွင် မျက်ရည်တို့ဖြင့် ပြည့်၍နေ၏။

၆။ ကျွန်ုပ်က သူ့အား သတိရပါသည်ဟု ပြောအခါ၊ သူမက ကျွန်ုပ်သည် သူ့ကို မေ့လျော့နေသည်ဟု ဆိုလျက် ပွဲ့ဖက်ခြင်းကို ဖြေလျော့လိုက်၏။ ထိုနောက် မနှစ်သက်ဟန် ဆောင်လေ တော့သည်။

၇။ ကျွန်ုပ်က နှာချေသောအခါ သူသည် ကျွန်ုပ်အား ကောင်းရာကို ဆုတောင်း၏။ သို့သော် တချိန်တည်းမှာပင် စိတ်ကို ပြောင်းလျက် ငိုကြွေးပြီးသော် "ဘယ်သူ့ စိတ်ကူး၍ နှာချေသနည်း" ဟု ဆိုလေသေးသည်။

၈။ ကျွန်ုပ်သည် နှာမချေဆတ်မိရန် အောင့်၍ထားသောအခါ သူမသည် ငိုယိုလျက် သင်သည်။ "သင့်လူများအား အမှတ်ရသည်ကို ကျွန်ုပ်မသိအောင် လျှို့ဝှက်ထားခြင်းပင်" ဟု ပြောပြန်၏။

၉။ အကျွန်ုပ်က သူ၏ မနှစ်သက်ခြင်းကို ကြိုးစား၍ ဖြေဖျောက်သော အခါတွင်လည်း သူသည်မကျေနပ်နိုင်ဘဲ "ဤနည်းဖြင့် သင်သည်အခြားမိန်းကလေးများကိုလည်း ချော့မော့သည် မဟုတ်လော" ဟု ဆိုပြန်သည်။

၁၀။ ကျွန်ုပ်သည် သူ့အလှကို တစိမ့်စိမ့်ကြည့်၍ နေပြန်သောအခါတွင်လည်း သူသည်မနှစ်သက်နိုင်ဘဲ၊ "အဘယ်သူ့အားစိတ်ကူး၍ ဤသို့ကျွန်ုပ်ကို စိမ်းစိမ်း ကြည့်ပါသနည်း" ဟု ဆိုပြန်၏။



သီရိကုရယ်လ်

## အခန်း (၁၃၃)

## မနှစ်သက်ဟန် ဆောင်ခြင်း၏ ကြည်ရှင်မှု။

(အမျိုးသမီး)

၁။

ကျွန်ုပ်၏ ချစ်သူသည် ချွတ်ယွင်းချက်များ မရှိစေကာမူ၊ သူသည် ပွေ့ဖက်ပုံသည် ကျွန်ုပ်ကို မချစ်ဟန် ဆောင်စေလေသည်။

ကျွန်ုပ်အား

၂။

ကျွန်ုပ်၏ မနှစ်သက်ဟန်ကို အကြောင်းပြု၍ သူ၏ အချစ်မှာ ပဌမတွင် ခဏတာ စိတ်ပျက်ခဲ့ရသော်လည်း ယခုသော် တနေ့ထက်ခြား ပွားများမည် ဖြစ်ပါ၏။

၃။

ရေနှင့်မြေကဲ့သို့ ပေါင်းစပ်ဆက်သွယ်သော သူနှစ်ဦး၏ မနှစ်မြို့ဟန်ကို အကြည် အသာ လက်ခံနိုင်သော ကောင်းကင်ဘုံ တနေရာဟူ၍ ရှိပါသလော။

၄။

ပွေ့ဖက်ပြီးသည့်နောက် ကြာရှည်စွာ မနှစ်သက်ဟန် ပေါ်ရခြင်းသည် ၏ နှလုံးသားကို ထိုးဖေါက်နိုင်သော အားနည်းမှု ဖြစ်၏။

ကျွန်ုပ်

(အမျိုးသား)

၅။ ယောကျ်ားတို့သည် ချွတ်ယွင်းချက် ကင်းစင်သော်ငြားလည်း မိမိတို့ချစ်သူ၏ နူးညံ့သော ပုခုံးသားများကို မပွေ့ဖက်နိုင်သောအခါ နှစ်သက်ခြင်းတမျိုး ရှိရ၏။

၆။ စားပြီးသော အစာတို့ကို ကြေညက်ရန် ပြုခြင်းသည် ထပ်၍ စားခြင်းထက်ပို၍ ကြည်ရှင်ဘွယ်ဖြစ်၏။ ထို့နည်းအတူ အချစ်သည်လည်း နီးနှောစပ်ယှက်၍ နေခြင်းထက် မနှစ်မြို့ခြင်းကပို၍ ကြည်ရှင်ဘွယ်ဖြစ်၏။

၇။

အောင်နိုင်သော သူတို့ကား အချစ်ရေးတွင် ဦးစွာအရှုံးပေးသူတို့ ဖြစ်ကြောင်း နောင်အခါ သင့်မြတ်သွားသောအခါ၌ တွေ့ရ၏။

၈။

ကျွန်ုပ်သည် သူမ၏ မနှစ်သက်ဟန်ကို အခြေပြု၍ နဖူးဆံစများတွင် ချွေးစို့လာသည်အထိဖြစ်သော ချစ်ခင်ရခြင်းကို နောက်တကြိမ် ခံစားနိုင်ပါမည်လော။

၉။

ရတနာတို့ဖြင့် တန်ဆာဆင်ထားသောအမျိုးသမီးသည် မနှစ်သက်ဟန်ပြုပါစေ။ ကျွန်ုပ်သည် သူ့အား ချော့မော့နိုင်ရန် ညတာကိုလည်း ရှည်လျားပါစေလော။
၁၀။

မနှစ်မြို့ဟန်သည် ချစ်ခြင်းတွင် ကြည့်ရှုမှုကို ပေါင်း၍ပေး၏။ ထို့နောက်တွင် စိတ်ပါလက်ပါ ပွေ့ဖက်ခြင်းသည် မနှစ်မြို့ခြင်းကို နှစ်မြို့ခြင်းဖြင့် ပေါင်းစပ်ပေးပေသည်။

ပြီး၏။

၁၃၃။



## ဂုဏ်အချင်းအရာများ ဆိုင်ရာကဏ္ဍ

### အခန်း ၁။

၁။ ကကြီးသည် အစအဦး ဖြစ်သကဲ့သို့ ဟူရာ၌ ကကြီးဟူသော အက္ခရာ တလုံးကိုသာမဟုတ်ဘဲ၊ အင်္ဂလိပ်ဘာသာ၌အေအက္ခရာ၊ ဂရိဘာသာ၌ အယ်လဖါ အက္ခရာစသည်ဖြင့် အက္ခရာစဉ်တို့တွင် ရှေ့ဆုံးက စကားလုံးကို ဆိုလိုပေသည်။ ဤသို့ အက္ခရာများ၌ ရှေ့ကနေသည့် နည်းတူမိမိယုံမှတ် ကိုးကွယ်သော ဘုရားရှင်အား တင်စား ဖွဲ့နွဲ့ထားခြင်း ဖြစ်သည်။

ဘုရားရှင်အား အစအဦး ပုဂ္ဂိုလ် အဖြစ် ဂုဏ်ပြုကြရာ၌ "ဤကမ္ဘာလောကကြီးတွင် ဘုရားရှင်သည် အယ်လဖါ ( ဂရိအက္ခရာအစ ) လည်းဖြစ်သည်၊ အိုမီဂါ (ဂရိအက္ခရာအဆုံး) လည်း ဖြစ်သည်ဟု ကွားလ်စ်က ဆိုခဲ့လေသည်၊ အရာအားလုံးတို့သည် ဘုရားရှင်၏ ပစ္စည်းများ ဖြစ်သည်ဟု လောင်းဖဲလိုးက ဆိုခဲ့သည်။ အစ္စလာမ် ဘာသာဝင်တို့ကလည်း သူတို့၏ ဘုရားဖြစ်သော အလ္လာဟု အရှင်ကို ချီးမွမ်းဂုဏ်ပြုရာ၌ "ကမ္ဘာ အားလုံးတို့၏ အရှင်ဖြစ်သော အလ္လာဟု အရှင်အား ချီးကျူး ပူဇော် ပါလေ၌"ဟု ကုရ်အာန် ကျမ်းစာတွင် ပြဆိုထားပေသည်။

၂။ ဤအပိုဒ်ပါအဆိုအမိန့်နှင့် ညီညွတ်သောပုဂ္ဂိုလ်မှာ မီလတန်ဖြစ်သည်။မီလတန်က "လေ့လာသင်ကြားမှုတို့၏ လမ်းဆုံးသည်ဘုရားရှင်အားသိမြင်ခြင်းနှင့် ချစ်ခင်ရှိသေခြင်းတို့ဖြစ်လေသည်"ဟု ဆိုခဲ့ဘူးပေသည်။ တိုးရင်းဆိုသူက "ဘုရားရှင်သည် ဉာဏ်ပညာဖြစ်၏။ ဘုရားရှင်သည် မေတ္တာတော် ဖြစ်သည်"ဟု ဆိုခဲ့ပေသည်။

၃။ "ဘုရားရှင်သည် လူတိုင်း၏ ကိုယ်အတွင်းသို့ ကိုယ်ပိုင် တံခါးဖြင့် ဝင်ရောက်လာသည်"ဟု အီမာဆင်က ဆိုလေသည်။

၄။

"ဘုရားရှင်တဦးတည်းသာလျှင် လိုအင်ဆန္ဒအားလုံးတို့မှ ကင်းငြိမ်း ပေသည်". ဟု ပလူးတပ်ချ်က ပြောခဲ့ပေသည်။

၅။ "အမှောင်ကို အားပြုသော အဖြစ်နှစ်မျိုး" ဟု ဆိုရာတွင် ကောင်းသော အမှုသည် ဂုဏ်၊ ဆိုးသောအမှုသည်ဂုဏ်၊ ဝိညာဉ်အား နှောင်ဖွဲ့တတ်ပေသည်ဟု ဆိုသည်။ ထိုလုပ်ရပ်နှစ်မျိုးစလုံးကို ပယ်ရှားနိုင်မှ သာလျှင် လူ့ဘဝ၏မှန်မြတ်စွာသော ရည်မှန်းချက် ပန်းတိုင်သို့ ရောက်မည်ဟု ဆိုသည်။

ဆံလံကျမ်းထဲတွင် "ကျွန်ုပ်၏ဘုရားသခင်ဖြစ်သော ထာဝရဘုရားသည် သာ၍အမှောင်ကို ပယ်ရှင်း၍ အလင်းကို ဆောင်လိမ့်မည်" ဟု ဆိုထားပေသည်။

19

၆။ တီ၊အယ်(လ်) စူးယား ဆိုသူက "ကျွန်ုပ်တို့သည် ဘုရားရှင်၏ လမ်းစဉ်အတိုင်း ကျင့်ကြံသွားပါလျှင် ဘုရားရှင်ကလည်း ကူညီထောက်ပံ့ လိမ့်မည်"ဟု ဆိုသည်။

၇။ ဖင်နီလုံဆိုသူက "ဘုရားရှင်သည်ရွှေတော်မှောက်သို့ရောက်ရှိနေခြင်းဖြင့်ဝိညာဉ်ကို ထည့်ငြိမ်စေလျက် ငြိမ်းချမ်းခြင်းနှင့် နားနေခြင်းကို ဖန်တည်းပေးပေမည်" ဟု ဆို၏။

၈။ ရစ်ချတ်ဖူးလားဆိုသူက "ထာဝရ ဘုရားရှင် သစ္စာမှန်ကန်ခြင်းနှင့် မြဲမြံခြင်းတို့သည် ကြီးစွာသော နက်ရှိုင်းမှုကြီးပေတည်း၊ ယင်းသည်ပင် သမုဒ္ဒရာကြီးနှင့် ပုံနှိုင်းလောက် ပေသည်"ဟု ဆိုထားသည်။

၉။ ရှစ်ပါးသော ဂုဏ်တော်တို့နှင့် ပြည့်စုံတော်မူသော ဘုရားရှင်ဟုဆိုရာ၌ အောက်ပါ ဂုဏ်အချင်းအရာများ ဖြစ်လေသည်။

(၁) မိမိကိုယ်ကို သာအားကိုးခြင်း။ (၃) ပင်ကိုယ်နားလည်မှု ရှိခြင်း။ (၄) နေရာ အားလုံးကို သိရှိခြင်း။ (၅) သံယောဇဉ် တို့မှ ကင်းလွတ်ခြင်း။ (၆)အတိုင်းမသိ တင့်တယ်ခြင်း၊ (၇)နေရာအားလုံး၌ ပျံ့နှံ့ခြင်း။ (၈)ကောင်းချီး မင်္ဂလာ အပြားပြားတို့နှင့် ပြည့်စုံခြင်း ဖြစ်လေသည်။

ဂျိန်းဘာသာဝင်တို့ကလည်း မိမိတို့၏ အာရဟတ်ကို အောက်ပါ အရည်အချင်းအဖြစ်မျိုးနှင့် ပြည့်စုံသည်ဟု ဆိုထား၏။

ယင်းတို့မှာ (၁)အတိုင်းမသိသော ဉာဏ်ပညာရှိခြင်း၊ (၂)အတိုင်း မသိသောမြော်မြင်ဉာဏ် ရှိခြင်း၊ (၃)အတိုင်းမသိသော စွမ်းအားရှိခြင်း၊ (၄)အတိုင်းမသိသော ပျော်ရွှင်ချမ်းသာမှု ရှိခြင်း၊ (၅)ပေါ်မပြနိုင်လောက်သော ဖြစ်တည်မှုရှိ ခြင်း၊ (၆)အစပထမ၌ မရှိခြင်း၊ (၇)ကာလအပိုင်းအခြား သက်တမ်းဟူ၍မရှိခြင်း၊ (၈)မသေ မပျောက်နိုင်ခြင်းတို့ ဖြစ်လေသည်။

(၁၀) သံသရာ ဟူသည်မှာ ပင်လယ်ပြင်ကြီးကဲ့သို့ မကူးနိုင် မဖြတ်နိုင်အောင် ကျယ်ဝန်းသော ဝဲဩဃ ကြီးကို ဆိုလိုပေသည်။

## အခန်း ၂။

၁။ ဤအခန်းမှာ မိုးရွာသွန်းခြင်း၏ အရေးကြီးပုံကို ဖေါ်ပြထား၍ မိုးသည် ဘုရားရှင် ဖန်တည်းအပ်သော လက်ဆောင်မွန် ဖြစ်သည်ဟု ယူဆလျက် ဘုရားရှင်နှင့် တွဲဖက်၍ ဖေါ်ပြလေသည်။ မိုးလေမှန်မှသာလျှင် ပုထုဇဉ်အပေါင်းတို့ ချမ်းသာစွာ နေထိုင်စားသောက် နိုင်ကြလေသည်။

ကုရယ်လ်အဖွင့် ၁၃၇

စပိန်စကားပုံ၌ "ဘုရားသခင် သဘောတော် ကျသောအခါ ရာသီဥတု ကောင်းမွန်သဖြင့် မိုးရွာသွန်းလေသည်"ဟု ဆိုရိုးရှိလေသည်။

သမ္မာကျမ်းစာ၌လည်း "ကိုယ်တော်သည် ဖြတ်ထားသော မြက်ခင်းများ ပေါ်သို့ မိုးကဲ့သို့ ကျဆင်းလာလိမ့်မည်။ မိုးသည် မြေအပြင်သို့ သွန်းဖြိုး သကဲ့သို့ ပင်တည်း"ဟု ဆိုထားလေသည်။

စကားပုံများဟူသော သမ္မာကျမ်းစာ၏ အခန်း၌လည်း "ကိုယ်တော်၏ ဥာဏ်ပညာကြောင့် နက်ရှိုင်းခြင်း မှန်သမျှတို့ပြိုကွဲ၍ မိုးတိမ်တို့သည် ရွာသွန်း ရန် ရှိသည်တို့ကို ရွာ၍ ချရလေသည်"ဟု ဆိုထားလေသည်။

သမ္မာကျမ်းစာသစ်၌လည်း "ကိုယ်တော်သည် တရားသူ များအားငင်း၊ မတရားသူများအားငင်း၊ ၎င်းတို့၏ အပေါ်သို့ မိုးရွာသွန်းစေပေသည်"ဟု ဆို လေသည်။

၃။ ဘဂဝတ်ဂီတာကျမ်းကြီးတွင် "လူတို့သည် သက်ရှင်ရပ်တည်ရန်အလို့ငှာ အ စာရေစာကို အားကိုးရသည်။ အစာရေစာ၏ ဖြစ်တည်ရာမှာ မိုးပင်ဖြစ်သည်" ဟု ထားဆိုထားလေသည်။

---

## အခန်း—၃။

၁။ ဤအခန်းမှာ ရသေ့ရဟန်းတို့၏ ကြီးမြင့် မွန်မြတ်မှုကို ပြဆိုထားလေသည်။ ထိုပုဂ္ဂိုလ်တို့အား ဆည်းကပ်ရာ၌ ဘုရားရှင်အား ဆည်းကပ်သကဲ့သို့ပင် အတွယ် အတာမရှိ၊ ဆည်းကပ်အပ်ကြောင်း ဆိုထားပေသည်။ ရသေ့ရဟန်းတို့မှာ ထွယ်တာ စရာရှိသည်တို့ကို စွန့်လွှတ်ခဲ့သည် ဖြစ်သောကြောင့် ကြီးမြတ်ခြင်းကို ရရှိပေသည်။

၂။ ဘဂဝတ်ဂီတာ ကျမ်းတွင် ပြဆိုထားသည်မှာ "အကြင်သူသည်အာရုံ ငါးပါးလုံးကို ထိန်းသိမ်းလျက် ငါ၏ ထံသို့သာ မခြားသော စိတ်ဖြင့် အာရုံပြုနိုင်လျှင် ထိုသူသည် ဘုရားရှင်နှင့် သက်ဆိုင်သော ဉာဏ်ပညာမျိုးကို ရရှိပေသည်" ဟုဆို၏။

၆။ ဂျွန်ဖလက်ချာဆိုသူက "ကြီးမြင့် မွန်မြတ်သော အမှုတို့သည်ကြီးမြင့် မွန်မြတ်သော စိတ်ထားကိုဖော်ပြ၍ နေပေသည်။ ထိုပုဂ္ဂိုလ်မျိုးသာလျှင် အုပ်စိုးသမှု ပြုအပ်ပေသည်"ဟု ဆိုလေသည်။

အေမီယယ်လ်ဆိုသူက "မဖြစ်နိုင်မည်ကို ပါရမီအရ ပြုလုပ်နိုင်သည့်သူအား ပါရမီရှင် လူထူးဟု ခေါ်အပ်ပေသည်"ဟု ဆိုထားလေသည်။

ရှိတ်စပီးယား၏ စာတခုတွင် "ငါ၏ အပြုအမူတို့သည် ငါ၏ တန်ဘိုးကို သက်သေ တည်ရာ ဖြစ်ပါစေလော"ဟု ဆိုလေသည်။

၃၃၇ **ကုရယ်လ်အဖွင့်**

## ၉။ သည်းခံတတ်သောသူ၏ အမျက်ထွက်ခြင်းကို က ဆို၏။

## သတိပြုလေလော့ဟု ဒါရိုက်တင်

ရိုးကမူ "ဒေါသဖြစ်ခြင်းသည် ကျွန်ုပ်တို့ဝိညာဉ်များ၏အတိုဆုံးသောလှုပ်ရှားမှုဖြစ်၏။ အလွန်ပင် အတက်မြန်၍ အကျလည်း မြန်သည်" ဟု ဆိုပေသည်။

### စိုင်းရပ်စ်က "သူတော်ကောင်းတို့၏ ထန်ဆုံး ဖြစ်လေသည်" ဟု ဆိုသည်။

## စိတ်ဆိုးခြင်းမှာ ခံယူရန် အပြင်း

---

### အခန်း—၄။

၁။ ကောင်းမြတ်ခြင်း ဆိုသည်မှာ စွမ်းအားထရပ်ဖြစ်ကြောင်း ဤအခန်း၌ ပြဆိုသည်။ ကောင်းမြတ်ခြင်းအနေကို ရရှိအပ်ကြောင်း ပညာရှိသူတော်စင် တိုင်းကပင် မိန့်ဆိုခဲ့ ဘူးကြလေသည်။

ပက်ထရပ်ဆိုသူက "ဂုဏ်အချင်းအရာသည် သာလျှင် ထာဝရ ဖြစ်သော ကျော်ဇောမှုကို ဖန်တီးနိုင်သည်" ဟူ၏။

ချီလီဆိုသူက "ဂုဏ်အချင်းအရာတို့သည်လူတို့အား လောကတွင်ထင်ရှားစေ၏၊ သေပြီးနောက်၌ ကျော်စောခြင်း ဂုဏ်သတင်းကိုရရှိစေ၏၊ ကောင်းကင်ဘုံသို့ ရောက်သောအခါ ထာဝရ မပျောက်မပျက် တည်ရှိစေသည်" ဟု ဆိုပေသည်။

၂။ အမ်းစထရောင်းက "ဂုဏ်အချင်းအရာသည် ဝိညာဉ်၏ ခွန်အားနှင့် အလှတရား ဖြစ်ပေသည်" ဟု ဆိုဘူးသည်။

၃။ ဂျွန်ဝက်စလီက "ကောင်းမှုဟူသမျှကို တတ်နိုင်သမျှ ဆောင်ရွက်ပါလော့၊ နည်းအမျိုးမျိုးနှင့် ဆောင်ရွက်ပါလော၊ လမ်းစဉ်ရှိသမျှ ဆောင်ရွက်ပါလော့၊ နေရာတကာတွင် ဆောင်ရွက်ပါလော့၊ အခါခပ်သိမ်း ဆောင်ရွက်ပါလော့၊ တတ်နိုင်သမျှ ရှည်ကြာအောင် ဆောင်ရွက်ပါလော့" ဟု စာဆိုခဲ့ဘူးသည်။

၄။ "ဝိညာဉ်အားဖြင့် စင်ကြယ်သော သူတို့သည် အသဲနှလုံးက စင်ကြယ်သည်ဖြစ်သောကြောင့် ဘုရားသခင်အား ဖူးတွေ့ရလိမ့်မည်" ဟု သမ္မာကျမ်းစာက ဆိုလေသည်။

"ဂုဏ်အချင်းအရာတို့ မည်သည် စိတ်တွင်း၌ တည်၏၊ ပြင်ပ၌ မရှိပေ"။

+ဆ ၁ ဒီ။

# ကုရယ်လ်အဖွင့်

၁၃၃၉

အကျိုး ကျေးဇူးတို့ မည်သည်မှာ ပြုလုပ်ပေးသော ကိစ္စ၊ ကိစ္စတို့၌ မတည်ဘဲ ပြုလုပ်ပေးသူ၊ ပေးကမ်းသူတို့၏ စိတ်နေ

ပေးကမ်းသော

စိတ်ထား၍သာ
တည်လေသည်။

## –ဆိ နိ က ၁ ။

၆။ ထာဝရဘုရားရှင်သည် မှန်ကန်သော သူတို့၏ ဝိညာဉ်အား ငတ်မွတ်ခေါင်းပါး ခြင်းဘေးကို ကျရောက်ခံစားစေခြင်း မပြုပေ။
–သမ္မာကျမ်းဟောင်း။

သေသည်အထိ အလှူဒါနပြုခြင်း များကို မတားဆီးပါနှင့်။

## –စ ထ ရ က် ၍ ။

၇။ ဤအပုဒ်တွင် ကောင်းမြတ်ခြင်းကို အလုပ်က သက်သေ ပြသည်ဟူ၍ ဆိုလို ပေသည်။ ထို့ကြောင့် သာကျမ်းစာ၏ စကားပုံများခေါ် အခန်းတွင် "အကြင် သူသည် မှန်ကန်မှုနှင့် ကြင်နာမှု လမ်းကို ရှောက်သွားပါက ဘဝတွင် 'မှန်ကန် ခြင်းနှင့် ဂုဏ်တက်ခြင်းတည်းဟူသော ဂုဏ်အချင်းအရာများကို တွေ့လိမ့်မည်" ဟု ဆိုထားပေလေသည်။
၈။ မှန်ကန်သော အမှုကို ပြုလုပ်ပြီးသည့်နောက် ဆာလောင်မွတ်သိပ်၍ နေသော သူတို့မှာ ကောင်းချီးမင်္ဂလာ ရရှိသည်ဖြစ်၍ ဆာလောင် မွတ်သိပ်ခြင်းကို ပြေ ပျောက်စေပေလိမ့်မည်။
–သမ္မာကျမ်းစာသစ်။

၉။ မည်သည့် နေရာတွင် နေထိုင်သည်ဖြစ်စေ ဂုဏ်အချင်း အရာတို့ မည်သည် ကောင်းချီးမင်္ဂလာကိုဆောင်တတ်၏။

—ကောလင်။

ကျန်းမာခြင်း မပြည့်စုံပါဘဲနှင့် နေကောင်းထိုင်သမ္မာ ရှိနိုင်ပါလျှင် ဂုဏ်အချင်းအရာ မရှိဘဲနှင့်လည်း ပျော်ရွှင် နိုင်ရာ၏။

—ဘတ်ခ်။

## ၁၀။ မကောင်းမှုဟူသမျှကို

ရှောင်ပါလေ့၊ ကောင်းမှု ဟူသမျှကို ဆောင်ပါလေ့။

—စကားပုံများ။ ၁၄၀

ကုရယ်လ် အဖွင့်

အခန်း ၅။

၁။ ဤအခန်းမှာ အိမ်ထောင်သည်ဘဝတွင် ပြုကျင့်ရန်ဝတ်များကိုဖေါ်ပြထားခြင်း ဖြစ်၏။ သူတော်စင်-၃-မျိုးဟူရာ၌ အိမ်ထောင်ရှင်မှတပါးဖြစ်သော ဗြဟ္မစာရီ၊ ဝါနပရထန်နှင့် သံညာသီ ပုဂ္ဂိုလ်တို့ကို ဆိုလေသည်။ ယင်း-၃မျိုးတို့တည်းမှ အိမ်ထောင်ရှင်ဟူသော ဂရိသျှထ အဆင့်သို့ရောက်၏။ ဤအခန်းသည် မနုကျမ်းကြီး၏ အတွဲ၃- အပိုဒ် ၇၈-နှင့် ပြဆိုပုံချင်းတူ၏။

၂။ ကွယ်လွန်သူတို့အား စောင်မကြည့်ရှုခြင်း ဆိုသည်မှာ ၎င်းတို့ကိုသေသည့်အခါ၌ နောက်ဆုံးပြုကျင့်ဘွယ် အမှုကိစ္စတို့ကို ဆောင်ရွက်ပေးခြင်း ဖြစ်လေသည်။

၃။ ဤအပိုဒ်မှာ မနုကျမ်းအတွဲ-၃ အပိုဒ် ၇၂နှင့် တူညီသည်ဟု အဆို ရှိသည်။

၄။ မိမိအိမ်သို့ ရောက်ရှိလာကြသော ဧည့်သည်များအား ကောင်းစွာဧည့်ဝတ်ပြု၍ လက်ခံ ကျွေးမွေးခြင်းသည် ဟိန္ဒူတို့ ပြုအပ်သော ကျင့်ဝတ်များ အနက် အရေးအကြီးဆုံးတရ ဖြစ်လေသည်။

၅။ ရှိတ်စပီးယား၏ စာထဲတွင် ကုသိုလ်ကောင်းမှု တို့သည် ဥပဒေသဖြစ်ရန် ဖြည့်တင်းပေး၏။ ကုသိုလ်ကောင်းမှုမှ အဘယ်သူမျှ မေတ္တာတရားကို ခွဲခြား၍ မရပေဟု ဆိုထား လေသည်။

၆။ အိမ်ထောင်ရှင် ဘဝသည် ကောင်းမွန် မြင့်မြတ်စွာ နေထိုင် ကျင့်သုံးပါက သူတော်စင် ဘဝကဲ့သို့ပင် မွန်မြတ်ပေသည်ဟု ဆိုလိုသည်။

၁၀။ ပျော်ရွှင်သော အိမ်ထောင်တခုသည် ကောင်းကင်ဘုံကလေး တမျှတည်း။

-ဘိုးရင်း။

---

## အခန်း ၆။

၁။ ဤအခန်း၌ အိမ်ထောင်ရှင် ဇနီးကောင်းတို့၏ ပြုအပ်သော အမှုတို့ကိုရှင်းလင်း ဖေါ်ပြထားခြင်း ဖြစ်လေသည်။

၂။ "အကြင်သူသည် မွေးဖွားလာစဉ်ကပင် ကံကောင်းဇာတာကောင်းနှင့် မွေးဖွားလာခဲ့သော်လည်း အိမ်ထောင်ရေး၌ ကံမကောင်းလျှင် အချီးနှီးပင်တည်း"။

-ဒေဒီယာ။

၃။

ဤအပိုဒ်မှာ ဇနီးကောင်းတဦးကို ရရှိထားလျှင် ဆင်းရဲစေကာမူ အရေးမကြီး၊ ဇနီးကောင်း မရှိလျှင် ချမ်းသာကြွယ်ဝစေကာမူ အချီးနှီး ဖြစ်သည်ဟု ဆိုလိုပေသည်။



၄။ "လောကရှိ ကောင်းမြတ်သော အရာတို့တွင် အကောင်းဆုံးကား ဇနီးကောင်း တဦးပင် ဖြစ်လေသည်။

-ဆင်မိုနိုက်။

မိန်းမတို့တွင် စိတ်ဓာတ်နှင့် ကိုယ်ကျင့်တရားတို့ စင်ကြယ်ခြင်းသည် ပထမဆုံး ဖြစ်သော ထင်ရှားချက်များ ဖြစ်ပေသည်။

၅။ ဤအပိုဒ်မှာ ကောင်းမွန်မြင့်မြတ်သော အမျိုးသမီးအား နတ်သိကြား တို့ကပင် လေးစားစွာ လိုက်လျောမည်ဟု ဆိုလိုခြင်း ဖြစ်သည်။

၆။ "လောကတွင် လူ့ဘဝ၏ အလှတရားနှင့် လေးနက်မှုကို သိရှိနားလည်လိုပါက ခင်ပွန်းသည်အား လုပ်ကျွေး၍ ပျော်ရွှင်စေပါလော့။

–ဖရက်ဒရီကာ ဖရီးမာဒ်။

၇။

"မိမိကိုယ်ကို ထိန်းသိမ်းစောင့်ရှောက် နိုင်ခြင်းထက် အမျိုးသမီး၏ လုံခြုံမှုကို မည်သည့် သော့ခလောက်များ အရံအတားများကမျှ မတတ်နိုင်ပေ"။

၉။ "မိန်းမပေါ့တဦးသည် ခင်ပွန်းသည်အား ဝန်တာလေးစေသည်။

–ရှိတ်စပီးယား။

၁၀။

"အိမ်ထောင်ပြုရာ၌ အမှတ်မထင်ပါဝင်လာသော အကျိုးကျေးဇူး တရပ်သည် ရှိ၏။ ယင်းကား သားသမီးများစွာ ထွန်းကားခြင်း ဖြစ်ပေသည်။

"ကလေးငယ်တို့သည် ကျောက်မျက်ရွဲများသဖွယ် ကောင်းကင်မှ အပြစ်အနာမရှိ ကျဆင်း၍ လာပေသည်။

–ပိုးလော့။

---

အခန်း–၇။

၁။ "ကမ္ဘာပေါ်တွင် မည်သို့သော ကောင်းချီးမင်္ဂလာမျှ ခြင်းကဲ့သို့ ချိုသာရှင်ပြခြင်း မရှိပေ"။

ကလေးများ ထွန်းကား

၂။ "ငါ၌ မည်သည့် မကောင်းမှုမျှ ကျရောက်တော့မည် မဟုတ်၊ ဘုရားသခင်၏ ကျေးဇူးကြောင့် သားဦးရချေပြီ"။

ခရစ်တိုဖါမေ့ဒ်လီ။

# ကုရုယ်လ်အာဖွင့်

၇။ ကလေးသူငယ် များအားမည်သည့် လမ်းကို လျှောက်ရမည်ဟု လေ့ကျင့် သင်ကြားပေးပါလော့၊ ကြီးပြင်းလာသော အခါ သူတို့သည် ထိုလမ်းမှ စွန့်၍ သွားတော့မည် မဟုတ်ပေ"။

"ရှေးဟောင်းပါရှင်း လူမျိုးတို့၏ ကျမ်းစာများတွင် 'သင်သည် မွန်မြတ်သူ ဖြစ်လိုပါက မိမိ၏ ကလေးများကို ကောင်းစွာ သင်ကြားပါလော့၊ သူတို့ပြုသမျှ ကောင်းမှုများသည် သင့်အား ကောင်းသတင်းကို ဖြစ်စေလိမ့်မည်' ဟူ၍ ဆိုထားသည်"။

—မွန်တက်စကျူး။

၁၀။ ပညာအမြော်အမြင်ရှိသော သားသည် ဖခင်အား ပျော်ရွှင်ခြင်းကို ဖြစ်စေလိမ့်မည်"။

—ဆော်လမွန်၏စကားပုံများ။

---

အခန်း—၈။

၁။ "ချစ်ခြင်းမေတ္တာတို့ကို မည်သို့သော ဟန်ဆောင်မှုကမှ ရေရှည် ဖုံးဖိထား၍ မရပေ"။

— လာ၊ ရော့ချ်ဖူးကား။

"နူးညံ့သောမျက်ရည်တို့သည် ဝိညာဉ်အား လူမိသမှုကိုဖြစ်စေ၏"၊

၂။ "အကြင်သူသည် မိမိ ကိုယ်ကျိုးအတွက် မဟုတ်၊ မိမိနေထိုင်ရာ ကမ္ဘာကြီး အတွက်ဖြစ်လေသည်"။

—လူ ကန်။

၃။ ဝိညာဉ်၏ မြင့်မြတ်ခြင်းသည် ပါရမီကြောင့်လည်း မဟုတ်၊ ယင်း၏ လျှို့ဝှက် တရား စင်စစ်မှာ ကြင်နာခြင်းပင် ဖြစ်လေသည်။

၄။ နေ၏အပူရှိန်သည် ကျောရိုးမရှိသောသတ္တဝါတို့အားလောင်းကျွမ်းစေနိုင်သည် ဟု ယူဆကြ၏။

၅။ ဤအပိုဒ်၌ အချို့ကျမ်းတွင် လွင်တီးခေါင် ကန္တာရအစား၊ ကျောက်ဆောင် ကျောက်တုံးဟူ၍ ဖေါ်ပြကြ၏။ သို့သော် အသုံးအနှုန်း နှစ်မျိုး စလုံး၌ပင် သဘော အဓိပ္ပါယ်ချင်း ဆင်တူပေသည်။

၆။ အပြင်ပစ္စည်းများ ဆိုသည်မှာ အချိန်၊ နေရာ၊ အခြေအရုံ၊ စည်းစိမ် ဥစ္စာစသည် တို့ကို ဆိုလိုပေသည်။



## အခန်း ၉။

၁။

ဤအခန်းတွင် ညွှန့်ဝတ်ပျူငှါရန် ညွှန့်သည်တို့မှာ သူစိမ်းပင်ဖြစ်စေ၊ ခရီးကြုံ၍
ဝင်လာသူ ဖြစ်စေ၊ မမြော်လင့်ဘဲ ရောက်ရှိလာသော သူတော်စင်ဖြစ်စေ
အားလုံး ပါဝင်ပေသည်၊

၄။

လက္ခမီ နတ်သမီးသည် စီးပွားကို ဆောင်တတ်သော နတ်သမီးဖြစ်သည်။
"ပြုံးရွှင်စွာ ပေးကမ်းတတ်သောသူအား ဘုရားသခင်ချစ်မြတ်နိုးတော်မူ၏။"

သမ္မာကျမ်းစာသစ်။

၇။ ဤအပိုဒ်မှာ ဖေါ်ရွေပျူငှါခြင်း မရှိသောသူတို့၌ ဥစ္စာပစ္စည်း ဆုံးပါးတတ်သည်
ဟူ၍ ဆိုလိုသည်။

၁၀။ အနိစ္စပန်း ဆိုသည်မှာ ဒဏ္ဍာရီထဲတွင် ပါရှိသော ပန်းမျိုးဖြစ်၏၊ နမ်းလိုက်သည့်
ခဏ၌ နွမ်း၍ သွားတတ်သည်ဟု ဆို၏။

---

အခန်း ၁၀။

၁။ "စင်ကြယ်သောသူတို့၏ ဆိုစကားသည်
ချိုသာပေသည်"။

—စကားပုံများ။

သစ္စာတရားကို ပြောဆိုရန်နည်းမှာ
ချစ်ကြည်ဖွယ်ပြောဆိုခြင်းသာ ဖြစ်လေ
သည်။

—ဟင်နရီဒေးဗစ်သိုးရိုး။

---

အခန်း ၁၁။

၃။ "လက်ဆောင်ပေးခြင်းတို့တွင်အတင့်တယ်ဆုံးဖြစ်ဖွယ်ရှိသည်ကား အတုံ့အပြန်ကို မမြော်ကိုးတဲ ပေးကမ်းခြင်းဖြစ်သည်"။

—လောင်းဖဲ့လိုး။

ဂ။ "နာကျည်းဖွယ်တို့ကို မေ့ပစ်ပါ။
ကြင်နာမှုတို့ကို မမေ့ပါနှင့်။"

— ကွန်ဖြူးရှပ်။

"အခြားသူတို့၏ ဖြစ်မှုကို မေ့လိုက်ပါလေ၊ အခြားသူတို့၏ ကျေးဇူးကိုကား ကမ္ဘာပတ်လုံး မမေ့ပါလင့်။"

–ဝိမာန၊ တေလဂူစာဆို။

၉။ "ကောင်းမှုတခု ပြုခြင်းအတွက် မကောင်းမှုတရာမျှကို ကြေအေးပါလေ့။"

–တရုပ်စကားပုံ။

---

## အခန်း ၁၂။

၁။ "မျှတမှုသည် လူလူချင်းဆက်ဆံ ရေး၌ တိကျမှန်ကန်လှသော တရားမင်းဖြစ်လေသည်"။

–ဘာ့ခ်။

"မိမိလက်နှင့် ပြုလုပ် ပေးနိုင်စွမ်းသော ကိစ္စမျိုးဖြစ်လျှင်၊ မည်သည့် ကောင်းမှုကိုမှ ထိုသို့ပြုလုပ်ရန် သင့်လျော်သော သူအား ထိန်ချိန်၍ မထားပါနှင့်။"

–စကားပုံမျာ။

၅။ ဤအပိုဒ်၌ပညာရှိတို့ မည်သည် မိမိအား ကျရောက်လာမည့် အကောင်း အဆိုးတို့ကိုမကြည့်၊ အဆိုးအကောင်းကို မျှော်လင့်မနေဘဲ မှန်ရာကိုသာ လုပ်တတ်သည်ဟုဆိုပေသည်။

၆။ "မတရားမှုကို ပြုလုပ်ခြင်းမှာ မတရားမှုကိုခံရခြင်းထက် မတင့်မတယ် ရှိပေ၏"။

–ပလေတို။

၇။ "မိုးကောင်းကင် ပင်ပြိုစေတော့၊ တရားသဖြင့်မှုကား ဖြစ်စေရာသည်"။

–လေ့ဒ်မိန်းစဖီး။

---

အခန်း ၁၃။

၁။ "ဘုရားရှင်၏ ကျေးဇူးဂုဏ်နှင့် ကောင်းခြင်းမင်္ဂလာတို့သည် စိတ်ထားအားဖြင့် နှိမ့်ချတတ်သော သူနှင့် ဝိညာဉ်အားဖြင့် ကိုင်းညွတ်တတ်သော သူတို့ထံသို့ သက်ရောက် လေသည်"။

–ဝေါသင်တန်။



"လူစိတ်ထားအား မပျက်ပြားမီ အခြေအနေမှာ မာန မတက်မီ အခြေအနေမှာ နှိမ့်ချခြင်း ဖြစ်လေသည်"။

ဖြစ်၏၊ ဂုဏ်

—စကားပုံများ။

၂။ "မိမိကိုယ်ကို ထိန်းချုပ်အုပ်စိုးနိုင်ခြင်းသည် လူတဦး
နိုင်ငံကြီး ဖြစ်ပေသည်"။

တည်ဆောက်အပ်ဇွသော

—မလတန

၄။ "မိမိကိုယ်ကို နှိမ့်ချသော သူတို့သည် မြင့်မြတ်ခြင်းသို့
ရောက်ရှိ၏။"

—သမ္မ

၁ကျမ်းစာ

"နှိမ့်ချခြင်းသည် အမြင့်ဆုံးသော ဂုဏ်အဆင့်သို့
ပို့ဆောင်ပေး၏"။

—ဆာဗင်ဂျမင်ဖရိုဒီ

"စံပြုအပ်သော ပုဂ္ဂိုလ်တို့၏ ပြည့်စုံရာ အရည်အချင်း တရပ်ကား
ကိုယ်ကို ကောင်းစွာ ထိန်းသိမ်းနိုင်ရေး ဖြစ်ပေသည်"။

—ဟားဗတ်စပင်ဆား

၅။ ပညာရှိခြင်းနှင့် ဥစ္စာရှိခြင်းတို့သည် ဂုဏ်မာန တက်စရာအကြောင်းများ ဖြစ်၏။ ထို့ကြောင့် ယင်းအချက်နှစ်ရပ်ကို ပိုင်ဆိုင်သော သူတို့သည်နှိမ့်ချထိန်းချုပ်ခြင်း တရားကို အထူးသဖြင့် လက်ကိုင် ပြုအပ်သည်ဟု ဆိုလိုပေသည်။

"ဆင်းရဲသူတို့အား ကြင်နာတတ်သော သူချမ်းသာတို့ကို ဘုရားရှင်သည် မေတ္တာ ထားတော်မူ၏"။

ဆာဒီ။

၆။ "မိမိကိုယ်ကို ထိန်းချုပ်၍စိတ်အာရုံများကို နှိမ်နင်းနိုင်သူတို့ကား အထူးချီးမွမ်း ထိုက်သူများဖြစ်၏။ အကြောင်းမူကား ဤသို့ ထိန်းချုပ်ရမည်ကို သိရှိသူ နည်းပါးလှသောကြောင့် ဖြစ်ပေသည်"။

—ရှုအီစီယာဒီနီ။

၇။ "နှုတ်လျှာကို ထိန်းသိမ်းတတ်သူတို့သည် မိမိ၏ အသက်စည်းစိမ်ကို ထိန်းသိမ်း နိုင်သည် မည်၏။ နှုတ်လျှာကို မထိန်းသိမ်းဘဲ ဖွင့်လှစ်ထားတတ် သူတို့မူကား ပျက်စီးခြင်း တိုင်တတ်၏"။

—စကားပုံများ။

"ပထမဦးဆုံး ဖြစ်သင့်သော ဂုဏ်ပုဒ်မှာ မိမိ၏ နှုတ်ကို စောင့်စည်းမှု ဖြစ်သည်ဟု ကျွန်ုပ် ထင်ပေသည်"။

—ကာတို။

၈။ "သူရူး တယောက်၏ နှုတ်ဖျားသည် သူ၏ ပျက်စီး မှုပင်ဖြစ်လေသည်"။

—စကားပုံ မျှား။

၉။ ဤအပိုဒ်တွင် အနာဟူ၍ ပြဆိုထားရာ၌ မကျက်နိုင်သော အနာဆိုသည်မှာ အစဉ်အမာရွတ် ထင်နေမည့်အရာကို ဆိုလိုသည်။

၁၀။ "ဘုရားရှင်၏ ဝိညာဉ်သည် နှိမ့်ချသောသူတို့၏ နှလုံးသားများ၌ ပျော်မွေ့စွာ ကိန်းဝပ်၏"။

—အီရပ်စမတ်။

---

## အခန်း ၁၄။

၁။ အိန္ဒိယပြည်ရှိ လူမျိုးတို့၏ ဇာတ်အသီးသီး၌ အခွင့်အရေးထက် တာဝန်ကိုပို၍ အလေးပေးကြသည်။ တာဝန်ဆိုသည်မှာ ပြုအပ်သော အမှုတို့ကို မှန်ကန်စွာ ကျင့်ခြင်း ဖြစ်ပေသည်။ ထို့ကြောင့် ဤအခန်းတွင် "မှန်ကန်သော အကျင့်" ဟု အမည်ပေးထားခြင်းမှာ တာဝန်ကျေပွန်ခြင်းကို ဆိုလိုပေသည်။
"ကိုယ်ကျင့်တရား ဟူသည်မှာ ဘဝ၏ လေးပုံ သုံးပုံဖြစ်၍ အထူးဂရုပြု၍စောင့် စည်းဖွယ်လည်း ဖြစ်လေသည်။

—မက်သယူအာနိုး။

၆။ "တကယ်မြင့်မြတ်ခြင်းဟူသည်မှာ ကောင်းမြတ်သော ဂုဏ်အရျင်းအရာများမှ ဆင်းသက်ပေသည်၊ မွေးဖွားရာဇာတိကိုမှီ၍ မြင့်မြတ်ခြင်း မရှိနိုင်ပေ။"

—ဘာတန်။

၇။ "ကောင်းသော ဂုဏ်အချင်းအရာတို့ မရှိပါက မွေးဖွားရာဇာတိ မည်မျှပင် ကောင်းစေကာမူ အချည်းနှီးသာတည်း။"

—မော်လီယေး။

၈၊ "မှန်ကန်သောသူတို့သည် ကောင်းမြတ်ခြင်းကိုသာ အလိုရှိကြ၏။"

—စကားပုံများ။

၉။ "မှန်ကန်သောသူတို့၏ နှုတ်သည် မည်သည့်အရာကို လက်ခံထိုက်သည်ဟု သိကြပေသည်။"

—စကားပုံများ။



၁၀။ "နေ့စဉ်မျက်မှောက်၌ ဖြစ်ပျက်နေသော ကိစ္စတို့ကို သိခြင်းသည် အစိက ဉာဏ်ပညာ ဖြစ်လေသည်။"

—မီလတန်။

---

အခန်း ၁၅။

၁။

" အိမ်နီးချင်း ဖြစ်သူ၏ ဇနီးကို သွားရောက် ထိပါးသောသူသည် ဖြစ်စေ အပြစ်ကင်းသူ မဟုတ်တော့ချေ။"

မည်သူပင်

—စကားပုံများ။

၂။ "မသိနားမလည်သော မိန်းမနှင့် ကျူးလွန်သော ပုဂ္ဂိုလ်သည် မိမိ၏ပင်ကိုယ် ဝိညာဉ်ကိုပင် ဖျက်ဆီးရာ ရောက်လေသည်။"

—စကားပုံများ၊

၅။ "ဤသို့ ပြုသည့် အမှု ကြောင့် ဖျောက်ဖျက်၍ မရတော့ပေ။"

ရရှိသော အမာရွတ်သည် မည်သည့်အခါမှ

—စကားပုံများ။

၁။ "တပါးသူ၏ ကာမပိုင်ကို မကျူးလွန်ရာဟူသော ပညတ်ချက်ကို သိကြပေလိမ့်မည်။ သို့သော် ထိုကာမပိုင် အမျိုးသမီးအား တပ်မက်သောစိတ်ဖြင့် ကြည့်မိခြင်းသည်ပင် ကျူးလွန်ရန်အမှု ပြုမိခြင်းတည်း။

—သမ္မာကျမ်းစာသစ်(စိန့်မက်သယူး)

---

အခန်း ၁၆။

ဤအခန်းမှာ· ယေရှုခရစ်တော်၏ တောင်ထိပ်၌ ဟောကြားသော တရား
တော်နှင့် လွန်စွာနီးစပ်သည်ဟု ပညာရှိတို့ အဆိုရှိသည်။

၂။ "ခွင့်လွှတ်ခြင်းသည် ကောင်း၏။ မေ့ပျောက်ခြင်းသည် အကောင်းဆုံးတည်း။"

–ရောဗတ်ဘရောင်နင်း။

"သည်းခံခြင်းအမှုကို မိမိ၌အကျိုးကျေးဇူး ဖြစ်ထွန်းလာသည်အထိ အလေ့
အလာပြု၍ ကျင့်ကြံပါလေ။"

–ဇပါဂီယွန်။

၄။ အကြင်သူ၌ အသဲနှလုံးသည် ကမ္ဘာကြီးကဲ့သို့ပင် ကျယ်ပြောလှ၏၊ သို့သော်
မိုက်မှားသူတို့အား တေးမှတ်ထားရန်နေရာ မရှိလေ။"

–စီ၊ ဆင်မွန်။



၅။

လက်စားချေခြင်းသည် မိမိအား ရန်သူနှင့် တတန်းတည်း တူညီစေ၏။ ခွင့်လွှတ်
ခြင်းကား ရန်သူထက် မြင့်မြတ်သောနေရာသို့ ရောက်စေပေသည်။

–ဗေကွန်။

၇။ ခရစ်ယာန်ပီသသောသူတို့သည် မည်သည့်အခါမှ
လက်စားချေမှုကိုမပြုကြလေ။"

–ဝာဗင်းတီး။

ခရစ်ယန်တို့သည် ခွင့်လွှတ်ခြင်းအရာ၌ ထင်ရှားသူများ ဖြစ်ကြ၏။ ဤနေရာတွင် ယေရှုခရစ်တော်နှင့် ပတ်သက်၍ ရေးသားချက်များရှိသည်မှာ သူ့အား လက်ဝါးကပ်တိုင်သို့တင်၍ သတ်ကြသောသူတို့နှင့် ပတ်သက်၍၊ "အိုဘာဝရ ဘုရားသခင်၊ သူတို့အား ခွင့်လွှတ်ပါလော့။ သူတို့သည် မိမိတို့ပြုသောအမှုကို နားမလည်ကြချေ" ဟု ဆိုခဲ့သည်ဟု သိရ၏။

---

အခန်း ၁၇။

၁။

"ကြီးမားသော ဂုဏ်ပုဒ်များဖြင့် မွေးဖွားလာကြောင်း အမှန်ဆုံးအထောက်အထားမှာ မနာလိုဝန်တိုမှု ကင်းစွာဖြင့် မွေးဖွားလာခြင်း ဖြစ်ပေသည်။"

–လာ၊ ရောက်ဖူးကား။

၅။ "ပိုးကောင်သည် အဝတ်ကိုကိုက်၍ ဖျက်ဆီးသကဲ့သို့၊
လူတဦးကို ဖျက်ဆီးတတ်ပေသည်။"

မလိုဝန်တိုမှုတို့မည်သည်

–ခရစ်ဆိုတမ်။

၇။ လက်ရှမိ (လက္ခမိ) နတ်သမီးသည် စီးပွားဖွံ့ဖြိုးရေးဆိုင်ရာ နတ်သမီး ဖြစ်၏။ မူဒေဝီ နတ်သမီးကား၊ ဆင်းရဲဒုက္ခကို ဖန်တီးတတ်သော နတ်သမီးဖြစ်သည်ဟု အယူရှိကြသည်။

၉။ ဤအပိုဒ်တွင် ဝန်တိုတတ်သူ၏ ကြွယ်ဝခြင်းနှင့် ဖြောင့်မှန်တတ်သူ၏ ဆင်းရဲခြင်းတို့ဟူသည်မှာ ယခင်ဘဝများကပြု လုပ်ခဲ့သော ကုသိုလ်ကံ အကျိုးဆက်ကြောင့် ယခုဘဝ၌ ခံစားစံစားရခြင်း ဖြစ်သည်ဟု ဆိုလိုသည်။

---

## အခန်း ၁၈။

### ဤအခန်းသည် တပါးသူ၏ ပစ္စည်းဥစ္စာတို့ကို ခြောင်း ရေးသားထားလေသည်။

လိုချင်တပ်မက်မှု မရှိအပ်



၉။ "လောဘရမက် ကြီးခြင်းကို ပယ်ရှောင် စွန့်စားနိုင်လျှင် ကိုယ်ကျိုး စီးပွားများ လာလိမ့်မည်"။ —ပ ရေ လ ဟို။

၁၀။ "ပေါ်လွင်ပလွှား၍ ရရှိသောဥစ္စာတို့သည် ပျက်ပြားတတ်၏၊ လုပ်အားကြောင့် ရရှိသော ဥစ္စာတို့သည် တိုးပွားတတ်၏"။ —စကားပုံများ။

---

## အခန်း ၁၉။

ဤအခန်းသည် တပါးသူတို့၏ မျက်ကွယ်တွင် မကောင်းသတင်း မပြော အပ်ကြောင်း၊ ဂုံးမချောအပ်ကြောင်းတို့ကို ပြဆိုထားလေသည်။

၁။ "ညီနောင်တို့၊ အချင်းချင်း မကောင်းသတင်း မဆိုကြလေနှင့်"။

–သမ္မာကျမ်းစာ။

"ဂုံးချောခြင်းသည် အကြီးဆုံးသော ဒုစရိုက်မှုတခု ဖြစ်ပေသည်"၊

–ဟီးရေ့ဒ်။

၃။ "ဂုံးချောသူသည် သူရူး သူမိုက်တဦး သာတည်း"။ –စကားပုံများ။

၁၀။ "မအိပ်မှီ နိုးကြားနေသော ည၏ တဝက်အချိန်၌ ကိုယ့်အပြစ်များကို ဆင်ခြင် ပါလော့၊ အိပ်ပျော်သော ကျန်ည့တပိုင်း၌ တပါးသူတို့၏ အပြစ်ကို ဆင်ခြင် ပါလော့။"

–တရုပ်စကားပုံ။

---

အခန်း ၂၀။

သိမ်ဖျင်းယုတ်ညံ့၍ အကျိုးမရှိသော စကားတို့ကို မပြောအပ်ကြောင်း ဤအခန်း၌ ပြဆိုသည်။ လူတယောက်၏ နှုတ်မှထွက်သော စကားတို့၌ အပြစ် လေးမျိုး ဖြစ်ပေါ်နိုင်သည်ဟု ဆို၏။ ယင်းတို့မှာ မမှန်ကန်ခြင်း၊ ပုံပြင်ဆန်ခြင်း၊ ကြမ်းတမ်းရုန့်ရင်းခြင်းနှင့် အကျိုးမဲ့ခြင်းတို့ ဖြစ်လေသည်၊ ထိုလေးမျိုးတို့တွင် မမှန်ကန်သော မုသားစကားတို့မှာ တကယ် စင်ကြယ်ပေါက်မြောက် ပြီးသော သူတော်သူမြတ် တို့မှာသာ ရှောင်ကြဉ် နိုင်သည်ဖြစ်၍၊ အိမ်ထောင်သက်မွေး ပုထုဇဉ်တို့ မရှောင်သော်လည်း ဖြစ်နိုင်သည်။ ကျန်သုံးမျိုးကို မူကား လူတိုင်း ရှောင်အပ်သည်ဟု ဆိုထား၏။ ကျန်သုံးမျိုးတွင် အကျိုးမဲ့သော စကား အကြောင်းကို ဤအခန်း၌ ပြဆို ထားလေသည်။

၃။ "သူရူး၏ နှလုံးသားသည် သူ့နှုတ်ဖျား၌ ရှိလေသည်"။

–ဖရန်ကလင်။

---

အခန်း ၂၁။

ဒုစရိုက်မှု ပြုလုပ်ရန်

ထား၏။

## ကုရယ်လ်အဖွင့်

၂။ "ခါးလွတ်ကို စွဲသောသူ၌ ခေါးလွတ်နှင့်အတူပျက်စီးရမည်သာတည်း"
—သမ္မာကျမ်းစာသစ်။

၄ "မကောင်းကြံသော သူတို့၌ မကောင်း ဖြစ်တတ်၏"။
—ဂါတာသူရဲကောင်းတို့လက်သုံးစကား။

၆။ "သင်ပြုလိုက်သော အမှုများနည်းတူ သင့်ထံသို့ တန်ပြန်၍ လာလိမ့်မည်"။
—ဒေါက်တာဒေးဗစ် သောမတ်။

၇။ "မိမိတို့ကိုယ်ကို မကောင်းမှု မပြုဘဲနှင့် တပါးသူတို့အား မကောင်းကြံ၍ မရပါလေ"
—ဒက်စ်မာတစ်။

၈။ "မကောင်းမှုသည်ဒုစရိုက်သားတို့အား နောက်မှတကောက်ကောက်လိုက်၏"။
—စကားပုံများ။

၉။ "တင်းမာခြင်းထက် နူးညံ့သိမ်မွေ့ခြင်းသည် ပို၍ လုံခြုံ၏"။
ရောဗတ်ဘရောင်နင်။

---

## အခန်း ၂၂။

ဤအခန်း၌ အလှူဒါနပြုအပ်ကြောင်းကို ပြဆိုထားသည်။ အကြင်သူသည် ကြွယ်ဝိုး ကြွယ်ဝ ချမ်းသာသူပင် မဟုတ်သော်လည်း မိမိအိမ် တံခါးဝသို့ လာရောက်တောင်းခံသော နွမ်းပါးသူတို့အား ကိုယ့်အဆင့်အတန်းနှင့် ထိုက်တန်သလောက် ဖြန့်ဝေရာ၏။ ဤကား လောကသားတို့ ပြုအပ်သော တာဝန်တည်း ဟု ဆိုကြပေသည်။

၃။ "ဒုက္ခရောက်ခြင်းကို ကြင်နာသနားခြင်းသည် လူပီသ၏။ ထိုဒုက္ခမှ လွတ်မြောက်ရန် အားထုတ်ပေးခြင်းကား ဘုရားနှင့် တဂိုဏ်းတည်း ဖြစ်ပေသည်"။

–အဲလဖရက်မန်။

၄။ "အကျိုးမဲ့သော ဘဝဟူသည်ကား ကမ္ဘာပေါ်တွင် ရှင်လျက်နှင့် သေနေသော ဘဝမျိုးကို ဆိုလိုပေသည်"။

–ဂါထေး။

၅။ ဤအပိုဒ်၌ ဆိုလိုသည်မှာ လိုအပ်သူတို့ကို လှူဒါန်းပေးကမ်း တတ်သောသူ၌ စီးပွားဉစ္စာတို့သည် ပေးမကုန် လှူမခန်း ဖြစ်သည်ဟူ၏။

၁၀။ ဤကောင်းမှု ပြုသောသူ၌ ဆုံးရှုံးခြင်း မည်သည် ကိုယ်၌ မရှိဟူ၍ ဖွင့်ဆိုကြလေသည်။

---

## အခန်း ၂၃။

ဤအခန်းသည် အလှူပေးခြင်းသက်သက်ကို ဆိုသည်။ ပြီးခဲ့သော အခန်းသည် ကောင်းမှုမျိုးစုံ ပြုလုပ်ခြင်းကို ရည်ညွှန်း ပေသည်။

၁။ "ဆင်းရဲသူတို့အား ညှာတာ ထောက်ထားတတ်သော သူတို့သည် ကောင်းမြတ်လှစွာ၏။

–သမ္မာကျမ်းဟောင်း။

၁၀။ ဤအပိုဒ်တွင် မပေးမကမ်း ကောင်းသေး၏ ဆိုလိုပေသည်။

မစွန့်မကြဲဘဲ နေရခြင်းထက် သေရသည်က

---

## အခန်း ၂၄။

၁။ ဤအခန်း၌ ပေးကမ်းစွန့်ကြဲမှုကြောင့် တပါးသူတို့၏ ပြဆိုထားသည်။

ချီးမွမ်းသံသာခံရမှုကို

၅။ ဤအပိုဒ်တွင် လူသေသော်လည်း အမည်မသေဟူသောသဘောကို ဆိုလိုသည်။ အလားတူ အဓိပ္ပါယ်ဖြင့် ဆိုလိုရင်းပြသူ အချို့မှာ–
"ကြီးမြင့် ကောင်းမြတ်သော အရည်အချင်းရှိသူတို့သည်၊ လောက၌ မသေ မပျောက်နိုင်သော ဂုဏ်ပုဒ်ကို ရရှိ၏။"

–အီး၊ အဲဗရက်။

"အကြင်သူသည် အသက်ရှင်နေပြီးနောက် အမည်တည်မြဲရန်အတွက် သေလွန် ပေသည်"။

–ဒရမ်မွန်။

---

## အခန်း ၂၅။

(အခန်း ၂၄-ပြီးသည့်နောက် သူတော်စင်များ၏ အရည်အချင်းကို ပြဆိုသော ဒုတိယပိုင်းသို့ရောက်၏။ ဤအပိုင်းမှာ အခန်း ၂၅-မှ၃၇-ထိ ဖြစ်လေသည်။)

၁။ ဤအပိုဒ်မှာ လောကီတွင်ကြွယ်ဝချမ်းသာခြင်းကို ဉစ္စာစည်းစိမ်စုဆောင်းသိမ်းခြင်းဖြင့် ရရှိနိုင်သော်လည်း၊ အကြင်နာတရားနှင့် ပြည့်စုံခြင်းကိုကား မြင့်မြတ်သူတို့သာ ရရှိနိုင်သည်ဟု ဆိုလိုသည်။

"ကြင်နာသူတို့သည် ကောင်းချီးမင်္ဂလာနှင့် ပြည့်စုံကြပေ၏။ အဘယ့်ကြောင့်ဆိုသော် ကြင်နာခြင်းကို ၎င်းတို့ရရှိမည် ဖြစ်သောကြောင့်တည်း။"

-သမ္မာကျမ်းစာသစ်။

ဤအပိုဒ်၏ မူလအဓိပ္ပါယ်မှာ ကြင်နာခြင်းတရား ထားသင့်ကြောင်းကို ပြဆိုရာတွင် ဘာသာအားလုံးတို့၌ တူညီကြကြောင်း၊ ထို့ကြောင့် ထိုဂုဏ်ပုဒ်ကို ဆောင်နိုင်စေခြင်းငှါ ဘာသာ အသီးသီးတို့၏ အဆုံးအမအတိုင်း နည်းအမျိုးမျိုးဖြင့် အားထုတ်ပါလေ့ဟူ၏။

21

၁၅၂

## ကရုဏာ လ် အဖွင့်

### အခန်း ၂၆။

၁။ သူတော်စင်တို့မည်သည် အသားစားခြင်းကို ရှောင်ကြဉ်အပ်သည်။ အသားစားခြင်း၌ အသက်သတ်ခြင်းကိစ္စ ပါဝင်နေသည်။ ထို့ကြောင့် ကြင်နာခြင်းတရားနှင့်ကင်း၏။ ကြင်နာတတ်သူတို့၏ အလုပ်မဟုတ်ဟု ဆိုထားသည်။ သူတော်စင်တို့သာ မဟုတ်၊ လောကီလူသားအားလုံး အသားစားခြင်းကို ရှောင်ကြဉ်အပ်သည်ဟု မူလကျမ်းပြုဆရာက ဆိုလိုကြောင်းအဖွင့် ဆရာအချို့ ယူဆကြသည်။

---

အခန်း ၂၇။

၁။ ခြိုးခြံအားထုတ်ခြင်းဟူသည်မှာ သူတော်စင်တို့အဖို့ အစားကို ဆင့်ခြင်ခြင်း၊ အပူအအေးစသော ကာယိကဒုက္ခတို့ကို တမင်ခံခြင်း၊ ကိုယ်အင်္ဂါအစိတ်အပိုင်းရှိ အာရုံခံယူရာဒေသတို့ကို စောင့်ထိန်းခြင်းစသည်တို့ပါဝင်သည်။ ဤသို့အားထုတ်မှ သူတော်စင်၌ ဆင်းရဲဟူသမျှကို သူများထက်ပို၍ ခံရည်ရှိသောကိုယ်ဖြစ်လာနိုင်သည်။

"သည်းခံပါလော့၊ ခြိုးခြံအားထုတ်ပါလော့"

—ဒီပစ်တက်တပ်စ်။

# အခန်း ၂၈။

၃။ ဤအခန်းတွင် အပြောနှင့် အလုပ်မညီညွတ်သော ဟန်ဆောင်ခြင်း သဘောကို ဆိုလိုသည်။ မိမိကိုယ်တွင်းရှိ ခေတ်ကြီး ငါးပါးဟူရာတွင် ရုပ်ဝတ္ထု၊ ရေ၊ မီး၊ အသက်ရှူမှုနှင့် လေတို့ ဖြစ်သည်ဟူ၏။

၄။ "သင့်ထံသို့ သိုးရေကိုခြုံ၍ လာရောက်သော ပုရောဟိတ် အတုများကို သတိထားပါလော့။ အတွင်းတွင် သူတို့သည် လုယက်တတ်သော ဝက်ဝံများ ဖြစ်ပေသည်"။

–သမ္မာကျမ်းစာသစ်။

၅။ "လိမ်လည် လှည့်ဖျားတတ်သောသူတို့၌ စိတ်၏ ငြိမ်းချမ်းခြင်း မရှိနိုင်ဟု ကိုယ်တော်က ဟောကြား၏"။

–သမ္မာကျမ်းဟောင်း။

၆။ ဤအပိုင်းတွင် စွန့်လွှတ်ခြင်းတရားဟူသည် မိမိကိုယ်တွင်းမှ စတင်၍ ဖြစ်ပေါ်ရမည်ဟု ဆိုသည်။ ထိုသို့စတင်ခြင်းမရှိသော စွန့်လွှတ်မှုသည် အချည်းနှီးတည်း။



ဟု ဆိုထား၏။ အချို့ကား ကိုယ်တွင်းမှ မစွန့်လွှတ်နိုင်ပါဘဲလျက် စွန့်လွှတ်ကြသယောင် ဟန်ဆောင်၍ နေတတ်သည်ကို ရည်ညွှန်း ပြောဆိုခြင်းဖြစ်သည်။ "ဟန်ဆောင်ခြင်းနှင့် အမျှ ကြီးမားသော ဒုစရိုက်မှုသည် မရှိလေ"။

–မဒမ်ဒီမိန်တီနွန်။

၇။ "အပြင်ပန်း၌ ကောင်းယောင်ရှိ၍ အတွင်း၌ ပုပ်သိုးနေသော ပန်းသီး။"

–ရှိတ်စပီးယား။

၉။ အပြင်ပန်းဖြစ်သော အရာကိုကြည့်၍ ဆုံးဖြတ်ခြင်းသည် မမှန်ကန်နိုင်ကြောင်း၊ အပြုအမူကိုကြည့်၍ အကဲဖြတ်ရမည် ဖြစ်ကြောင်း ဆိုလိုသည်။
၂။ "အလှူပေးခြင်းသည် အလှူဒါန ခံယူခြင်းထက် သာလွန်၏"။

—ဂျာမန်စကားပုံ။

"ဆုတောင်းခြင်းသည် ဘုရားရှင်ထံမှောက်သို့ခရီးတဝက်မှ ရောက်စေ၏။ အစာအဟာရ မမှီဝဲဘဲ နေခြင်းသည် ဘုရားရှင်၏ဘုံဗိမာန်တံခါးဝသို့ ရောက်စေ၏၊ အလှူပေးခြင်းကား ထိုဘုံဗိမာန်သို့ ဝင်ခွင့်ကို ရစေပေသည်"၊

—ကူရ်အန်ကျမ်းစာ။

၅။ ဤအပိုဒ်တွင် ခြိုးခြံကျင့်သုံးသော သူတော်စဉ်တို့ထက် အိမ်ထောင်ရှင် ဘဝ၌ နေသော ဒါနရှင်တို့က ပို၍ ခွန်အားကြီးမားသည်ဟု ဆိုလိုပေသည်။
၆။ "ကျွန်ုပ်တို့၏ အစစ်အမှန် ခံယူရရှိရာ အကြောင်းကား ဒါနပြုခြင်း ၌သာ တည်၏။ ပေးသည်နှင့် အမျှ အမြက် တွက်လာပေသည်"။

—ဆင်းမ်စ်။

"သူဆင်းရဲတို့အား ကြင်နာတရားရှိသော သူတို့သည် ဘုရားရှင်အား ချေးငှားပေးကမ်းခြင်းနှင့်တူ၍ ထိုအမှုကြောင့် ဘုရားရှင်က သူတို့အား ပြန်၍ ပေးဆပ်လိမ့်မည်။

—စကားပုံများ။

"မိမိနှင့် ဘဝတူများအား ပြုစုစောင့်ရှောက်သူတို့သည် ဘုရားရှင်အား ပြုစု စောင့်ရှောက်ခြင်း ဖြစ်ပေသည်"၊

—မစ္စက်နေဒ်တင်။

"ဆင်းရဲသူတို့အား အကျိုးပြုသူတို့တွင် ဆယ်ပြန်မကသော အကျိုးတို့ ပြန်၍ ရရှိမည်သာ"။

—ဂျွန်၊ ဗန်ယန်၊

## ကူရယ်လ်အဖွင့်၊

၁၅၄

၇။ "ကြင်နာယောက်ထားတတ်သော ဘုရားရှင်၏ သားတော် တဦးသည် မိမိ၏ ရက်ရောမှုကြောင့် ဥစ္စာလက်မဲ့ဖြစ်ရသည်ကို ကျွန်ုပ် မတွေ့သူးပေ"။

—တီ၊အယ်၊စိုင်လာ၊

၈။ "ပေးကမ်းစွန့်ကြဲခြင်းကြောင့် ရရှိသော သာယာ ကြည်နူးမှုကိုသာ ကျွန်ုပ်တို့ အပြည့်အဝ ခံစားရပေသည်"။

—ဒူးမ ၁း။

---

## အခန်း ၂၉။

၂။ ဤအပိုဒ်သည် ယေရှုခရစ်၏ တောင်ပေါ်၌ ဟောကြားသော တရားတော်နှင့် ထပ်တူ ဖြစ်သည်ဟုသိရသည်။

၄။ "တပါးသူ၏ ကောင်းမြတ်ချမ်းသာတို့ကို တပ်မက်ခြင်းသည် မိမိ၏ စည်းစိမ် ချမ်းသာတို့ ဆုံးရှုံးရန် အကြောင်းဖြစ်၏"။

ဗီး၁ရီ။

---

## အခန်း ၃၀။

အပိုဒ်(၁)နှင့် (၂)တို့၏ ဆိုလိုရင်းအချုပ်မှာ တပါးသူတို့အား ဘေးဒုက္ခမသင့်စေနိုင်သော အမှုသည်မှန်ကန်ခြင်းဖြစ်၏၊ ဘေးဒုက္ခ သင့်စေနိုင်သော အမှုသည် မှားယွင်းခြင်း ဖြစ်၏ဟု ဖြစ်ပေသည်။

၃။ "အမှားအမှန် သိရှိသော စိတ်ဟူသည်မှာ လူ့ကိုယ်တွင်း၌ ရောက်ရှိနေသော ဘုရားနှင့် ပမာတူ၏။

—ပူး လား။

---

## အခန်း ၃၁။

၁။ အမျက်မထွက်ခြင်းဟူရာ၌ မိမိဖက်ပြိုင်ခြင်းငှာ မစွမ်းနိုင်သော သူတို့ရှေ့တွင် ချုပ်တည်းလျက်၊ မိမိက နိုင်ချေရှိမည့် သူတို့ရှေ့တွင်ကား မချုပ်တည်းနိုင်လျှင် အချီးနှီးသာ ဖြစ်သည်။ စင်စစ် မိမိထက် အားကြီးသူအားငှင်း၊ မိမိထက် အားနည်းသူအားငှင်း၊ တတန်းတည်း ထား၍ အားလုံးအပေါ်တွင် ဒေါသ ချုပ်တည်းအပ်၏ဟု ဆိုလိုခြင်း ဖြစ်သည်။

"လူလားမြောက်သူတို့သည် လူမမယ်တို့အား ဘယ်အခါမျှ အမွှေ ပြုလေ့ ပြုထ မရှိပေ"။

—ရှိတ်စပီးယား။

ကုရယ်လ်အဖွင့်

၄။ ဤအပိုဒ်၌ မချုပ်တည်းနိုင်သောအတွင်း ဒေါသမီးသည် သူတော်စင်တို့အား ဖျက်စီးကြောင်း ဖြစ်သည်ဟု ဆိုလိုသည်။

"ဒေါသအမျက်တို့သည် (လူတို့၏) ကမ္ဘာရန် ဖြစ်၏"။

—တောမတ်ဖူးလား။

၅။ "ဝှက်ပျောပင်စသည်တို့၏ အသီးသည် မိမိတည်ရာ အပင်ကို ဖျက်ဆီးသကဲ့သို့ ဒေါသအမျက်သည်လည်း မိမိတည်ရာ ပုဂ္ဂိုလ်ကို ဖျက်ဆီးတတ်၏"။

—ဓမ္မပဒ။

၆။ ဒေါသတည်းဟူသော မီးသည် ဘဝပင်လယ်ကြောတွင် မြောလျက်ရှိသော လှေငယ်အား လောင်ကျွမ်းစေသောအခါ မိတ်ကောင်း အများပင် မီးတွင် ပါသွားတတ်သည်ဟု ဆိုလိုသည်။

"ဒေါသအမျက် ချောင်းချောင်း ထွက်နေသူတို့သည် မိမိအကျိုး ကို အများဆုံး လိုလားသူများကိုပင်လည်း ရန်ပြုတတ်၏"။

—ရှိတ်စပီးယား။

၇။ "မိမိ၏ ဒေါသဖြင့် တိုက်ခိုက် ထိုးနှံချက်များသည် နောက်ဆုံးတွင် မိမိအားသာ အနာတရဖြစ်စေပေသည်"။

—ဝီးလျံပင်။

၈။ "ဒေါသဖြစ်ခြင်းသည် တပါးသူတို့ ပြုလုပ်သော မှုပြစ်များအတွက် မိမိကိုယ်ကိုပြန်၍ လက်စားချေခြင်းကဲ့သို့ ဖြစ်၏"။

—ပော၊ ပုပ်။

၉။ တကြိမ်တွင် တမန်တော် မိုဟာမက်ထံသို့ လူတယောက် ရောက်ရှိ လာ၍ 'မည်သို့ဆောင်ရွက်အပ်သည်ကို မိန့်မှတ်ပါလော့'ဟု တောင်းပန် လေသည်၊ ထိုအခါ မိုဟာမက် သခင်က "ဒေါသမဖြစ်နှင့်" ဟူ၍ တလုံးတည်းသာ ဟော ကြား၍၊ ထိုသူသည်ပထမ မေးခွန်းကိုပင် အကြိမ်ကြိမ်ထပ်၍ မေးရာ မိုဟာမက် သခင်ကလည်း တခုတည်းသော အဖြေဖြင့်သာ မိန့်မှတ်တော် မူလေသည်။

—မိုဟာမက်၏ ဟောကြားချက်များမှ။

၁၀။ "အဘယ်သူသည် အင်အားကြီးတိ သနည်း၊ မိမိ၏ စိတ်အဟုန်ကို ထိန်းသိမ်း နိုင်သူသည် အင်အားကြီးသူ ဖြစ်သည်"။

—တယ်လမွတ်။



# အခန်း ၃၂။

ဤအခန်း၏ ခေါင်းစဉ်အတွက် 'အပဒ်'သာ' ဟူသော စကားလုံးသည် အသင့်မြတ်ဆုံးဖြစ်၏။ အပဒ်သာသည် ခန္တီဝါဒလည်းဖြစ်၏၊ သေးရန်မပြုရေးကိုအဓိကထား၏၊ ရှေးခေတ်မှစ၍ အိန္ဒိယနိုင်ငံသားတို့၏ လက်သုံး ဝါဒတခုဖြစ်ခဲ့သည်၊ ခေတ်သစ်တွင် ဤဝါဒကိုထင်ပေါ်အောင်လုပ်ခဲ့သူမှာ ကွယ်လွန်သူ မဟတ္တမ ဂန္ဒီဖြစ်လေသည်။

၁။ 'အဖြစ်ကင်းစင်သော သူတို့ ဟူရာ၌ လောဘ၊ ဒေါသ၊ မောဟတို့မှ ကင်းစင်ပြီးဖြစ်သောသူတို့ကို ဆိုလိုသည်၊ သူတော်စင်တို့သည် ဤသို့ပြုခြင်းဖြင့် သိဒ္ဓိကျော်ဇောခြင်း ရှိမည်ဆိုသော်မှ ထိုအလုပ်သည် တစုံတယောက်အား ထိခိုက်နာကျင်မှု ဖြစ်စေလျှင် မလုပ်အပ်ပေ။

၂။ "လူတို့၏ ထင်ရှားခြင်းကား တပါးသူ၏ ဖြစ်မှုတရပ်ကိုလှစ်လျူရှုခြင်းဖြစ်၏"။

—ဆော်လမွန်။

၄။ "နာကျင်ခံစားရခြင်းကို ကြင်နာခြင်းဖြင့် ဖြေဖျောက်ပါလော့"။

—တရုပ်ပညာရှိ လာအိုဇီ။

"မည်သူကမဆို သင်၏လက်ျာပါးကိုလာ၍ပုတ်ခတ်သည်ရှိသော် အခြားတခြားတဘက်ကိုလည်း ထိုး၍ ပေးပါလော့"။

—သမ္မာကျမ်းစာသစ်။

၅။ "တခြားသူတို့၏ ကြေကွဲဝမ်းနည်းမှုကို ကြည့်၍ အရည်မပျော် နိုင်သော၊ ကျောက်ဖြင့် ပြီးသည့်အသဲရှိသူတို့သည် ရှက်ဘွယ် လိလိတကား"။

—ဟေ၊တီးလ်။

၆။ "အမှားပြုသူတို့သည် အမှား၏ အပြစ်ဒဏ်ကို ခံရမည်သာ"။

—ကူရ်အန်ကျမ်းမြတ်။

"အဆိုးဆုံးသော အမှုတို့၏ နောက်မှ အဆိုးဆုံးသော အကျိုး တရားတို့ ထက်ချပ် လိုက်လိမ့်မည်"။

—မီလတန်။

"မိမိစိုက်ပျိုးသော သီးနှံကို ရိုပ်သိမ်းရမည်၊ စိုက်လိုက်သော အားနှင့်၊ တူသောအားသည် ပြန်၍သက်ရောက်ရမည် အမြဲဖြစ်သည်"။
—ကဗျာဆရာရှယ်လီ။

"တွင်းတူးနေသောသူသည် တွင်းထဲသို့ကျတတ်၏"။
—သမ္မာကျမ်းဟောင်း။



## အခန်း ၃၃။

ဤအခန်းမှာအသက်မသတ်အပ်ကြောင်းကို ပြဆို၏၊ သက်နေတို့၏ ဘဝ ဟူသမျှကို တန်ဘိုးထားအပ်သည်ဟုဆို၏။ အသက်မသတ်အပ်ကြောင်းစုံ့ ဘာသာအစရှိသော ဘာသာကြီး များ၏ အဆုံးအမဥ္စပါရှိ၏၊ ငါးပါးသီလခံယူရာ၌အသက် မသတ်ပါဟု အာမဘာန္တေ ခံခြင်းသည် သီလတပါးဖြစ်၏။

အချို့ပုဂ္ဂိုလ်များက ဤခန်းပါအဆိုအမိန့်တို့သည် ကောင်းလှ၏၊ အခြား အခန်းပါ အဆိုအမိန့်တို့ထက် လွန်ကဲစွာပေါ်လွင်လှသည်၊ အတိအကျ လိုက်နာသင့်၏ဟု ဆိုကြ ပေသည်။

---

## အခန်း ၃၄။

ရုပ်ဝတ္ထုပစ္စည်းတို့၏ တည်မြဲခြင်းမရှိသော တရားကို ဤခန်း၌ပြဆိုထားကြသည်၊ ဤသဒ္ဒါဘာသည် ဗုဒ္ဓဘာသာ အဆုံးအမနှင့်လည်း ညီညွတ်၏၊ လောကီတွင် ရှိရှိသမျှ ပစ္စည်းတို့သည် တည်မြဲခြင်း မရှိကြောင်းကို သဘောပေါက်သောအခါမှ ဝိညာဉ်သည် လောကီအနှောင်အဖွဲ့တို့နှင့် ကင်းရှင်းအောင် ဖြတ်တောက်နိုင်မည်ဟု ဆိုလေသည်၊

၄၊ "မသုံးရသေးသော (အချိန်) များကို ကောင်းစွာ အသုံးချပါလော့"၊

–အိုမာခေယမ်၊

၄၊ "အချိန်နာရီတို့သည် တချက်ချက် မြည်၍ လူ့အသက်ပေါင်း များစွာကို နှုတ်ယူနေကြပေသည်"။

–လော့ဒ်တင်နီဆွန်း။

"အိုအချင်း၊ အချိန်သည် သွား၍ နေသည်ဟု သင်ဆိုသလော၊မဟုတ်ပါလေ၊အချိန်မှာ တည်ရှိလျက် ငါတို့သာ သွားနေရခြင်းပေ"။

–အော်စတင်ဒေါ့ဗဆင်။

၅၊ "ဘဝသည် များစွာရှည်လျားလှသည် မဟုတ်ဟူသည်ကိုဇင်း၊ ထိုဘဝသည်ပင် သာမန်ရှည်လျားသော အချိန်ထက် တိုတောင်းတတ်သည်ကိုဇင်း၊ သိရှိခြင်းသည် မိမိလုပ်ကိုင်လိုသော ကိစ္စများကို ဆောလျင်စွာ လုပ်ကိုင်နိုင်ရန် သတိနှိုးပေးသကဲ့သို့ပင် ဖြစ်လေသည်။

–ဒေါက်တာဂျွန်ဆင်၊

၉။ ဘဝဟူသည် တိုတောင်းလှ၏၊ မြော်လင့်ချက် အနည်းငယ်၊ စိတ်ကူးယဉ်ခြင်း အနည်းငယ်ကို ပြုလုပ်ပြီးနောက် အိပ်ချိန်သို့ ရောက်လေသည်။

—လီယွန် ဗီမွန်တီနက်ကင်။

---

## အခန်း ၃၅။

စွန့်လွှတ်ခြင်းဆိုသည်မှာ ကိုယ်ပိုင် ပစ္စည်းဥစ္စာများ၊ သာမကဘဲ လောကီ သံယောဇဉ်အားလုံးနှင့် မိမိ၏ တည်မြဲသော ခန္ဓာကိုယ်ကြီးကိုပါ ဆိုလိုသည်၊ မည်သည့် အရာမှမတည်မြဲကြောင်း သိပါမှလည်း စွန့်လွှတ်ခြင်းကို ပိုင်နိုင်စွာ ပြုလုပ်နိုင်လိမ့်မည်။ ရှေ့ အခန်းများ၌ စွန့်လွှတ်ခြင်း တရားကို လက်ကိုင်ထား နိုင်ရေးအတွက် ဦးတည်၍ လမ်းညွှန်ချက်များ ပါလေသည်။

၁။ "လူတယောက်၏ ကြွယ်ဝမှုဆိုသည်မှာ မိမိသည် မည်မျှ များပြားသော အရာဝတ္ထုများကို ပယ်ရှားနိုင်သည် ဟူသော အရေအတွက် ပေါ်တွင် တည်လေသည်"။

—ဟင်နရီဒေးဗစ်သိုးရူး။

အကျွန်ုပ်တို့၌ လိုအင်ဆန္ဒနည်းပါးသည်နှင့်အမျှ ဘုရားအဖြစ် အနေနှင့် နီးစပ်ပေသည်။

—ဆိုကရေးတီး။

---

## အခန်း ၃၆။

မှန်ကန်စွာ သိခြင်းဟူသည်မှာ မှန်ကန်သော တရားကို သိခြင်း (ဝါ) မမြဲသော တရားကို သိခြင်းဖြစ်လေသည်။ အမြင်မှန် မရလျှင် မှန်ကန်သော တရားကို အားမထုတ်နိုင်သည် သာမက မကောင်းမှု များမှလည်း, ရှောင်ကွင်းနိုင်မည် မဟုတ်ကြောင်း ပြဆိုထားသည်။

၆။ သစ္စာတရားကို သိရှိလာသောအခါ သင့်အား သစ္စာတရားက လွတ်မြောက်ရေးကို ပေးလိမ့်မည်။

သမ္မာကျမ်းစာသစ်။ -

---

## အခန်း ၃၇။

တပ်မက်ခြင်း တဏှာကြောင့် ဘဝအဆက်ဆက်ကို ကျင်လည်နေရသည်။ ထို့ကြောင့် တပ်မက်မှုကိုဖယ်ရှား၏ ပစ်ရာသည်။ ထို့ပြင် တပ်မက်မှုကို ဖန်တီး



စေနိုင်သော တွေးတော ယောင်မှားသည့် ပျော့ညံ့သော စိတ်ကို အမြစ်က သုတ်သင်ရေးကို ဆိုလိုသည်။

၃။ "တင်းတိမ်ရောင့်ရဲခြင်းသည် သဘာဝအားဖြင့် ရှိသော ကြွယ်ဝမှုပင်တည်း"။

—ဆိုကရေးတီး။

---

## အခန်း ၃၈။

ဤအခန်းသည် သုတေသီစဉ်တို့၏ အရည်အချင်းများ ဆိုင်ရာ အပိုင်းတွင် နောက်ဆုံးပိုင်းဖြစ်၍ အမည်အားဖြင့် ကံကြမ္မာဟုပေးထားသည်။ ဤအခန်းကိုဖွင့်ဆိုသူတို့က `ကံကြမ္မာဟူသည်မှာ မိမိပြုဘူးသော အမှုကို အကြောင်းပြု၍ ဖြစ်ပေါ်သော အကျိုးဆက် ဟူ၍ ဆိုသည်။ ဗုဒ္ဓဘာသာတို့၏ ခံယူချက်နှင့် သဘောချင်းတူ၏။ ပါဠိဘာသာအားဖြင့် ဤအခန်း၏ အမည်ကို 'ကမ္မ' ဟုပေးရမည်။ ဖြစ်ဖွယ်ထင်သည်။ ဒေါက်တာရာဒါကရစ်ရှနာက မိမိ၏ "ဟိန္ဒူတို့၏ ဘဝအမြင်" ခေါ် စာအုပ်၌ ကမ္မဟူသော စကားလုံး၏ အနက်ကို တမျိုးပေးထား၏။ ထိုပုဂ္ဂိုလ်ကြီးက ကမ္မဟူသည်မှာ လူတဦး တယောက်အား မိမိရှေးက ပြုဘူးသော အကျိုးဆက်ကြောင့် ရရှိလာစေသော ပစ္စည်းဖြစ်၏။ သို့သော် ထို ပစ္စည်းကို မိမိဥာဏ်ရှိလျှင် ရှိသလို အသုံးပြုနိုင်သည်ဟု ဆိုထားလေသည်။

၁။ "ဖန်တီးလျှင်လည်း သူ၊ အဆီးအတားပြုလျှင်လည်း သူပင် ဖြစ်သည်"။

–ရှိတ်စပီးယား။

"ကံသာအမိ၊ ကံသာအဖ"။

–မြန်မာစကားဆိုရိုး။

၄။ "ချမ်းသာခြင်းများနှင့် ဂုဏ်သိမ်စည်းစိမ်များသည် ကောင်းကင် ဘုံ၌သာ တည်သည်"။

–ကွန် ဖျူး ရှပ်။

၇။ "ဘုရားရှင်က သင့်နဖူးပေါ်တွင် ရေးသားလိုက်သည့်အတိုင်း သင့်ထံသို့ ဆိုက် ရောက်ရသည်"။

–ကူအာန်ကျမ်းမြတ်။

"ယောက်ျား၏ မိန်းမမဆို၊ မွေးဖွားလာရသော သူများသည် ရဲရင့်သောသူ ဖြစ်စေ သူရဲဘောနည်းသူဖြစ်စေ၊ ကံကြမ္မာကို မလွှဲမရှောင်နိုင်ပေ။

22



## အခန်း ၃၉။

၂။ ဤအပိုဒ်တွင် ပါဝင်သော အရည်အချင်း လေးရပ်တို့မှာ မင်းလုပ်သူ တို့၌သာ မဟုတ်၊ လောကတွင် တိုးတက် လိုသူတို့ အတွက်လည်း ရှိအပ်သော အရည် အချင်းများဖြစ်သည်။

**အခန်း ၃၉–တခုလုံးသည် မနုကျမ်း၏ တူသည်ဟု ဆိုကြ၏။**

**အခန်း ၇–နှင့် အာဘော်ချင်း**

---

## အခန်း ၄၀။

၁။ "အကြင်သူသည် မိမိလေ့လာလိုက်စားသော ပညာများကိုမည်သို့မျှ အသုံးမချ ပါက စာအုပ်ပုံကြီးများနှင့် အတူ ဆန်ကုန်မြေလေးနေသော သတ္တဝါ တဦးမျှ ဖြစ်လေသည်"။

ဆာဒီ။

ဤအပိုဒ်သည် မင်းတို့အတွက် သာမက လူတိုင်းနှင့် သက်ဆိုင်၏။ ပညာရှာသော သူတို့သည် ပညာကိုရရှိလာပါက မိမိတို့ တတ်သိ ကြားနာပြီးဖြစ်သော ပညာအလိမ္မာနှင့်အညီ ကျင့်ကြံနေထိုင်ကြရန် တိုက်တွန်းခြင်း ဖြစ်သည်။

၅။ ဆရာ့ထံ ချဉ်းကပ်လာသော တပည့်သည် မည်သို့သော ဂုဏ်အဆင့် အတန်းရှိသည်ပင် ဖြစ်စေ၊ ဆရာ့အား ရိုကျိုးစွာ ဆည်းကပ်ရမည်၊ သူဖုန်းစားတို့သည် ဥစ္စာရှိသူတို့ထံတွင် တောင်းရမ်းသကဲ့သို့ ဦးနှိမ်ချ၍ ဆက်ဆံ ရမည်ဟု ဆိုလိုသည်။ အိန္ဒိယပြည်တွင် ဆရာသမားတို့အား လေးစားသမှုဖြင့် ဆက်ဆံအပ်သော အစဉ်အလာသည် ယခင် ရှေးခေတ်များကပင် ရှိခဲ့လေသည်။

၆။ တွင်းနက်စွာ တူးသည်နှင့်အမျှ တွင်းထဲမှ ရေထွက်ပေမည်ဟူသော စကားမှာ အိန္ဒိယပြည် တောင်ပိုင်းဒေသ၏ ပထဝီဝင်အရ သဲချောင်းများကို အဓိက ဆိုလိုရင်းဖြစ်ပေသည်။ သဲချောင်းများသည် တနှစ်လျှင်ရက်အနည်းငယ်မျှသာ ရေစီးတတ်၏။ သို့သော် ရေလိုချင်၍ သဲကိုယက်လျှင် အချိန်မရွေး ရေထွက်သည်။ တွင်းကို နက်နက်ယက်နိုင်လေလေ ရေများများရ၍ ရသောရေမှာ ကြည်လင်သန့်ရှင်းလေလေ ဖြစ်ပေသည်။

၇။ "ကျွန်ုပ်သည် အင်ယူလေ့ကျက်လျက်သာ ရှိပါသေးသည်"။

—မိုက်ကယ်အိန်ဂျဲလို။

ကုရယ်လ်အဖွင့်

"လေ့လာသင်ကြားရန် အရွယ်လွန်ပြီဟု ဆိုသူတို့သည် အစဉ်သဖြင့် အရွယ်လွန်၍ နေသော ဘဝနှင့် ရှိကြလိမ့်မည်"။

ဟင်နရီ ဟပ်စကင်း။

၁၀။ "ပညာရှာမှု၌ ရင်းနှီး မြှုပ်နှံသူတို့သည် အစဉ်သဖြင့် အကောင်းဆုံးသော အတိုးအပွားကို ရရှိပေသည်"။

–ဖရန်ကလင်။

---

## အခန်း ၄၁။

အခန်း ၄၁- တခုလုံးသည် ပညာမဲ့သောအဖြစ် မတင့်တယ်ပုံနှင့် ပညာမဲ့သူတို့၌ အကျိုးမပြီးကြောင်းကို ပုံဥပမာ အမျိုးမျိုးတို့ဖြင့် ပြဆိုထားခြင်း ဖြစ်လေသည်။

## ၁။ "ဆိတ်ဆိတ်နေက ထောင်တန်၏"။

–မြန်မာစကားပုံ။

"နှုတ်လျှာကို ထိန်းသိမ်းသူသည် ပညာရှိဖြစ်၏"။

စကားပုံအခန်း၊ သမ္မာကျမ်းစာ။

၁၀။ လူတယောက်သည် ပညာတတ်မြောက်ခြင်း မရှိသေးသမျှ လူတလုံး သူတလုံး ဖြစ်သည်ဟု မဆိုနိုင်သေးပေ''။

—အိပ်ချ်ျ၊ မန်း။

---

## အခန်း ၄၂။

ကြားနာ မှတ်သားရခြင်းဟူ၍ ဤအခန်းကို အမည်ပေးရာ၌ ရှေးက ပညာဗဟုသုတ ရှာလိုသူတို့သည် ယခုခေတ် ကျောင်းများ၊ တက္ကသိုလ်များမှာ ကဲ့သို့ ရေးကူးမှတ်သားရခြင်း အလေ့အလာ နည်းပါးလျက်၊ ပညာရှိတို့၏ ဟောပြောချက်များကို ဆည်းကပ် နားထောင်မှတ်သားခြင်းဖြင့်သာ ပညာကို ရရှိလေသည်။ အိန္ဒိယပြည်တွင် ရှေးခေတ်က ဤအလေ့ အလွန် ထွန်းကားခဲ့လေသည်။

---

## အခန်း ၄၃။

ဤအခန်း၌ ဉာဏ်ပညာအမြော်အမြင် ဆိုသည်မှာ ကြားနာ မှတ်သားခြင်း၊ လေ့လာခြင်းတို့မှ ရရှိသော ပညာဉာဏ်ကို ဆိုလိုသည်။

၁၆၂ ကုရယ်လ်အဖွင့်

၁။ ''ပညာဉာဏ်ထို မည်သည် ဘေးဒုက္ခတို့မှ တဖြေးဖြေးချင်း ကာကွယ်နိုင်လေသည်။ ထို့သော်နောက်ဆုံးတွင် အလွန်သေချာမြဲမြံသော နည်းဖြစ်ပေသည်''။

ဂိုးလ်စမစ်။

၂။ "စစ်မှန်သော ပညာဥာဏ်တို့ဟူသည်မှာ မည်သည့်အရာကို သိရှိရန် အကောင်းဆုံးဖြစ်သည်၊ မည်သည့် အရာကို ဆောင်ရွက်ရန် အသင့်ဆုံး ဖြစ်သည် တို့ကို ညွှန်ပြနိုင်ခြင်း ဖြစ်လေသည်။

—ဟင်ဖရီ

"ပညာဥာဏ်၏ ကောင်းမြတ်မှုမှာ လောကတွင် မည်သည့် နည်းဖြင့် ကျင့်ကြံ နေထိုင် အပ်သည်ကို ခွဲခြား သိရှိစေခြင်း ဖြစ်သည်။

—ဆာ၊ ပီ၊ အစ်ဒနီ။

၆။ "ကရိကျွန်းသို့ ရောက်သောအခါ၊ ကရိကျွန်းသားတို့၏ အလေ့အလာအတိုင်း ပြုကျင့်ရာ၏"။

—ဂရိစကားပုံများ။

၁၀။ "ပညာ၏ တန်ဘိုးသည် ကျောက်သံပတ္တမြားတို့ထက် သာလွန်ပေသည်"။

---

သမ္မာ ကျမ်း စ ၁ ။

## အခန်း ၄၄။

၆။ မိမိအိမ်နီးချင်းများ၏ အကြိမ်ထောင်သောင်းမျှသော ပြစ်မှုများသည် မိမိ၏ သေးငယ်သော ပြစ်မှုပုံသည်လောက် မကြီးနိုင်ပေ။

—ဝိတ်ဘာလီ။

---

## အခန်း ၄၅။

ဤအခန်းသည် မင်းလုပ်အုပ်ချုပ်သူတို့အား ပညာရှိ၊ သူတော်ကောင်းများ၏ အကြံဉာဏ်ကိုယူ၍ အုပ်ချုပ်လျှင် တိုင်းပြည်ကို အမြော်အမြင် ပြည့်စုံစွာဖြင့် အုပ်ချုပ်နိုင်ကြောင်း ပြဆိုခြင်း ဖြစ်သည်။

၁။ "နားလည်တတ်သိသူ တဦးသည် အမြော်အမြင် ရှိသူတို့၏ အကြံဉာဏ်ကို လက်ခံ တောင်းယူလိမ့်မည် ဖြစ်သည်"။

စကားပုံ များ။

ကုရယ်လ်အဖွင့် ၁၆၃

"စီးပွား ဖွံ့ဖြိုးသူတို့သည်
ခဲ့သည်သာတည်း"။

မိမိတို့မိတ်ဆွေများ၏ထံမှ အကြံဉာဏ် ရယူ
—ရှိတ်စပီးယား။

၆။ "မိတ်ဆွေတို့၏
အကြံဉာဏ်သည် ရန်သူများစွာတို့အား အောင်မြင် နိုင်၏"။
- ရှိတ်စပီးယား။

၇။ "အကူအညီ အကြံဉာဏ်မရသူတို့သည် ပျက်စီး
ရမည်သာ"။

ကား ပု မျှား။

သ

မှာ ကျမ်း စာ။

“မင်းညီ မင်းသာတဦးသည်
ရာ၏”။

အကြံဥာဏ်ဟူသမျှကို အမြဲတစေ လက်ခံ
မ ဣ ယာ ဗယ် လီ။

---

အခန်း ၄၆။

၂။

“ကျွန်ုပ်တို့သည် ပုတ်သင်နှင့်ပမာတူ၏။ ကိုယ်မှ ( အကျင့် တရားဆိုင်ရာ ) အ
ရောင်များမှာ အနီးပတ်ဝန်းကျင်ရှိ အရာများကို မှီဖြစ်၍ ဖြစ်ပေါ်တတ်

လေသည်”။

–ဂျွန်၊လောက်။

၃။ "လူသည် မျိုးရိုးဗီဇဆင်းသက်မှုသက်သက်ကိုချည်း မှီ၍ ဖြစ်ပေါ်သည်မဟုတ်၊ ပတ်ဝန်းကျင်မှ ရရှိသော အလေ့အလာများပေါ်တွင်လည်း မှီ၍ ဖြစ်ပေါ်လေသည်။

-ဂျွန်၊ လောက်။

## ၁၀။ "ကောက်ကျစ်သော သူတို့၏ လမ်းကြောင်းသို့ တို့၏ လမ်းသို့ မလိုက်မိပါစေနှင့်။

မဝင်မိပါစေနှင့်၊ ဒုစရိုက်သား

-စကားပုံများ။

---

အခန်း ၄၇။

၄။ ကျွန်ုပ်တို့ပြုရန် မဟာအမှုကြီးသည်ကား အဝေးတွင် မထင်မရှား ဝိုးတဝါး ရှိသည်ကိုကြည့်ရှုရန်မဟုတ်၊ ချက်ချင်းလက်ငင်းကွက်ကွင်းစွာရှိသည့်လက်ဝယ်ကိစ္စကို ကြည့်ရှု ဆောင်ရွက်ရန် ဖြစ်သည်"။

-ကာလိုင်။



၆။ "တရားမျှတမှုနှင့်ရင်း၊ ပိုင်ဆိုင်မှုနှင့်ရင်း၊ သံသယ ရှိဖွယ်ကိစ္စတို့ကို ဘယ်အခါမျှ မလုပ်ပါနှင့်။

-လက်တင်။

## ၇။ "စဉ်းစားကြံဆရာတွင် သတိရှိရာ၏။

ဆောင်ရွက်ရာတွင် ပြတ်သားရာ၏"။
—ကော်လတင်။

## အခန်း ၄၇။

ဤအခန်း၌ အလုပ်တခုကို လုပ်ရာတွင် မဆင်မခြင် မလုပ်အပ်ကြောင်း၊ ပြောဆိုခြင်းဖြစ်သည်။ တခုခုကို ပြုလုပ်တော့မည်ဆိုလျှင် အင်အားလေးမျိုးကို သိအပ်ကြောင်းအပိုဒ်(၁) ၌ဖော်ပြထားသည်၊ ယင်းတို့မှာ မိမိပြုလုပ်သည့် အမှု၏ အင်အား၊ မိမိ၏ ကိုယ်ပိုင်အင်အား၊ ရန်သူ၏ အင်အား၊မဟာမိတ်တို့၏ အင်အား စသည်ဖြင့် ဖြစ်လေသည်။

၃။ "ကိုယ်တွေ့ ဗဟုသုတအရ သင်ခန်းစာရခဲ့သည်မှာ၊ ကျွန်ုပ်တို့သည် သည်းခံစောင့်စားခြင်း မရှိဘဲ ပြုလုပ်သောကြောင့် ပျက်စီးရခြင်း ဖြစ်လေသည်"။
—မွန်တိန်း။

၅။ "မည်သည့် အရာပင် ဖြစ်စေ လွန်ကဲလျှင် မကောင်းဟူသည်ကို ဘဝလက်သုံး ဥပဒေသအဖြစ် ကျွန်ုပ် မှတ်ယူပါမည်"။

၆။ မသိနားမလည်ဘဲ ဝန့်ဝန့်စားစား ပြုသူသည် ဘေးဒုက္ခ သင့်တတ်သည်ဟု ဤအပိုဒ်၌ ဆိုလိုသည်။

၇။ အချို့ အဖွင့်ဆရာတို့၏ အလိုအရ ဤအပိုဒ်ပါဆိုလိုချက်မှာ ရှိပစ္စည်းကိုလေးပုံ ပုံ၍ နှစ်ဖို့ကိုသုံး၊ တဖို့ကိုစုဆောင်း၊ တဖို့ကိုလှူသင့်သည်ဟု ရှေးဆိုရိုးရှိကြောင်း ရှင်းလင်းကြသည်။

၈။ ဤအပိုဒ်၌ တိုင်းပြည်ဝင်ငွေနှင့် ချင့်ချိန်သုံးရန် ညွှန်ကြားခြင်း ဖြစ်သည်။ ခေတ်သစ် ဘောဂဗေဒ အလိုအရ ပိုငွေဗတ်ဂျက်များသာရှိသင့်သည်။ ဖိုငွေဗတ်ဂျက် မဖြစ်နိုင်လျှင် အဝင်အထွက် မျှတသော ဗတ်ဂျက်ဖြစ်ရမည်။ လိုငွေဗတ်ဂျက် ဖြစ်လျှင်ကား မသင့်ဟု ကျမ်းပြုဆရာ ထေလုဗာလုဗာက ဆိုလိုကြောင်း အိန္ဒိယ အမျိုးသား အဖွင့်ဆရာတို့ဆိုကြသည်။

အကြောင်းသို့၌ ဝင်ငွေက ထွက်ငွေထက် ပိုလျှင် ချမ်းသာ၏။ ထွက်ငွေက ဝင်ငွေထက် ပိုလျှင်ကား ဆင်းရဲပေသည်။

—လာဗရွယေး။

# ကုရယ်လ်အဖွင့် ၁၆၅

## အခန်း ၄၉။

၁။ ဤအပိုဒ်ပါ ဖြစ်ရပ်မှာ ပဉ္စတံတျတွင်ပါဝင်သော ဇာတ်လမ်းတခု ဖြစ်သည်။

၃။ လူ့အရေး လူကိစ္စတို့၌ ဒီရေကဲ့သို့ သဘောသည်ရှိ၏။ ဒီလှိုင်းစီး၍ လိုက်ပါစဉ်သခ ချမ်းသာသို့ ရောက်တတ်၏။ —ရှိတ်စပီးယား။

၄။ "အချိန်ကို အကဲဖြစ် ဆောင်ရွက်ခြင်းမှာ လေသည်"။

ဆုံးဖြတ်မှု၌ အရေးအပါဆုံး ဖြစ်

—ဝီလျံ ဖဲသား။

"အချိန်ကို ရွေးခြင်းသည် အချိန်ကို
ဖြစ်သည်"။

မလစ်ဟင်းအောင် အသုံးချခြင်း
–ဗေကွန်။

၆။ "သတ္တိရှိခြင်း၏ ကောင်းမြတ်သော အပိုင်းသည်
ဆုံးဖြတ်နိုင်မှု ဖြစ်ပေသည်"။
–ရှိတ်စပီးယား။

၉။ "လူတို့အတွက် လောကတွင် အောင်မြင်ကြောင်း လျှို့ဝှက်တရားကား အခြေ
အနေအခါအခွင့် သင့်လာလျှင် ထိုအခါအခွင့်အတွက် အဆင်သင့် ဖြစ်နေစေ
ခြင်းပေတည်း"။ –ဒစ္စရေလီ၊

---

## အခန်း ၅၀။

အခန်း ၄၉–နှင့် ၅၀–တို့သည် ရန်သူကို တိုက်ခိုက်ရာ၌ အောင်နိုင်ရေး
အကြောင်းများကို ပြဆိုထားခြင်း ဖြစ်သည်။ ပထမ အခန်း၌ အခါအခွင့်ကို
သိရှိအပ်ကြောင်း ဆိုလို၍ ဒုတိယအခန်းတွင် နေရာကောင်းကို ရရှိရန် နှိုးဆော်
ထားသည်။

၁။ "ကာကွယ်ရေး၌ ရန်သူကို မိမိက အားကြီးသည်ထင်သည်ထက် ပို၍တွက်ခြင်း
သည်အကောင်းဆုံး ဖြစ်ပေသည်"။
–ရှိတ်စပီးယား။

၇။ "ပြိုင်ပွဲတို့မည်သည် လျင်မြန်သူနှင့် အားကြီးသူတို့အတွက်ချည်း မဟုတ်ပေ"။
–သမ္မာကျမ်းဟောင်း။

---

အခန်း ၅၁။

၃။ "ကျွန်ုပ်တို့အထဲ၌ ပညာအလိမ္မာ အရှိဆုံးဟုဆိုသူတို့ပင်လည်း တစုံ တခုသော ကိစ္စ၌ ရှုံးမိုက်ခြင်း ရှိတတ်သေး၏။

—ရစ်ချတ်ဆင်။



"ပညာအရှိဆုံး ဆိုသူတို့လည်း မိမိတို့ကိုယ်ကို သက်သေမထူနိုင်ကြပေ"။

ရှုံးမိုက်ခြင်း မရှိကြောင်း

—တင်နီဆွန်း

"သူတော်စင်တို့၌ပင် ဦးနှောက်၏ သဘောကိန်းအောင်းနေတတ်သေး၏။

ထောင့်တနေရာ၌ ရှုံးမိုက်တတ်သော

—အာရစ္စတော်တယ်။

၇။ အလုပ်ခန့်ထားရာတွင်ဂတိလိုက်စားခြင်းကားခေတ်သစ်တွင်ရှင်း၊ခေတ်ဟောင်းတွင်ရှင်း၊ ပေါ်ပေါက်ခဲ့သော အလေ့အထပင် ဖြစ်၏။ မည်သည့် ခေတ်၌ပင် ဖြစ်စေ ဤအလေ့အလာကို ပယ်ရှားနိုင်လျှင် အောင်မြင်ကြောင်းပင် ဖြစ်လေသည်။

---

## အခန်း ၅၂။

၂။ ဤအပိုဒ်တွင် ဇာတိုင်းပြည်၏ စီးပွားဘဏ္ဍာတို့ကို ထိန်းသိမ်းရန်တာဝန်ကို ထမ်းဆောင်အံ့သော ပုဂ္ဂိုလ်တို့အား ရွေးချယ်ရာတွင် ဆင်ခြင် နှိုင်းချိန်ပြီးမှ ခန့်အပ်ရန် သတိပေး ဖော်ပြထားခြင်း ဖြစ်သည်။

၃။ ဤအပိုဒ်၌ ပြဆိုထားသော အရည်အချင်းလေးမျိုး ဟူရာ၌ မေတ္တာထားခြင်း ဟူသည်မှာ သစ္စာစောင့်သိ ရှိသောခြင်းဟူသော သဘောကို ဆိုလိုသည်ဟူ၏။ စိတ်တည်ကြည်ခြင်း ဟူသည်မှာ စိတ်အကြံအစီ ပြတ်သား ရှင်းလင်းခြင်း ဟူသောသဘောကို ယူရမည်။တပ်မက်မှု ကင်းခြင်း ဆိုသည်မှာ မိမိအား ပေးအပ်ထားသော ရာထူးတာဝန်ကို အကြောင်းပြု၍ အကျိုးအမြတ် မထုတ်တတ်သော သဘောကို ဆိုလိုပေသည်။

၄။ အထက်ပါ အရည်အချင်းများကို ထောက်ရှု၍ ရွေးချယ်ပင် ရွေးချယ်ငြားသော်လည်း လူတို့မည်သည် ရောက်ရှိသော ရာထူးတာဝန်ကို လိုက်၍ မူလစိတ်ထား၊ မူလအရည်အသွေးမျိုး မဟုတ်တော့ဘဲ နောင်အခါ ပြောင်းလဲခြင်း ရှိတတ်ကြောင်း ဤအပိုဒ်၌ ဆိုလိုသည်။

---

## အခန်း ၅၃။

ဤအခန်းတွင် ရာထူးဂုဏ်သိမ်ကြီးမြင့်သော သူတို့သည် အဆွေအမျိုးတို့အား စောင့်ရှောက်အပ်ကြောင်း ပြဆိုထားခြင်း ဤအလေ့အထမှာ အိန္ဒိယ ပြည်၌ ရှေးကပင်ရှိခဲ့၏။ သို့သော် ပြုသင့်သည်ထက်ပို၍ ချီးမြှောက် မိလျှင် ဤအချက်သည် စီးပွားဖြစ်ကြောင်း တရားဖြစ်သည်နှင့် အမျှ ပျက်စီးကြောင်း တရားလည်း ဖြစ်နိုင်ပေသည်။



## အခန်း ၅၄။

လောကီစည်းစိမ်တို့ကို ကောင်းမွန်စွာ စံစားနေစဉ်အခါတွင် ပြုလုပ်သင့်သည် အခါ၌ပြုလုပ်သင့်သော အစီအမံ အကွပ်အကဲတို့ကို မေ့လျော့၍နေတတ်သည်၊ ထိုအခါ အခွင့်မျိုးကို မိမိအား ရန်လိုသူတို့က စောင့်ကြည့်၍ နေတတ်ကြောင်း သတိပေးထားခြင်း ဖြစ်သည်။

၉။ "စီးပွားဥစ္စာ ပြည့်စုံကုံလုံခြင်းသည် လူတဦးတယောက်၏ ဂုဏ်ပုဒ်ကို မှတ်ကျောက်တင်ခြင်းဖြစ်၏။ အကြောင်းမူကားဆင်းရဲပင်ပန်းခြင်းဒုက္ခကို ခံရသည် ထက်၊ စည်းစိမ်ချမ်းသာကို ခံစား၍ မတုန်မလှုပ်နေနိုင်ခြင်းက ပို၍ ခက်ခဲသော ကြောင့်ဖြစ်သည်။"

—တက်စီတပ်၊

---

## အခန်း ၅၅။

၄။ "ဘုရင်မင်းစိုးတို့သည် ထဉီးတည်း အာဏာပိုင်လိုကြ၏။ ထိုသို့ အာဏာပိုင်လို လျှင် တိုင်းသူပြည်သားတို့၏ ချစ်ကြည်ညိုခြင်းကို ခံရအောင် ပြုလုပ်ခြင်းသည် အကောင်းဆုံး နည်းဖြစ်သည်ဟု ရံဖန်ရံခါ ပြောဆိုကြသည်၊"

—ရှုးဆိုး။

"တိုင်းသူပြည်သားများ၏ နှလုံးသားပေါ်၌ တည်ဆောက် ထားသော ရာဇပလ္လင်တွင် ထိုင်ရသော မင်းတို့သည် ပျော်ရွှင်ကြရပေသည်။"

—ဖိုဒ်။

"မင်းကောင်း တယောက်ဟူသည်မှာ နိုင်ငံ၀န်ထမ်းကောင်း တဦးပင် ဖြစ်လေသည်။"

—ဗင်ဂျန် ဆင်။

၆။ "တရားမျှတမှုဖြင့် အုပ်ချုပ်ခြင်းသည် မဏ္ဍိုင်ကြီး ဖြစ်ပေသည်။"

နိုင်ငံအစိုးရတို့၏ အ ခိုင် မြဲ ဆုံး သော

—ဂျော့၀ပ်ရှင်တန်။

၇။ "ဆင်းရဲသား ပြည်သူတို့အား တရားသဖြင့် အုပ်စိုးသောမင်းတို့၏ ရာထူး အခြေသည် ထာ၀ရ တည်မြဲလိမ့်မည်။"

—သမ္မာ ကျမ်းစာ။

## အခန်း ၅၆။

၅။

"ရာဇဝတ်သားတို့အား အကျိုးရှိအောင် အပြစ်ပေးရာ၏၊ လူတယောက်အား ကြိုးပေးသတ်ဖြတ်ခြင်းဖြင့် သူသည်မည်သို့မှ အသုံးမဝင်တော့ပေ၊"

—ဗေါလတဲယား။

၇။ "သက်ညှာခြင်းသည် မင်းကောင်းစင်စစ်တို့၏ အသေချာဆုံး မှတ်ကျောက်ပင် ဖြစ်လေသည်"။

—ကော်နီးလ်။

---

## အခန်း ၅၇။

၁။ "အပြစ်ပေးခြင်း၏ ရည်ရွယ်ချက်သည် မကောင်းမှုမှ ကာကွယ်လိုခြင်း

ဖြစ်သည်။"

–ဟိုးရေးစ်မန်း။

"အပြစ်းပေးခြင်း၌ ရည်ရွယ်ချက် သုံးရပ်ရှိသည်၊ အတုံ့အလှည့် ပြုလိုခြင်း၊ လူ့အဖွဲ့အစည်းကို ကာကွယ်ရန်ဖြစ်ခြင်း၊ အပြစ်ပြုသူအား ပြုပြင်ပေးလိုခြင်းတို့ ဖြစ်လေသည်။"

–တိုင်ရုံ အက်ဒွပ်။

၂။ "အပြစ်ပေးခြင်း မခံရမီအချိန်ပိုင်းသည် အပြစ်ပေးခြင်း၌ အပြင်းဝါဆုံး အပိုင်းဖြစ်၏"။

–ဆီနီကာ၊

၃။ "အပြစ်ပေးခြင်းကို အကျိုးဖြစ်စေရန်အတွက် အချက် နှစ်ရပ် လိုအပ်သည်၊ ယင်းတို့မှာ အပြစ်နှင့်လျော်သော ပမာဏရှိသည့် ပြစ်မှုကို ပေးခြင်းနှင့် သေချာမြဲမြံခြင်းတို့ဖြစ်သည်"။

–ဆင်းမ်စ်။

"တရားမျှတမှု ရှိစေရန်အတွက် လူတဦးသည် ရက်စက် ကြမ်းကြုတ်ရန်ရင်း၊ ပြစ်မှုပြင်းပြင်းထန်ထန် ပေးရန်ရင်း မလိုပေ"။

–ဂျယ်ရမီတေလာ။

ဤအခန်း၌ဖော်ပြထားချက်များသည်၊ အခန်း၅၅-တွင်ဖော်ပြထား သောမင်းတို့မည်သည် မျက်နှာသာမပေးဘဲ ပြတ်သားစွာ ဆောင်ရွက်အပ် ကြောင်းနှင့် ဆန့်ကျင်၍ မနေပါသလောဟုဆိုရန်ရှိ၏၊ အမှန်အားဖြင့်ဆန့်ကျင် ခြင်းမရှိပါပေ၊ ဤအခန်းရှိ အပိုဒ်များ၌ ဆိုလိုချက်အတိုချုပ်မှာ ကမ္ဘာကြီး သည် ကျယ်ပြောလှသောကြောင့် အပြစ် ပြုသူများစွာတို့ကို တွေ့ရမည် ဖြစ်သည်။ အပြစ် ပြုမိသူဟူသမျှကိုသာ အပြစ်ဒဏ် ထားနေရလျှင် လောက၌ လူ့ကိစ္စ လူ့အရေးတို့ကို ဆောင်ရွက်နိုင်တော့မည် မဟုတ်။ ထို့ကြောင့် လွတ် ငြိမ်းခွင့် ပြုသင့်သော အမှုတို့၌ လွတ်ငြိမ်းခွင့် ပြုရာ၏ဟု ဆိုလိုသည်။

---

## အခန်း ၅၉။

ဤအခန်း၌ မင်း၏မျက်လုံးအစုံတွင် တဖက်ကို အထောက်တော် များနှင့် ၎င်း၊ အခြားတဖက်ကို တရားဥပဒေများဖြင့် ခိုင်းနှိုင်းထားခြင်း ဖြစ်သည်။

---

## အခန်း ၆၀။

၄။ "အတွေ့ အကြုံက ပြဆိုသည်မှာ အောင်မြင်ခြင်းကို ဖြစ်စေရာ၌ လုပ်ရည် ကိုင်ရည်ထက် ကြိုးစားခြင်းက ပို၍ အရေးပါခြင်းဖြစ်သည်။ အောင်မြင် သူတို့ သည် မိမိတို့၏ အလုပ်ပေါ်တွင် စိတ်ရောကိုယ်ပါ မြှုပ်နှံ၍ အလုပ်လုပ်သူများ ဖြစ်ပေသည်"။

–ချားလ်စ် ဗတ်စတန်။

၅။ "မြဲမြဲမှန်မှန် ထက်သန်ခြင်း ရှိသူသည် အမြင့်သို့ မရောက်နိုင်သလော"။

–ဟင်နရီသိုးရူး။

၉။ "ဂုဏ်အချင်း အရာတို့မည်သည်ကား အားထုတ် လုပ်ကိုင်မှုပေါ်၌ တည်၏။ ရလာဒ်သည် အကြောင်းမဟုတ်ပေ"။

–အာရ်၊ အမ်၊ မိုင်းလ်စ်။

၁၀။

ဤအပိုဒ်၌ အချို့လူတို့သည် လူပုံသဏ္ဍာန်ကို ဆောင်လျက် သစ်ပင်များကဲ့သို့မှ အသုံးမဝင်ဟု ဆိုလိုသည်။

ရှိကြသော်လည်း

---



: . ခန်း ၆၁။

၂။ "သင်သည် အချိန်၏တန်ဘိုးကို မသိလျှင် ဂုဏ်သတင်းကျော်စောရန် မွေးဖွားလာသူတဦး မဖြစ်နိုင်ပေ"။

—ပေါ်ဇင်နာဂူ။

၃။ "လုပ်မယ်၊ လုပ်မယ်ဟူ၍ တပြင်ပြင်နှင့် အသက်ရှင်နေခဲ့သူသည် ဘာအလုပ်မှ မလုပ်ဖြစ်ဘဲ သေလွန်သွားတတ်၏"။

—ဂျေ၊ အက်ဗါရီ။

---

## အခန်း ၆၂။

၁။ "ရဲရင့်သောနှလုံးသား၌ မဖြစ်နိုင်ဟူသော အချက်သည် မရှိပေ"။

—စတုတ္ထ ဟင်နရီ(ပြင်သစ်)။

"မဖြစ်နိုင်ဟူသည်မှာ ပြင်သစ်ဘာသာတွင် မရှိပါလေ"။

—နပိုလျံ။

၂။ "ကောင်းစွာ အစပြုမိသော အလုပ်တခုကို ပြုသင့်ပြုအပ်ရာများပြီးဆုံး အောင်မြင်သည် အထိ မလုပ်ဘဲ လက်စနှင့် မချန်ကောင်းပေ"။

—ရှိတ်စပီးယား။

၅။ "ဘဝတွင် ကျွန်ုပ်ခံယူသော ဥပဒေသတရပ်မှာ အလုပ်ကိုကြည်ရွှင်စရာ သဘောဖြင့် လုပ်ဆောင်ခြင်း ဖြစ်ပေသည်။"

—အေရွှန်တား။

၆။ "ကြိုးစားမှုသည် ကံကောင်းထောက်မမှု၏ မိခင်ဖြစ်သည်။"

—စာပင်းတီး။

၇။ "များစွာသော ဆုံးရှုံးမှုတို့၏ အကြောင်းခံများမှာ၊ လုပ်ပုံကိုင်ပုံ နည်းနာလိုအပ်သောကြောင့်၊ ကြိုးစားလုံ့လ မပါသောကြောင့် ဖြစ်လေသည်။"

—အဲလဖရက် မာစီးယား။

## ကုရယ်လ်အဖွင့်

၁၇၁

"ဆင်းရဲခြင်း ဟူသည်မှာ သူ့ချည်းသက်သက်အားဖြင့် မည်သို့မျှဂုဏ်သိမ်နိမ့်ကျဘွယ်ရာမဟုတ်ပေ။ သို့သော် ဆင်းရဲခြင်းနှင့် ပျင်းရိခြင်း၊ မသိမ်းဆည်းခြင်း၊ ပလွှားခြင်း၊ လော်လီခြင်းတို့ ယှဉ်တွဲနေသောအခါမှ ဂုဏ်နိမ့်ဘွယ်ဖြစ်လေသည်။"

—ပလူးတပ်ချ်။

"ဆင်းရဲသည်ကို ဆင်းရဲကြောင်း ဖွင့်ဟပြောရရုံဖြင့် မည်သူ့ဥမ္မ ညှိုးငယ်ဖွယ် မရှိပေ။ သို့သော် ထိုဆင်းရဲခြင်းမှ လွတ်ကင်းအောင် ပြုလုပ်အားထုတ်ခြင်း ကင်းမှုသာလျှင် ညှိုးငယ်ဖွယ်စင်စစ် ဖြစ်ပေသည်။"

–သူစီဒိုက်။

၁၀။ "ငါသည် ငါ့ကံကြမ္မာကို ဖန်တည်းသူ ဖြစ်၏။
ငါသည် ငါ့ဝိဉာဉ်၏ မာလိန်မှူး
ဖြစ်၏။"
–ဗမ္မလျူ၊ အီ၊ ဟင်မလေ။

---

အခန်း ၆၃။

၁။ "အခက်အခဲတွင်
ထုတ်ခြင်းတို့သည်

ပြုံးရွှင်တတ်ခြင်းနှင့် ဇွဲနဘဲကောင်းစွာ ဆက်လက် အားချီးကျူးအံ့သြဘွယ် ကောင်းလှပေသည်။"

–ကာလိုင်း၊

"ကြည်ရွှင်ဘွယ်ကို
အစဉ်ဆောင်သော စိတ်သည် ဘဝအခက်အခဲများကို

အပြုံးနှင့် ရင်ဆိုင်နိုင်လိမ့်မည်။"
-ဟိုးရေးစ်။

"ဘဝတွင် ကျွန်ုပ်တို့ ပြုံး၍ ရင်မဆိုင်နိုင်ဘွယ်ဖြစ်သော စိတ်ပျက် ဝမ်းနည်းဘွယ်ကိစ္စ အတော်များများ ရှိလေသည်။"

-အိုလီဗာ၊ ဟုမ်းစ်။

၃။ "ဇွဲရှိသောသူသာ အောင်မြင်ရာ၏။"
-ပါစီယပ်။

၈။ "ကျွန်ုပ်ကိုယ် ကျွန်ုပ် ကံမကောင်း၊ အကြောင်းမလှ

-ဂျော့၊

ရှိသည်ဟု မယုံကြည်ပါ။"
မက္ကဒေါနယ်။

၉။ "မိမိနှစ်သက်သော အမှုများကို မပြုဘဲ စောင့်စည်းနိုင်ခြင်းသည် ဂုဏ်အချင်းအရာ တပါး ဖြစ်ပေသည်။" -အိုဗစ် ဟီရှုံ ကဒ်။

၁၀။ "နာကျင်ခြင်းမှ

ကြည်ရွှင်ဖွယ်ကို ဖန်တည်းနိုင်၏။"

-အိုဝင် မီးယား ဒစ်။

## အခန်း ၆၄။

ဤအခန်းမှ အခန်း ၉၅-အထိမှာ မှူးမတ်တို့နှင့် ဆိုင်သော ကျင့်ဝတ်များကို ပြဆိုထား၏၊ တမီလ်တို့ တိုင်းပြည်တွင် ခရစ်နှစ် ၁၀-ရာစုခန့်က ချိုလာမင်းများ အုပ်စိုးစဥ်က မင်းကို အတိုင်ပင်ခံ အကူအညီပေးရန်ဟူ၍ မှူးမတ်များ ထားရှိခဲ့သည်၊ အတ္ထသျှတ္ထရ ကျမ်းတွင်လည်း မင်းတပါးတည်း အုပ်စိုး၍ မဖြစ်နိုင်၊ မင်းအား ကူညီရန် မှူးမတ်ကြီးကဲတို့ရှိ၍ ယင်းတို့က အကြံဥာဏ်များ ပေးရမည်ဟု ဆိုထားလေသည်၊ တခုသော ဘီးဖြင့် ယာဥ်ကိုမောင်း၍ မရနိုင် အစုံအဖက်ရှိမှ ဖြစ်နိုင်သည်ဟုလည်း ဆိုထားလေသည်။

---

## အခန်း ၆၅။

၂။ "စကားအရာ သွက်လက်ခြင်းထက် အဓိပ္ပါယ် အမြော်မြင်ပြည့်စုံစွာ ပြောဆိုနိုင်ခြင်းက သာလွန်၏။"

-ဗေကွန်။

၀။ "စကား ပြောဆိုခြင်းနှင့် တူသော အင်အားသည် မရှိ၊ ဆီဇာသည် လူများအား ကြောက်ရွံ့အောင် စိတ်လှုပ်ရှားစေပြီးလျှင် အုပ်ချုပ်၏၊ စီဇာရိုသည် လူ၏ မေတ္တာကို ရအောင် ယူပြီးသော် ထိန်းသိမ်းထားနိုင်၏။"

-ယင်နရိကလေး။

---

## အခန်း ၆၆။

၇။ ဤအပိုဒ်ပါ ဆိုရင်း အဓိပ္ပါယ်ကား အစွန်း အထင်း အညစ် အကြေး မကင်း သော နည်းဖြင့် အသက်မွေးရခြင်းထက်၊ ငတ်ပြတ်၍ နေရသည်က ကောင်း၏

ဟူ၍ ဖြစ်ပေသည်။'

၉။ "မကောင်းမှုဖြင့် ရသော စီးပွားသည်

ခိုင်မြဲလေ့ မရှိပေ။"

—ယူရိုပီးဒီးစ်။

၁၀။ "ကိုယ်ကျင့်တရားနှင့် ရင်းနှီး၍ရသော အမြတ်ကား အမြတ်မဟုတ်၊ အရှုံး သာတည်း။"

—ဆိုင်းရပ်၊



## အခန်း ၆၇။

၄။ "သင်တို့သည် ကောင်းရာလုပ်ရန်ဟူသော အကြံဉာဏ်တို့ကို ပေးတတ်ကြ၏။ မိမိတို့ ကိုယ်တိုင်မှာမူကား ထိုအတိုင်း လိုက်နာ မကျင့်ကြံမိစေရန် အထူးသတိ ထားကြ၏။"

—အင်နီယပ်စ်။

"အလုပ်နှင့် အပြော ညီစေ၊ အပြောနှင့်

အလုပ်လည်း ညီစေ။"

—ရှိတ်စပီးယား။

ဤအပိုဒ်နှင့် အလားတူ အဓိပ္ပါယ်ကို ဟိတောပဒေသတွင် ဤသို့တွေ့ရသည်။ လူတို့သည် မိမိတို့တတ်ကြောင်း သိကြောင်း ပြလိုသည့်အတွက် တပါးသူတို့အား ဆုံးမရန် လွယ်ကူကြ၏။ ထိုအဆုံးအမ တရားအတိုင်း လိုက်နာကျင့်ကြံနိုင်သူတို့ကား ပညာရှိကဝိ သူမွန်တို့သာလျှင် တတ်နိုင်၏ဟူ၍ ဆိုထားပေသည်။

၆။ "မြဲမြံသော အကြံအစည်သည် မြဲမြံစွာ လုပ်ကိုင်ဆောင်ရွက်မည့် ထပ်တူသဘောကိုပြ၍ နေပေသည်။"

—ယန်း။

## ၇။ "ပြင်ပ ရုပ်သွင်ကိုကြည့်၍ အကဲ မဖြတ်ရာ။"

—သမ္မာကျမ်းစာသစ်။

၁၀ "ခံယူရာ၌ရှင်း၊ အားထုတ်ရာ၌ရှင်း၊ မြဲမြံခြင်းသည် ကျွန်ုပ်လိုလားသော အရည်အသွေးများ ဖြစ်ပေသည်။"

—ဗန်း။

## အခန်း ၆ ဂ။

၁။ "စဉ်းစား ကြံဆရာတွင် သတိနှင့် ပြုလုပ်ပါလေ။ သို့သော် လုပ်ကိုင် ဆောင်ရွက်ရာတွင်ကား ပိုင်နိုင် တိကျပ စေ။"

—ကော့တွန်။

၂။ "နှေးကွေးခြင်း၌ အန္တရာယ်များသော အဆုံးသတ်များ ရှိပေသည်။"

–ရှိုက်စပီးယား။ ၀၇၄

ကုရယ်လ်အဖွင့်

## အခန်း ၆၉။

ဤအခန်း၏ အပိုဒ် ၁–နှင့် ၂–တို့သည် သံကြီး တမန်ကြီးတို့၏ အရည်အသွေးကို ရှေးမှုအတိုင်း ပြဆိုရာ၌ ပြည့်စုံခြင်းရှိသည်ဟု အဖွင့်ဆရာတဦးက ဆို၏။

၇။

"တစုံတခုကို မပြောဆိုမီ အချက်သုံးရပ်ကို ဦးစွာဆင်ခြင်ရာ၏။ ထိုသုံးရပ်ကား အမှုအရာ၊ နေရာဒေသနှင့် အချိန်ကာလတို့ ဖြစ်ပေသည်။"

–ဆောက်သီ။

## အခန်း ၇၀။

ဤအခန်းမှာ မင်းထံခစား ဝင်ရောက်ရာတွင် မင်းလိုလိုက် မင်းကြိုက်ဆောင်ရေးနှင့် တင့်တယ်ဖွယ်ရာသော အမူအရာကို ရှိစေရေးအတွက် ပြဆိုထားခြင်း ဖြစ်သည်။ ဆောင်ရန်အမူ ရှောင်ရန်အမူတို့လည်း ပါဝင်သည်။ ဤအခန်းအတွက် အထူးအထွေ ဖွင့်ဆိုရန် မလိုပေ။

---

## အခန်း ၇၁။

၅။ "လေ့လာ မှတ်သားမှု မပြုသောသူ၏ မျက်လုံးတို့သည် မည်သို့မှ အကျိုးမရှိပေ။"

—ပက်စတန်တွဇ်။

၆။ "မျက်နှာသွင်ပြင်သည် ဝိညာဉ်၏ အရိပ်ထင်ရာ ဖြစ်လေသည်။"

—စီဇာရို။

၇။ "မျက်နှာသည် လှုပ်ရှားနေသော စိတ်ကိုပေါ်ညွှန်းရာ ဖြစ်သည်။"

—ကရက်ဗ်။

"မျက်နှာထားချိုသာခြင်းသည်

နှုတ်ချိုခြင်းထက် အရာရောက်၏။"

—လာပေးတား။

၁၀။ "ဆေးသမားတို့က လူနှလုံးကို သွေးတိုးပုံဖြင့် စစ်ဆေးကြ၏။ ကျွန်ုပ်တို့မူကား မျက်လုံးကိုကြည့်၍ စစ်ဆေးကြရသည်။"

တီ၊ ဗာဒမ်း။

## အခန်း ၇၂။

"ပရိသတ် အကဲကိုဖြတ်ခြင်း"ဟု အမည်ပေးထားသော ဤအခန်း၌ လူပုံအလယ်တွင် ရင်ဆိုင်ရသော ပရိသတ်ကိုလိုက်၍ ညီညွတ်စွာ ကျင့်ကြံအပ်ကြောင်း ညွှန်ကြားချက်များ ဖြစ်လေသည်။

---

## အခန်း ၇၃။

၁။ "စကားလုံးများ၏ သတ္တိကို မသိသောသူသည် လူတို့၏အကြောင်းကိုလည်း

မသိပေ။"

–ကွန်ဖြူးရှပ်။

၃။ "ပရိသတ်ရှေ့တွင် ရဲရဲရင့်ရင့်ပြောကြားနိုင်သော သူတို့၌ သူရဲကောင်း မဟုတ်

သူများ မပါဝင်ပေ။"

–အီမာဆင်။

---

## အခန်း ၇၄။

ဖွံ့ဖြိုးတိုးတက်သော ပြည်ထောင်တခု ဖြစ်စေရန် အဓိကအားဖြင့် အချက်ကြီးသုံးချက်လိုသည်ဟု ကျမ်းပြုဆရာက ဆိုထား၏။ ယင်းတို့မှာ ၁။ လယ်ယာ မြေကောင်းနှင့် သီးနှံများ၊ ၂။ ပညာရှိများနှင့် ကိုယ်ကျင့်တရားပြည့်ဝသူများ။ ၃။ စီးပွားပြည့်စုံသူများဟူ၍ ဖြစ်သည်။ကုရယ်လ်အဖွင့် ဆရာတဦးဖြစ်သော အိန္ဒိယ အမျိုးသားပညာရှင် တဦးက ကုရယ်လ်ကျမ်းပါ အဆိုအမိန့်ကို ခေတ်သစ် အိန္ဒိယပြည် အခြေအနေအရ ခွဲခြမ်းတင်ပြရသော် ၁။ စားနပ်ရိက္ခာ၊ ၂။ ပညာရေးနှင့် ယဥ်ကျေးမှု၊ ၃။ စက်မှုလက်မှုနှင့် ကုန်သွယ်ရေးဟူသော အကြောင်းသုံးချက်တို့ ဖြစ်သင့်သည်ဟု ဆိုထားလေသည်။

နိုင်ငံ၏ ကြီးမြင့်ခြင်းနှင့် ပတ်သက်၍ မာတင်လူသာက ရေးသားဘူးသည်မှာ အခွန်အတုတ်များ အလျှံမယ် ရရှိနေ၍ငြင်း၊ ခံတပ်ကတုပ်များ ပြည့်စုံနေ၍ငြင်း၊ အဆောက်အဦများ လှပတင့်တယ်၍ငြင်း၊ နိုင်ငံတခု ဂုဏ်တက်ဖွယ်မဟုတ်။ ထိုနိုင်ငံတွင် ယဥ်ကျေးဖွယ်ရာသော တိုင်းသူပြည်သားများ၊ ပညာတတ်ပုဂ္ဂိုလ်များနှင့် အကျင့်စာရိတ္တ ကောင်းမွန်သူများ ရှိမှသာ နိုင်ငံ ကြီးမြင့်နိုင်သည်ဟု ဆိုဘူးလေသည်။



# ကုရယ်လ်အဖွင့်

## အခန်း ၇၅။

ရှေးအခါက မိမိတို့မြို့နိုင်ငံများကို ခံကတုတ် ကာရံ၍ အခိုင်အမာ နေကြ၏၊ ရန်သူများ ဝိုင်းရံခြင်းကို ခံရသော မြို့တွင်း၌ အစာရေစာ အပြည့်အစုံဖြင့် ရက်ရှည် လများ နေထိုင်ခုခံနိုင်အောင် စီမံထားလေ့ ရှိကြပေသည်။ ယခုခေတ်မှုကား နိုင်ငံနှင့်တိုင်းပြည်တို့သော အကျယ်အဝန်းသည် ကျယ်ပြော လာသည်နှင့်အမျှ စစ်ဆင်တိုက်ခိုက်မှုများမှာလည်း ခေတ်မီလက်နက်များ နည်းနာများတို အသုံးပြုသည်ဖြစ်ရာ မြို့နှင့် နိုင်ငံ ကွက်ကွက်ကလေးမျှဖြင့်ရင်း၊ မင်းနေပြည်တခုတည်းကို အခိုင်အမာ ပြု၍ရင်း ရန်သူကို ခုခံ၍ မဖြစ်တော့ပေ၊ တတိုင်းလုံး တပြည်လုံးကို ခံကတုပ်ပြု၍ နယ်စွန် နယ်ဖျားမကျန် စေ ၁၄ ကြ ပ် မှသာ နိုင်ငံ ကာကွယ်ရေး ထိရောက်ပေမည်။

ဤအခန်းတွင် အထူးသဖြင့် မှတ်သားဘွယ် ကောင်းသော အပိုဒ်မှာ အမှတ် ၁၀–ဖြစ်လေသည်၊ အပိုဒ်၁၀–တွင် ဖေါ်ပြထားရာ၌ အထက် ဖေါ်ပြပါ အရည်အသွေးများ ရှိနေစေကာမူလည်း၊ ထိုခံတပ်အတွင်း၌ ခံနေမည့်သူတို့သည် တိုက်ရည်ခိုက်ရည် မရှိပါက အချည်းနှီးတည်း" ဟူသော အချက်ပင် ဖြစ်သည်။

ခံကတုပ်တို့နှင့် ပတ်သက်၍ "မင်းညီမင်းသား" အမည်ဖြင့် ဆောင်ရွက်ဖွယ်ကျမ်း တစောင်ကို ပြုစုခဲ့သော အီတာလျ နိုင်ငံပြုသုခမိန် မက္ကီယာဗယ်လီ က ကျမ်းမှ ထုတ်နုတ်ထားသော အဆိုအမိန့် တရပ်သည် မှတ်ဖွယ်ကောင်း၏။ ထိုကျမ်း၌ "ထို့ကြောင့် အကောင်းဆုံးသော ခံတပ်တို့မည်သည်မှာ ပြည်သူပြည်သားများ၏ မေတ္တာကိုခံယူရရှိခြင်းဖြစ်သည်၊ အကယ်၍ တိုင်းသူပြည်သား လူအများက သင့်အား မုန်းတီးရွံရှာ၍ နေပါမူ ခံတပ်ကောင်းတို့ ရှိသော်လည်း လုံခြုံမည်မဟုတ်ပေ" ဟု ဆိုထားလေသည်။

---

## အခန်း ၇၆။

"စီးပွားဥစ္စာ အရေးပါပုံကို ဤအခန်း၌ ဆိုထားသော်လည်း ကျမ်းပြုဆရာသည် မည်သည့်နည်းဖြင့် ရသောစီးပွားကိုမဆို မြတ်သည်ဟုဆိုမထားပေ။ အပိုဒ်(၄)၌ ကောင်းသောနည်းဖြင့် စုဆောင်းလုပ်ကိုင် ရရှိသော စီးပွားဥစ္စာတို့သာလျှင် ပျော်ရွှင်မှုကိုရင်း၊ ကောင်းမှုကိုရင်း ပေးနိုင်လိမ့်မည်ဟု ဆိုထားသည်။ အပိုဒ်(၅)၌ မင်းလုပ်သူတို့အား ကြင်နာခြင်း၊ ချစ်ခြင်းဖြင့် ပေးသော

## ကုရယ်လ်အဖွင့်



ပစ္စည်းမျိုး မဟုတ်လျှင် ရှောင်ရှားအပ်ကြောင်း ပြဆိုထားသည်။ အပိုဒ်(၁၀) တွင် ရှိုးသားသော နည်းဖြင့် ဥစ္စာပစ္စည်းရရှိခြင်း၏ ဂုဏ်ပုဒ် နှစ်ရပ်ကို ဖေါ်ပြထား၏။ ယင်းတို့မှာ ဂုဏ်သိက္ခာနှင့် ကြည်ရွှင်မှုတို့ ဖြစ်သည်။ ဤအခန်း၌ အထက်ပါ အပိုဒ်တို့၏ ဆိုလိုချက်ကို အထူးမှတ်အပ်သည်ဟု ယူဆပါသည်။

---

## အခန်း ၇၇။

နိုင်ငံ၏ တပ်မတော်တို့ မည်သည့် ပြည့်လက်ရုံးကောင်း တခု ဖြစ်အပ်ကြောင်းကို ဤအခန်းတွင် ထေရုဗါလုဗါက ထင်ရှားစေခြင်းဖြစ်သည်။

၁။ "နိုင်ငံအားလုံး၏ အဓိက အခြေခံအုတ်မြစ်များသည် ဥပဒေ ကောင်းများနှင့် လက်နက်ကောင်းများ ဖြစ်၏"။

–မက္ကီယာဗယ်လီ။

၄။ "ကြေးစားစစ်သားများကို ခုခံတိုက်ခိုက်နိုင်သော ကိုယ်ပိုင်တပ်များ မရှိဘဲနှင့် မင်းညီမင်းသား တဦး၏ ဘဝအခြေသည် လုံခြုံသည်ဟု မဆိုနိုင်ပေ"။

–မက္ကီယာဗယ်လီ

၆။ တပ်ကောင်းတခု၏ အရည်အသွေးလေးရပ်မှာ ကျမ်းပြုဆရာ၏ အလိုအားဖြင့် (၁) ရဲစွမ်းသတ္တိရှိခြင်း။ (၂) ဂုဏ်ဆောင်တတ်ခြင်း။ (၃) ရိုးရာ စဉ်လာကိုထိန်းသိမ်းခြင်း။ (၄) ယုံကြည် အားထားလောက်ခြင်းတို့ ဖြစ်သည်ဟု ဆိုလေသည်။

၇။ **"ထုံးစံအားဖြင့် ဘုရားသခင်သည် တပ်ငယ်များထက် အလေးတင်း ပေးတတ်ပေသည်"**။

## တပ်မကြီးများဖက်မှ

၁၀။ "ရဲစွမ်းသတ္တိရှိသော တပ်မှူးဟူသည်ကား မိမိကွပ်ကဲရသော တပ်သားများထံသို့ ရဲရင့်သော စိတ်ဓါတ်များ အကိုင်းအခက်ယှက်ဖြာ၍ထွက်ရာ ရေသောက်မြစ်ကြီး တခုဖြစ်လေသည်"။

–ဆာ၊ ဖီးလစ်၊ ဆစ်ဒနီ။

"ခြင်္သေ့အုပ်ကြီး၏ ထိပ်မှ သိုးကိုဦးဆောင်စေသည်ထက်၊ သိုးအုပ်ကြီး၏ တပ်ဦးမှ ခြင်္သေ့ကို ဦးဆောင်စေရာသည်"။

–ဒီဖိုး။

"ညှံ့ဖျင်းသော စစ်သားများဟူ၍မရှိ၊ ညှံ့ဖျင်းသော တပ်မှူး စစ်ကဲတို့သာ ရှိသည်"။

—နပိုလျံ ဘိုနာပတ်။

၁၇၈

# ကုရယ်လ်အဖွင့်

## အခန်း ၇၈။

၁။ သူရဲကောင်းတို့၏ အမူအကျင့်ကို ပြဆိုသော ဤအခန်း၌ အဦးဆုံး အပိုဒ်တွင် သူရဲကောင်းတဦးက ရန်သူ့ရှေ့၌ ကြွေးကြော်သံ အဖြစ် စိတ်ကူးဥာဏ် ကွန့်၍ ထည့်သွင်းထားလေသည်။

၂။ ဤအပိုဒ်ပါ ဆိုလိုချက်အဓိပ္ပါယ်မှာ အင်အားကြီးမားသော ရန်သူနှင့် ယှဉ်ပြီး နောက်မအောင်မြင်လေသော်လည်း ရိုးရိုးရန်သူကို တိုက်ခိုက်၍ အောင်မြင်ခြင်းထက် ပို၍ ဂုဏ်ယူဘွယ် ဖြစ်၏ဟု ဖြစ်ပေသည်။

"လင်းယုန်ငှက်တို့မည်သည် ယင်ကောင်များကို ထိုးသုတ်လေ့မရှိပေ။"

—အပေါ့စတိုလီယုပ်။

၃။ "မီးကျည်းဖြင့်ကောင်းစွာ ဖုတ်၍ ပြုပြင်ထားသော ဓါးတို့သည် အန္တအပျောင်း ကောင်းဘိသကဲ့သို့၊ ကောင်းမွန်မြင့်မြတ်သော သူတို့သည် မိမိတို့ထက် နိမ့်ကျသောသူတို့နှင့် ဆက်ဆံရာတွင် ယဉ်ကျေးဖွယ်ရာ ရှိကြပေသည်၊"

—ဖူးလား။

## အခန်း ၇၉။

ဤအခန်းမှအခန်း(၁၃)အထိမှာ အဆွေခင်ပွန်းဖြစ်မှု၏ အကျိုးကျေးဇူးများကိုရင်း၊ ကျင့်ဝတ်များကိုရင်း၊ ဖေါ်ပြထားပေသည်။ ဤ အပိုင်းသည် သာမန်အားဖြင့် မင်းမှူးမတ်တို့နှင့် ဆိုင်ရာအခန်းဟုအမည်ပေးထားသော်လည်း အဆွေခင်ပွန်းဖွဲ့မှု၌ လူတိုင်းနှင့် ပတ်သက်၍ ညွှန်ပြထားသော အချက်များစွာ ပါလေသည်။

၂။ "သစ္စာရှိသော မိတ်ဆွေ၏ အကြံကို လက်ခံရာ၏"။

—တောမတ် ဖူးလာ။

"မြောက်ပင့် ပြောဆိုတတ်သူ များကိုသာ ရွေးချယ်၍ မိတ်ဆွေ အဖြစ် မပေါင်းရာ။ မိတ်ကောင်းတို့၏ အရည်အချင်းကား အမှားကို မြင်လျှင် မလို့မလွဲ ရဲရဲဝံ့ဝံ့ တင်ပြလမ်းညွှန်နိုင်ခြင်း ဖြစ်ပေသည်"။

—ချန်းနင်း။

"မိတ်ဖက်ရခြင်းတွင် အခက်ခဲဆုံး အပိုင်းကား မိမိ၏ မိတ်ဆွေကို သူ၏ ချွတ်ယွင်းချက်၊ မှားယွင်းချက်များအား ထောက်ပြရခြင်း ဖြစ်ပေသည်"။

—ဗတ်ဂျဲ။



၁။ "ဆင်းရဲဒုက္ခရောက်သောအခါနှင့် ကံမကောင်းအကြောင်းမသင့်သော ဘဝ၏ ဆင်းရဲမှုများနှင့် ကြုံရသည်ရှိသော် မိတ်ကောင်းတို့သည်သာ ခိုလှုံရာဖြစ်၏။ သူတို့သည် နှစ်သိမ့်ရာ၊ ဖြေဖျောက်ရာ ဖြစ်ကြပေသည်"။

—ဆာ၊ ဝါလတာ၊ ရဲလေး။

## အခန်း ၁၀။

၉။ "ကျွန်ုပ်၌ ပျော်ရွှင်ချမ်းမြေ့နေစဉ် အခါက၊ လူများ၏ အကြောင်းကို ငါသိပြီဟုထင်ခဲ့၏။ သို့သော် ဆင်းရဲဒုက္ခရောက်သော အခါမှသာ လူတို့ သဘောကို သိနိုင်ကြောင်း တွေ့ရလေသည်"။

–နပိုလျံ ဘိုနာပတ်။

"မိတ်ဆွေစစ်ဟုတ် မဟုတ်ကို ဒုက္ခနှင့် ယှဉ်၍ သာသိနိုင်၏။

–အင်းနီးယပ်စ်၊

၁၀။ "အမြော်အမြင်ကင်းသော မိတ်ဆွေတဦးထက်အန္တရာယ်ကြီးသောအရာသည် မရှိ"။

–လာ၊ ဖေါင်တိန်း။

## အခန်း ၁၁။

၁။ "ဟောင်းနွမ်းခြောက်သွေ့သော သစ်တုံးတို့သည် မီးဖိုရန်ကောင်း၏၊ ကျင့်သားရပြီးသော မြင်းတို့သည် စီးနင်းရန် ကောင်း၏။ ကျမ်းဟောင်းတို့သည် ဖတ်ရှု၍ မငြီးဖြစ်၏၊ နှစ်ချို့အရက်တို့သည် သောက်၍ အရသာပိုကြသည်၊ ထို့အတူ မိတ်ဟောင်းတို့အားလည်း ယုံကြည် စိတ်ချနိုင်၏"၊

–လီယိုနဒ်ရိုက်။

## အခန်း ၁၂။

၂။ "မိတ်တု မိတ်ယောင်တို့သည် အရိပ်နှင့် ပမာတူ၏။ နေရောင် ထင်လင်း ရှိသော နေရာတွင် လျှောက်သွားသော အခါ နောက်ပါးမှ မခွါဘဲ လိုက်တတ်၏။ နေရောင်ကင်းသည့် အရိပ်တွင်းသို့ ဝင်လိုက်ပါမှကား အရိပ်သည် ထက်ချပ် မပါတော့ပေ"။

—ဘိုဗီး။



၄။ "မကောင်းသော မိတ်များနှင့် ဆက်ဆံရခြင်းထက် တကိုယ်တည်း နေရခြင်းက ကောင်း၏"။

—ဂျော့ဝါရှင်တန်။

၁၀။ "မိတ်ဆွေဖြစ်သူအား ချီးကျူးဘွယ်ကို လူပုံအလယ်တွင် ထုတ်ဖေါ်ပြောကြား ပါလေ့။ ဝေဖန်ညွှန်ကြားဘွယ်တို့ကို နှစ်ဦးချင်း ဆုံမိသောအခါ၌သာ ပြောကြားပါလေ့။

—ဆိုလုံ။

---

## အခန်း ၈၃။

၂။ ဤအပိုဒ်တွင် ဖေါ်ပြထားသော "မခင်မင်ဘဲနှင့် ခင်မင်ယောင်ပြုနေသော သူတို့၏ မေတ္တာသည် ပြည့်တန်ဆာမတို့၏ မေတ္တာနှင့် တူ၏" ဆိုရာ၌ မိန်းမတို့၏ ပြောင်းလဲ လှုပ်ရှားတတ်သော စိတ်သဘောကို ကျွမ်းပြုသူက ဆိုလိုကြောင်း အဖွင့်ဆရာများက အဓိပ္ပါယ် ယူကြသည်။

---

အခန်း ၈၄။

၆။ "ပန်းဘဲသမားသည် မိမိပြုလုပ်သော သံခြေကျဉ်းနှင့် လက်ထိပ်များကို မိမိကိုယ်တိုင် ပြန်၍ ဆင်မြန်းရတတ်၏။

–အော်ဆိုနီးယပ်စ်။

၉။ ဤအပိုဒ်၏ ဖွင့်ဆိုချက် အဓိပ္ပါယ်တရပ်မှာ သာမန်လူတို့သည် သူရူး သူမိုက်တို့နှင့် မိတ်ပြုရခြင်းသည် ကောင်း၏၊ ကောင်းပုံကား ယင်းတို့နှင့် ခွဲခွါရသည့်အခါ ဝမ်းနည်းကြေကွဲခြင်း မဖြစ်ရဘဲ ဝန်ပေါ့သွားသကဲ့သို့ စိတ်၌ ခံစားရသောကြောင့် ဖြစ်လေသည်။

---

အခန်း ၈၅။

၄။ "အမိုက်မဲဆုံးပုဂ္ဂိုလ်ကား မိမိမှလွဲ၍ အခြားသူတို့သည် သူရူးများဖြစ်သည်ဟု ထင်သော သူပင် တည်း"၊

–အော်လတာဆာ၊ ၇ ရေရှန်။

"အကြင်သူသည် တတ်သိခြင်း မရှိ၊ ထိုသို့ တတ်သိခြင်း မရှိကြောင်းကိုလည်း မိမိကိုယ် မိမိမသိ၊ ထိုသူမျိုးကား သူရူးဖြစ်၏၊ ရှောင်ရှားပါလေ"

–လေဒီဘာတန်။

၊ ၊

၉။ "သူရူးသူမိုက် တဦးသည် မိမိ၏ မိုက်မဲမှုကို ကြည့်မြင်ရာ၌ မိမိ၏ နားရွက်ကို ပြန်၍ လှည့်ကြည့်သကဲ့သို့သာ ဖြစ်လေသည်။"

–သက်ကာရေး။

---

အခန်း ၈၆။

၇။ "မုန်းတီး၍ အောင်ဟစ်သော အသံတသံသည် ကောင်းကင်မှ ခမ္ဘတေးများကို ဖျက်ဆီးနိုင်၏။"

–တင်နီဆွန်း။

၈။ "တပါးသူတို့အား မုန်းတီးခြင်းသည် မိမိအိမ်ရှိ ကြွက်ငယ်တကောင်ကို သေစေလိုသောကြောင့် အိမ်ကို မီးနှင့် ရှို့ခြင်းနှင့် ပမာတူ၏။

–ဟယ်ရီ အီမာဆန် ဖေါ့စဒစ်။

---

အခန်း ၈၇။

၇။ ဤအပိုဒ်တွင် လမ်းမှားနေသူ တဦးအား အမုန်းခံ၍ ပြုပြင်ပေးရန်ဟု ဆိုလိုသည်။

၈။ "အပိုဒ်(၇)ပါအတိုင်း အမုန်းခံရလျှင် ဤသို့ဖြစ်ရခြင်းသည်ပင် မင်းလုပ်သူအတွက် အင်အား ဖြစ်လေသည်။"

၉။ အထက်ပါ ရန်သူမျိုး ထားရသောသူ၌ အောင်မြင်ရန် ရက်များမှာ မဝေးတော့ဟု ဆိုလိုသည်။

၁၀။ အသေးအမွှားဖြစ်သော ရန်သူတို့ကိုသာ အောင်မြင်သောသူသည် ထိုအောင်ပွဲကို ဂုဏ်ယူနေ၍ မဖြစ်ဟု ဆိုလိုသည်။

---

အခန်း ၁၇။ ၂။

"လုံ့စွပ်ပေါင်း ရာထောင်ထက် ရန်လိုသော သတင်းစာ လေးစောင်က ပို၍

ကြောက်မက်ဖွယ် ဖြစ်သည်။" –နပိုလျံ။

၄။ "ရန်သူအား တင့်တယ်မြင့်မြတ်စွာ အောင်နိုင်ရေး နည်းလမ်းကား ယင်းအား သုတ်ဖြတ်ရန်မဟုတ်၊ ကြင်နာစိတ်ဖြင့် လမ်းညွှန်၍ မိမိအား ရန်ပြုလိုခြင်းမှ ရပ်ဆိုင်းစေရန် ဖြစ်၏။ ထိုသို့ပြုနိုင်ခြင်းသည် ရန်သူအား အောင်မြင်ခြင်းပင် ဖြစ်ပေသည်။" –အောလင်။



## ကုရယ်လိအဖွင့်

"ရှုံးသွားသော ရန်သူသည် ပြန်၍တဖန် နလံထူလာလိမ့်မည်။ စေ့စပ်ညှိနှိုင်း၍ ရပြီးသော ရန်သူကား နောက်တဖန် ရှိဦးတော့မည် မဟုတ်ပေ"

–စကားဆိုရိုး။

---

အခန်း ၁၉။

၂။ "လျှို့ဝှက်သော ရန်သူများကား၊ ထင်ရှားသော ကောင်း၏။"

ရန်သူများထက် ကြောက်ဖွယ်

-စီဇာရို၊

---

## အခန်း ၉၀။

၅၊ "မင်းတို့၌ လက်တန်ရှည်လျှားစွာရှိသည်ကို

သင်မသိသလော။"

-အိုဗစ်၊

"မင်း၏ အမုန်းတရားသည် သေမင်းတမန်ဖြစ်၏၊ သို့သော် ပညာရှိတဦးက ငြိမ်းအေးအောင် ပြုနိုင်စွမ်းလိမ့်မည်၊"

-စကားပုံများကျမ်း၊

---

## အခန်း ၉၁။

"ဤအခန်းတွင် အိမ်ထောင်ဦးစီး ယောကျ်ားလုပ်သူတို့အား ဇနီးသည်နှင့် ဆက်ဆံပေါင်းသင်းမှုတွင် တပ်မက်မှုလွန်ကဲခြင်း၊ အလိုလိုက်ခြင်းတို့ကို သတိချပ်အပ်ကြောင်း၊ ဤသို့ပြုသဖြင့် အကျိုးစီးပွား ပျက်ပြားခြင်း၊ လောကတွင် မတင့်တယ်ခြင်းတို့ ဖြစ်ပေါ်ကြောင်း သတိပေးထားချက်များ ဖြစ်သည်၊"

---

## အခန်း ၉၂။

"ဤအခန်းတွင် ပြည့်တန်ဆာတို့နှင့် ညှန်ပြထားသည်၊"

---

## အခန်း ၉၃။

၂။ "သေသောက်ကြူးခြင်းကို ဆင်ခြင်လော့၊ သို့မဟုတ် လျှင် လူကောင်းတို့က အသင့်အား ရှောင်ကြဉ်လိမ့်မည်၊"

—ကွားလိစ်။

ကုရယ်လ်အတ္ထင့်

၁၇၃

၉။ "သူတို့သည် သင့်အား မူးယစ်တတ်သော အဖျော်ယမကာများနှင့် လောင်းကစားခြင်း အကြောင်းတို့ကို မေးလာကြသော်၊ ဤသို့ဖြေပါလေ။ ထိုနှစ်မျိုးလုံး၌ ဒုစရိုက်မှုများ ပါဝင်သည်၊ အကျိုးရှိသော အချက်အနည်းငယ် ပါဝင်ငြားလည်း [illegible]"

—ကုရ်အာန်ကျမ်းမြတ်။

၁၀ "သေရည်ယစ်မူးနေသူတဦးကို မြင်ရခြင်းသည် ထိုသို့ပြုခြင်း၏ ဒုစရိုက်များကို ဟောကြားသော တရားလက် အရာရောက်ပေသည်။"

—ဆယ်ဒီ။

---

## အခန်း ၉၄။

၂။ "လောင်းကစားတတ်သူ တဦးသည် ဝိမိလုပ်ငန်း၌ ကျွမ်းကျင်၍ လာလေလေ၊ လူတဦးအဖြစ် ဆိုးဝါးလာ၍ လာလေလေဖြစ်၏။"

-ဗေကွန်။

၄။

"လောင်းကစားခြင်းဖြင့် အသက်မွေးသူတဦးမှာ တချိန်တည်းတွင် အမြင်နှင့် ပြည့်စုံသော လူကောင်းတဦး မဖြစ်နိုင်ပေ။"

အမြော်

-လာဗေးတား။

၇။ "လောင်းကစားသမား တဦးမည်သည်မှာ
စာရိတ္တအရာ၌ မိမိကိုယ်ကို သတ်
ဖြတ် ညှဉ်းပန်းပြီးသူပင်တည်း။"

ကော့တန်။

"ဤလုပ်ငန်းသည် မိကောင်းဖခင် သားသမီးတို့အား ပျက်စီးစေ၏။ အများ၏ ဂုဏ်ကို ညှိုးနွမ်းစေ၏။ မိမိကိုယ်ကို အဆုံးစီရင်မှု၌လည်း အကြောင်းခံ ဖြစ်ပေသည်။"

-ဂျိ၊ ဝပ်ရှင်တန်။

---

အခန်း ၉၅။

၁။ “ဤအပိုဒ်တွင်လူတဦး၌ကျန်းမာရေးနှင့် ညီညွတ်စေရန်သည်းခြေ၊လေ၊သလိပ်တို့ကို သုံးမျိုး ပြဆိုထားသည်။ ထိုသုံးပါး ညီညွတ်မျှတစွာ အလုပ်လုပ်ပါမှ ကျန်းမာနိုင်သည်။ ထိုသုံးပါး မညီညွတ်လျှင် ရောဂါဘယ ဖြစ်ပေါ်တတ်သည် ထိုသုံးပါး ညီညွတ်ရန်အတွက် လိုအပ်သော အစာမျိုးတို့ကို မျှားစွာမချို့ငဲ့စေဘဲ စားသုံးရာ၏ဟု ဆိုလိုသည်။”

25



# ကျရယ်လ်အဖွင့်

၃။ “ကျန်းမာရေးအတွက် ဆေးဝါးတို့ကို စားသုံးသည့်အခါ အချိန်အတွယ်နှင့် ချိန်တွယ်ယူရ၏။ ထို့အတူ အစာကိုလည်း ဆေးကဲ့သို့ အချိန်အတွယ်ထား၍ မျှတအောင် စားသုံးရသည်။”

“ကျန်းမာရေးအတွက် ပျော်ရွှင်ခြင်းဆိုသည်မှာ အစာကြေခြင်းပင် ဖြစ်လေသည်။” —လင်ယူတန်။

၄။ “ဆာလောင်နေသော အခါ စားသုံးခြင်းသည်၊ အကောင်းဆုံး ဖြစ်သည်ဟု ကျွန်ုပ် ယုံကြည်၏။” - ဆင်မြူယယ် ဂျွန်ဆင်။

“စားသောက်သော အခါ ဝမ်းပိုက်၏ သုံးပုံတပုံကို အစာ ဖြည့်ရာ၏။ အခြား သုံးပုံတပုံကို ရေဖြည့်ရာ၏။ ကျန်သုံးပုံတပုံကို ကွက်လပ်ထားရာ၏။” —တယ်လမွှတ်။

၆။ “တနေ့သုံးကြိမ် ဝလင်အောင် စားသုံးခြင်းသည် ဆိုးဝါးသော ဘဝ ဖြစ်၏။” —ဗင်ဂျာမင် ဖရန်ကလင်။

“ပျော်ရွှင်ခြင်းကို ဝမ်းပိုက်က ဖန်တီးသည်။”

—ဗေါ်လတဲယား။

---

## အခန်း ၉၆–၁၀၇ အထိ။

အခန်း ၉၆–မှ ၁၀၇–အထိ ဖြစ်သော အခန်းပေါင်း ၁၂–ခန်းတို့မှာ ရှေ့ပိုင်းတွင် ပြဆိုခဲ့သည့် မင်းမှုမတ်၊ စစ်သည်သူရဲတို့နှင့်မျှသာ မကဘဲ လူတိုင်း လူတိုင်းအိမ်ထောင် တိုင်းနှင့် ပတ်သက်သော အချက်များကို ဖွင့်ဆိုထားသည်။ ထို့ကြောင့် အခန်းခေါင်းစဉ်တို့မှာ ကောင်းသော ဇာတိဖြင့် မွေးဖွားခြင်း၊ မိမိကိုယ်ကို ရိုသေ လေးစားခြင်း၊ ကြီးမြင့် မှန်မြတ်ခြင်း၊ ယဉ်ကျေးဖွယ် ရာခြင်း၊ ကိုယ်နှုတ် စောင့်စည်းခြင်း၊ အိမ်ယာထောင်ခြင်း၊ စိုက်ပျိုးရေး စသည် ဖြင့်၊ လူတိုင်းနှင့် စပ်ဆိုင်သော အကြောင်း တို့ကို ဖော်ပြထားပေသည်။ ဆိုင်ရာ အခန်းတို့၏ အပိုဒ်များတွင် ပြဆိုချက်နှင့် အာဘော်ချင်းတူသော အချက်များ ကို အောက်တွင် ပြဆိုပါမည်။

---

### အခန်း ၉၆–။

၇။ “သင်္ခါရလောကကြီး၌ အစင်ကြယ်ဆုံး ရတနာမှာ အပြစ်မြူမျှ မထင်သော ကောင်းသတင်း ဖြစ်သည် ထို ကောင်းသတင်း ဂုဏ်ပုဒ်မရှိလျှင် လူတို့သည် လှပအောင် ဆေးခြယ်ထားသော အရုပ်များနှင့်သာ ပမာတူလိမ့်မည်။”

—ရှိတ်စပီးယား။

"မိုးစွေငှက်တို့သည် အခြားငှက်မျိုးက သူ့ထက် သာအောင် အော်မြည်သည့် အခါ ရှက်သောကြောင့် သေပွဲဝင်ရ၏။" —ဘာတန်။

---

အခန်း ၉၈။

၂။ ပုထုဇဥ်တိုင်း တူညီကြ၏။ ယင်းတို့၏ မျက်နှာဖုံးသာ ကွဲပြားကြလေသည်။"

—ဗေါလတဲယား။

---

အခန်း ၉၉။

၁။

"ကမ္ဘာမြေကြီး၏ အတင့်တယ်ဆုံးသော အသီးအပွင့်ဟူသည်ကား ပြည့်စုံသော လူသတ္တဝါပင် ဖြစ်၏။" —ဟန်းဗေါ့။

---

အခန်း ၁၀၀။

၃။ "ကျွန်ုပ်၏ အလိုအားဖြင့် လူ ဟူ၍ ခေါ်ထိုက်သော သူကား မိမိ၏ စိတ်ကူး စိတ်သန်းနှင့် အားထုတ်ချက်များသည် ကိုယ့်ဘို့အတွက် မဟုတ်ဘဲ အခြား သူများ အတွက် ပြုလုပ်သူမျိုး ဖြစ်ပေသည်။"

—ဆာ၊

အခန်း ၁၀၁။

၄။

"လောကကြီးက ပေးရန်တာဝန်မရှိသော ပုဂ္ဂိုလ်(ဝါ)လောကကြီးကို ကျေးဇူးမပြုခဲ့သော ပုဂ္ဂိုလ်ကား မည်သည့်အရာကိုမှ ပိုင်ဆိုင်သူ မဟုတ်ပေ။"

- ဆင်းမ်စ်။

"ကြွယ်ဝချမ်းသာသူ အဖြစ်ဖြင့် ကွယ်လွန်သွားသူသည် တင့်တယ်ခြင်းကင်းစွာ ကွယ်လွန်ရသူ ဖြစ်သည်။"

-အင်ဒရူး ကာနက်ဂျီ။

အခန်း ၁၀၂။

၁။ "ကျွန်ုပ်သည် ကင်းမြီးကောက် ကိုက်ခဲခြင်းကိုပင်လည်း ခံနိုင်ပါသည်။ မီးပုံကိုလည်း နင်းရဲပါသည်။ လူသူကင်းသော တောကြီးမြက်မဲတွင် လှည့်လည်သွားလာရမည် ဆိုပါက သွားပါမည်။ သို့သော် အရှက်ရသော ဘဝတွင် မနေနိုင်ပါ။"

-ဂျူ အန်နာဗေလီ။

၂။ "လူတိုင်း ကိုယ့်အသက်ကို ခင်မင်တွယ်တာကြသည် ချည်းဖြစ်၏။ ရဲရင့်သော သူတို့မှကား ဂုဏ်သိက္ခာကို အသက်ထက်ပို၍ မြတ်နိုးပေသည်။"

–ရှိတ်စပီးယား။

"လူတယောက်၏ ကြီးမြင့်မွန်မြတ်မှု အတွက် ဥစ္စာခနနှင့် မိဘ မျိုးရိုး ဂုဏ်တို့အရေးမကြီးပါ။"

၃။ "အကြင်သူတဦး၌ အရှက်အကြောက်ကို အကြောင်းပြု၍ ဆင်ခြင်တွယ် ကိစ္စများလေလေ၊ ထိုသူအား ကြည်ညိုဖွယ်ကောင်းလေလေ ဖြစ်ပေသည်။"

–ဂျော့ဘားနဒ်ရှော။

၄။ "အရှက်အကြောက် ကင်းသော ပုဂ္ဂိုလ်အား လူဖြစ်ရှုံးသော ပုဂ္ဂိုလ်အဖြစ် ကျွန်ုပ် သဘောထား၏။"

–ပလေးတပ်။

---

## အခန်း ၁၀၃။

## ၁။ "မိမိကိုယ်ကို ကူညီစောင့်ရှောက်သောသူအား ဘုရားသခင် စောင့်ရှောက်၏။"

–ဈေးစကားပုံ။

"ပြည့်စုံခြင်းနှင့် ချမ်းမြေ့ခြင်း တည်းဟူသော လှည်းဘီးကို ပုခုံးနှင့် ထမ်း၍ ရုန်းသူတို့အား ကုသိုလ်ကံက ပြုံး၍ရွှင်စွာ ကြိုလင့်၏။"

စီ၊ ဆင်မွန်။

---

# အခန်း ၁၀၄။

ဤအခန်းမှာ စိုက်ပျိုးရေး၏ အရေးပါပုံကို ဖေါ်ပြထားသော အခန်း ဖြစ်သည်။

၁။ "လယ်တကွက် ထွန်ခြင်းကို ကဗျာတပုဒ် စပ်ဆိုခြင်းကဲ့သို့ ခန့်ညားတင့်တယ်သော အလုပ်ဟု တန်းတူ သဘော မပေါက်သေးသမျှ မည်သည့် လူမျိုးမှ တိုးတက်နိုင်မည် မဟုတ်ပေ။"

—ဘွတ်ကာတီ၊ ဝါရှင်တန်။

"လယ်သမားတို့သည် ယဉ်ကျေးမှု၏ အခြေခံ အုတ်မြစ်များ ဖြစ်ကြ၏။"

—ဒယ်နီယယ် ဝက်စတာ။

ကုရယ်လ်အဖွင့်

၁၀၇

"လူမှုရေးဘက်က ကြည့်လျှင် စိုက်ပျိုးလုပ်ကိုင် အစင်ကြယ်ဆုံးနှင့် အမြင့်မြတ်ဆုံး လူတန်းစားများ၏ အသက် မွေးခြင်းသည် လုပ်ငန်း ဖြစ်ပေသည်။"

—လော့ဒ်၊ဂျွန်၊ရပ်ဆယ်။

၂။ "ယခင်က စပါးတပင်ပေါက်ခဲ့သော နေရာတွင် ယခုစပါးနှစ်ပင် ပေါက်ရန် ဥင်း၊ မြက်တပင် ပေါက်ခဲ့သော နေရာတွင် နှစ်ပင်ပေါက်ရန်ဥင်း၊ ပြုလုပ်နိုင်သော သူသည် လူ့လောက ကောင်းကျိုးကိုဆောင်ရာ၌၊ နိုင်ငံရေးသမားများစွာ၏ လုပ်ငန်းထက် အရာရောက်ပေသည်။"

—ဆွစ်။

၃ ။

"စိုက်ပျိုးလုပ်ကိုင်၍ အသက်မွေးသော ဘဝသည် လူ့စိတ်ချမ်းသာမှုနှင့် ဂုဏ်ယူနိုင်မှုတို့အတွက် ကြိမ်းသေသော လုပ်ငန်းဖြစ်၏။"

—ဂျွန်ကွင်စီ။

"သမိုင်းတလျှောက်တွင် ဂုဏ်တင်ဖွယ်လုပ်ငန်းမှာ မြေကို ပိုင်ဆိုင်ခြင်းနှင့် မြေကို အသုံးချခြင်းတို့ ဖြစ်လေသည်။"

—အီမာဆင်။

၄။ "ကုန်သွယ်မှုသည် တိုင်းပြည်၏ ခနနှင့် အရှိန်အဝါကို တိုးပွားစေသည်မှန်၏။ သို့သော် တိုင်းပြည်၏ ခွန်အားနှင့် ခိုင်မာမှုကိုကား ထိုပြည်တွင်းရှိ လယ်ယာလုပ်ငန်းသမားများတွင်သာ တွေ့နိုင်လေသည်။"

—လော့ဒ်၊ချာသမ်။

၁၀။ "ဤဒေသတွင် မြေကြီးသည် အလွန်သဘောကောင်းပေသည်။ တွန်းဖြင့်ကလိထိုးလိုက်ရုံဖြင့် ကောက်ပင် သီးနှံတို့ကို ဟားတိုက်၍ ရယ်ချလိုက်သည်။"

-ဒေါက်ဂလပ်၊ဂျာရီး။

---

အခန်း ၁၀၅။

၄။ “အိမ်တွင် ဆင်းရဲခြင်း ဒုက္ခ ချက်ဖြင့် ဖိစီးခြင်း ခံနေရသူတို့သည် အလွယ်တကူ တက်ကြွ နိုးကြား ငြိမ်ကြလိမ့်မည် မဟုတ်ပေ။” —ဂျူဗင်နယ်။

---

အခန်း ၁၀၆။

၃။ “တောင်းခံလာသည့်ခဏ၌ ရုတ်ခြည်းပေးကမ်းတတ်သူသည် နှစ်ဆ ပေးခြင်းနှင့် ညီမျှ၏။ —ပတ်ဗလီးယပ် ဆီးရပ်။



# ကုရယ်လ်အဖွင့်

## အခန်း ၁၀၇။

ရှေ့အခန်းတွင်တောင်းရမ်းလာသူတို့အား လှူဒါန်းပေးကမ်းအပ်ကြောင်း ဖေါ်ပြသည့် နည်းတူ၊ ယခုအခန်းတွင် တောင်းရမ်း စားသောက်ခြင်း၏ မကောင်းမှုများကို ဖေါ်ပြထားလေသည်။ တောင်းရမ်းစားသောက်ခြင်းထက် ကိုယ့်ဝန်ကိုယ်ထမ်း၍ ကိုယ့်လုပ်အားဖြင့် ရသမျှသောဥစ္စာကိုစားသုံးရခြင်းသာ ဂုဏ်ရှိကြောင်းကိုလည်း ပြဆိုထားသည်။

၂။ “တောင်းရမ်း စားသောက်ခြင်းကို တရားဝင်အလုပ်အဖြစ် လက်ခံထားသော နိုင်ငံတွင် အုပ်ချုပ်ရေး ညံ့ဖျင်း၏။” ပေါ်လတဲယား။

---

အခန်း ၁၀၈။

ဤအခန်း၌ အရှက်အကြောက် ကင်းသော သူတို့၏ ပြုမိုးပြုစဉ် လုပ်ငန်းများကို ဖေါ်ပြထားသည်။ နိမ့်ကျသော သူတို့သည် ထင်ရှာ စိုင်းနိုင်သော လွတ်လပ်မှုမျိုး ရှိကြသော်လည်း လျှို့ဝှက်အပ်သည်များကို လျှို့ဝှက်၍ မထားပေ၊ ထို့ပြင် ကိုယ်ရေးကြုံလာသောအခါ၌ မိမိကိုယ်ကိုပင် ရောင်း၍စားတတ်ကြပုံကို ဖေါ်ပြထားသည်။

---

## အခန်း ၁၀၉-မှ ၁၃၃။

ဤအခန်းများမှာ ချစ်ခြင်းမေတ္တာဆိုင်ရာကဗျာဖြစ်သည်။ချစ်ခြင်းမေတ္တာဆိုရာ၌ ဆန့်ကျင်ဘက်လိင်တို့၌ ဖြစ်ပေါ်သော တဏှာပေမကို အကြောင်းခံသည့် မေတ္တာကို ဆိုလိုသည်။ ဤမေတ္တာ၌ အပိုင်း နှစ်ပိုင်း ခွဲခြား၍ထားသည်၊ တပိုင်းမှာ ပေါင်းသင်းရခြင်းနှင့် အခြားတပိုင်းမှာ ကွဲကွာရခြင်းတို့ဖြစ်သည်၊ ယင်းတို့ကို ဤကျမ်း၌ လျှို့ဝှက်သော မေတ္တာဟူ၍ တပိုင်း၊ (အခန်း ၁၀၉-မှ ၁၁၅) အိမ်ထောင်သည်ဘ၀ မေတ္တာဟူ၍ တပိုင်း၊ (အခန်း ၁၁၆-မှ ၁၃၃) နှစ်ပိုင်းခွဲ၍ ပြထားသည်။ လျှို့ဝှက်သော မေတ္တာ အပိုင်းတွင် တဦးနှင့် တဦး ချစ်ခင် နှစ်သက်ကြ သော်လည်း အကြောင်း အမျိုးမျိုးကြောင့် မပေါင်းသင်းနိုင်ပုံ၊ ထို့ကြောင့် တိတ်တဆိတ် ခိုးဝှက်တွေ့ဆုံရပုံ၊ စိတ်ထဲတွင် မခံမရပ်နိုင်သော ဝေဒနာတို့ကို ခံစားရပုံကို ပြဆိုသည်။ ဒုတိယပိုင်း အိမ်ထောင်သည်ဘ၀ မေတ္တာအပိုင်းတွင် နှစ်ကိုယ်တူချစ်၍ ညားကြရသော်လည်း တိုင်းပြည်အတွက် စစ်ထွက်ရန် ကိစ္စကြောင့် ကွေကွင်းနေကြရပုံ၊ တဦးနှင့် တဦး သက်ာ ယန့် မကင်း ဖြစ်၍ အမျိုးမျိုးငြူစူကြပုံ၊ သို့ငြူစူရာမှ မေတ္တာ၏ အရသာကို တမျိုးတပုံ ခံယူကြပုံကို ပြဆိုထား၏။ ဤသို့ပြရာတွင် ကျမ်းပြုဆရာ၏အာဘော်အဖြစ်တိုက်ရိုက် မဆိုဘဲ၊ လူငယ်အချင်းချင်း၊ ချစ်သူအချင်းချင်း၊ အပြန်အလှန် ပြောကြ ဟန်များအဖြစ် ရေးဖွဲ့ထားလေသည်။

ဆိုင်ရာအခန်းများတွင် ပြဆိုသော အမိန့်များနှင့် အဆိုမိန့်များ တူညီနီးစပ်ပုံကို လုံးပေါင်း၍ပြပါမည်။

အခြား ပညာရှိများ၏

အခန်း ၁၀၉။ ၄၊

"မိန်းမတို့သည် မိမိတို့မျက်လုံး၏ အစွမ်းဖြင့် စစ်သူရဲကောင်းကြီးများကို ဒူးထောက်လာအောင် ပြုနိုင်စွမ်းကြသည်။"

- ဒေါက်တာဂျေ၊ ဗီ၊ ခီ၊ စမစ်။

---

အခန်း ၁၁၉။ ၅၊

"အချို့မျက်လုံးများသည်
ယမ်းထိုးထားသောသေနတ်ကဲ့သို့ခြိမ်းချောက်
လျက် ရှိသည်။"

–အီမာဆင်။

---

အခန်း ၁၀၉။ ဂ၊

"ချစ်သူ၏ မျက်လုံးများသည် လင်းယုန်ငှက်ကိုပင် မျက်စိကွယ်သွားစေ စေနိုင်၏။

—ရှိတ်စပီးယား။

---

အခန်း ၁၁၀။ ၂။

"မျက်လုံးများသည် အချစ်၏ နူးညံ့သော ပုံပြင်ကို ဦးစွာ ကျေညာပေးသည့် ရွှေတော်ပြေးများ ဖြစ်ပေသည်။"

—ပရော်ပါတီးယပ်။

---

အခန်း ၁၁၀။ ၃။

"မျက်လုံးများသည် အမျိုးသမီးတို့ အသဲနှလုံး၏ပြူတင်းများဖြစ်ပေသည်၊ သင်သည် ထိုလမ်းမှ ဝင်ရာသည်။"

—ယူဂျင်း ဆူး။

"မိန်းမတို့၏ အကြည့်များသည် သူတို့နှုတ်မှမထွက်ရဲသော စကားများကို ပြောကြပေသည်။"

–အယ်လ်ဖုန်းဆိုကား။

---

အခန်း ၁၂၂။ ၁၊

"အချစ်၏ နုနယ်သော အိမ်မက်များကဲ့သို့တဝက်တပြက် ချိုမြိန်လှသော အရာသည်မရှိ။"

–မိုး။

---

အခန်း ၁၂၂။ ၃၊

"မိန်းမတို့၏ ဝိညာဉ်သည် ချစ်ခြင်းမေတ္တာ၌ မွေ့လျော်၏။"

–မစ္စစ်ဆိဂါနီ။

---

အခန်း ၁၂၅။ ၁၊

"အချစ်ရောဂါကို ကုစားနိုင်ရန် ဆေးနည်းပေါင်း များစွာရှိ၏။ သို့သော် ထိုရောဂါနှင့် ကင်းအောင် နေနိုင်သောသူ မရှိပေ။"

–လားရော့ဖူးကော။

---

အခန်း ၁၂၅။ ၃၊

“အချစ်နှင့် ချောင်းဆိုးခြင်းတို့ကို
ဖုံးကွယ်၍ မရပေ။”

—ဂျော့ဟားဗတ်။

---

**အခန်း ၁၂၇၊ ၉။**

“အချစ်တွင် နာရီကို လပိုင်းဟု မှတ်ကြသည်၊ လကို နှစ်ပိုင်းလောက် သဘောထားကြသည်။ အချိန်အတော်ကြာ အွဲကွာသွားလျှင်ကား တကမ္ဘာ ခြားသကဲ့သို့ ထင်ကြလေသည်။”

—ဒရစ်ဒင်။



**အခန်း ၁၂၉၊ ၆။**

“ချစ်သူတို့၏ မျက်စိ၌ အပြစ်ကို
နှစ်သက်ဖွယ် အလှတရားဟု ထင်ကြ၏။”

—သီယိုခရီ၊ဝ.ပ်။

---

**အခန်း ၁၃၁၊ ၁။**

“အချစ်တွင် ဒေါသထွက်ခြင်းသည်

လှဲမှားချက် ဖြစ်၏။"

—ပူဗလီယပ် ဆီးရပ်။

---

အခန်း ၁၃၂၊ ၅။

"ချစ်သူတို့၏ ခိုက်ရန်ဖြစ်ခြင်းသည်
အချစ်ကို ပြန်လည်ဆန်းသစ်စေရန်သာ
ဖြစ်၏။"

—တယ်ရီ အင်း။

---

အခန်း ၁၃၃၊ ၇။

"ချစ်သူတို့ မသင့်မြတ်မှု၌ အချစ်ကြီးသောသူ၏ ဘက်မှ အပြစ်ကြီးကြောင်း ဝန်ခံလိုစိတ်ပို၏။"

—ဆာဝါလတာ စကော့။

---

အခန်း ၁၃၃၊ ၁၀။

"ဂီတ၌ မညီမညွတ်မှုကလေးများသည် တေးသံသာကို ဖြစ်စေရန် အကြောင်းခံတည်း။"

—စပင်ဆာ။

"ပထမတွင်
ပြစ်တင်မောင်းမဲလော့၊ နောက်ပိုင်းတွင် အချစ်ကိုပိုစေလော့။"
—ရှိတ်စပီးယား။

---



အမှား ပြင်ချက်

| စာမျက်နှာ | ကြောင်းရေ | အမှား | အမှန် |
|---|---|---|---|
| ၆ | ၅ | အချင်းအရာ | အခြင်းအရာ |
| ။ | ၂၀ | ထောပနာ | ထောမနာ |
| ၈ | ၅ | ပစ္စည်းဟုဖြစ်သာ | ပစ္စည်းဟုသာ |
| ၉ | ၁၀ | မျိုးကျဲ | မျိုးကြဲ |
| ၁၄ | ၈၊၉ | ဖြပဟ္မဏ | ဗြာဟ္မဏ |
| ၁၆ | ၃ | အချင်းအရာ | အခြင်းအရာ |
| ၁၈ | ၁၆ | အချေပြု၍ | အခြေပြု၍ |
| ၂၅ | ခေါင်းစီး | အရည်အချင်း | အရည်အခြင်၊ |
| ။ | ၂၆ | ချောက်ခြား | ချောက်ချား |
| ၂၇ | ၁ | သူတော်စဉ် | သူတော်စင် |
| ၂၈ | ၁၁ | ပြုခဲ့မိလေချင်း | ပြုခဲ့မိလေခြင်း |
| ၂၉ | ၁၉ | မပြတ်သိန်း စောင့်ရှောက် | မပြတ်ထိန်းသိမ်း စောင့်ရှောက် |
| ၃၃ | ၁၅ | သံနိဋ္ဌာန် | သန္နိဋ္ဌာန် |
| ။ | ။ | ယာမမင်း | ယမမင်း |
| ။ | ၂၄ | ညှင်းပန်း | ညှဉ်းပန်း |
| ၃၅ | ၆၊၇ | သူတော်စဉ် | သူတော်စင် |
| ။ | ၁၆ | ကျေကွဲ | ကြေကွဲ |
| ၃၆ | ၄ | အနာဂါတ် | အနာဂတ် |
| ၃၇ | ၄ | တပ်မက်အပ်သက် | တပ်မက်အပ်သည် |
| ။ | ၁၄ | သူတော်စဉ် | သူတော်စင် |
| ။ | ၂၀ | ကျေကွဲ | ကြေကွဲ |
| ၃၈* | ၂၁ | သူတော်စဉ် | သူတော်စင် |
| ၄၀ | ၁၃. | ဆေးချယ် | ဆေးခြယ် |
| ၄၂ | ၁၅ | ကြိုးကုပ် | ကြိုးကုတ် |
| ။ | ၂၂ | အနာဂါတ် | အနာဂတ် |
| ။ | ၂၆ | ကျေကွဲ | ကြေကွဲ |

| | | | |
|---|---|---|---|
| ၅၀ | ၁၈ | ဂတိလိုက်စား၍ | အဂတိလိုက်စား၍ |
| ၅၄ | ၁ | အပျော်ကျူး | အပျော်ကြူး |
| ၅၆ | ၂၂ | မကြေပြွန် | မကျေပြွန် |
| ၅၇ | ၄. | ထိုက်လျှောက် | ထိုက်လျောက် |
| ။ | ၂၂ | ထိုမင်းမင်းမျိုး | ထိုမင်းမျိုး |
| ၅၉ | | အထောက်တော်ယားခြင်း | အထောက်တော်ထားခြင်း |
| ။ | ၁၈ | ထိပ်လန့် | ထိတ်လန့် |

# အမှားပြင်ချက်

| စာမျက်နှာ | ကြောင်းရေ | အမှား | အမှန် |
|---|---|---|---|
| ၅၉ | ၁၄ | သူတော်စဥ် | သူတော်စင် |
| ၆၁ | ၇ | ဂုဏ်ဒြပ် | ဂုဏ်ဒြဗ် |
| ၆၈ | ၂၂ | ခြောက်လှန့် | ချောက်လှန့် |
| ၇၃ | ၂၂၊၃ | ကြောက်ရွံ့သူသည်မှာ | ကြောက်ရွံ့သူမှာ |
| ၇၅ | ၁ | ကတုပ် | ကတုတ် |
| ၇၇ | ၁၂ | ယာမမင်း | ယမမင်း |
| ၇၈ | ၁၇ | ပမာန | ပမာဏ |
| ၇၉ | ၁၁ | ဆန္ဒခြင်း | ဆန္ဒချင်း |
| ၈၂ | ၁၅ | အလွန်အကြူး | အလွန်အကျူး |
| ၈၈ | ၁ | ကြည်ဆယ် | ကျီစယ် |
| ၈၉ | ၇ | သဏ္ဍာန် | သဏ္ဍာန် |
| ။ | ၁၉ | တစဦး | တစ်ဦး |
| ၉၀ | ၁၀ | ယာမမင်း | ယမမင်း |
| ။ | ၁၅ | မခန့်မပြား | မခန့်မညား |
| ၉၂ | ၉ | ကြေးတန်းစား | ကြေးတမ်းစား |
| ၉၄ | ။၁၃ | တွေ့အံ | တွေ့အန် |
| ၉၅ | ၇၊၉ | ကြေညက် | ကျေညက် |
| ။ | ၁၈ | ဇစ်မြစ် | ဇာစ်မြစ် |
| ၉၈ | ၁ | အတော်မသတ် | အတောမသတ် |
| ၁၀၀ | ၅ | စိတ်ခေတ်ခြင်း | စိတ်ခေတ်ချင်း |
| ။ | ၆ | အရည်အသွေးခြင်း | အရည်အသွေးချင်း |
| ။ | ၉ | ကြည်ဆယ် | ကျီစယ် |
| ။ | ၂၁ | အချင်းအရာ | အခြင်းအရာ |
| ၁၀၂ | ၂၂ | ကြို့ဆွဲ၍ | ကြိုးဆွဲ၍ |
| ၁၀၃ | ၂၂ | စောင်ရှောက် | စောင့်ရှောက် |
| ၁၀၄ | ၅ | မထွန့်ယက်နိုင် | မထွန့်ယက်နိုင် |

| | | | |
|---|---|---|---|
| ။ | ၇ | [illegible] | [illegible] |
| ။ | ၁၄ | လယ်သမားသည်လက်သည် | လယ်သမား၏လက်သည် |
| ။ | ၁၄ | သူတော်စဉ် | သူတော်စင် |
| ။ | ၂၄ | ငြီးငြူကာ | ညည်းညူကာ |
| ၁၀၇ | ၃ | မငြီးမငြူ | မညည်းမညူ |
| ၁၀၉ | ၂၂ | လွှမ်းချယ် | လွှမ်းခြယ် |
| ၁၁၀ | ၁ | ဆေးချယ်၍ | ဆေးခြယ်၍ |

## အမှားပြင်ချက်

| စာမျက်နှာ | ကြောင်းရေ | အမှား | အမှန် |
|---|---|---|---|
| ၁၁၀ | ၁၀၊၁၉ | ငြင်သာစွာ | ညင်သာစွာ |
| ၁၁၀ | ၉ | ပိသာနိုး | ဗိသာကာ၊ |
| ၁၁၂ | ၈ | ဆေးချယ် | ဆေးခြယ် |
| ။ | ၉ | ကြွမ်းဝင် | ကျွမ်းဝင် |
| ၁၁၄ | ၂ | မည့်သို့မှ | မည်သို့မျှ |
| ၁၁၅ | ၂ | မည်သူမှ | မည်သူမျှ |
| ။ | ၈ | စွဲလန်း | စွဲလမ်း |
| ။ | ၁၁ | ရှင်ပြ | ရှင်ပျ |
| ၁၁၆ | ၁ | လျှင်မြန်စွာ | လျှင်မြန်စွာ |
| ။ | ၁၆ | မျှော်လင့် | မြော်လင့် |
| ၁၁၇ | ၂၃ | ကူးခတ် | ကူးခပ် |
| ၁၁၈ | ၂၇ | တီးခပ် | တီးခတ် |
| ၁၁၉ | ၂ | အဘယ့်သူ့အား | အဘယ်သူ့အား |
| ။ | ၁၇ | တင်းကြပ်စွာ | တင်းကျပ်စွာ |
| ၁၂၂ | ၁၇ | ညှင်းပမ်း | ညှင်းပန်း |
| ၁၂၅ | ၁၂ | ဝါးမြို | ဝါးမျို |
| ၁၂၇ | ခေါင်းစီး | စွဲလန်း | စွဲလမ်း |
| ။ | ၁၁ | ကြေနပ် | ကျေနပ် |
| ၁၂၈ | ၁ | ဆေးချယ် | ဆေးခြယ် |
| ။ | ၂၄ | သာမာန် | သာမန် |
| ၁၂၉ | ၁၇ | သိလျှက် | သိလျက် |
| ၁၃၀ | ၁၄ | တကိုယ်ထည်းတည်း | တကိုယ်ထီးတည်း |
| ။ | ၁၅ | ဝါးမြို | ဝါးမျို |
| ၁၃၁ | ၃ | ဆားသင့်ရုံခပ်ထားခြင်း။ | ဆားသင့်ရုံခတ်ထားခြင်း |
| ၁၃၂ | ၁၀၊၁၁ | သုန်မှု | သုန်မှုန် |
| ။ | ၁၂ | ပြစ်ခွါ | ပစ်ခွါ |
|  | [illegible] | ငွင့်ငွင့် | ငွင့်ငွင့် |

# သိရုကုရယ်လ်

## ( တမိလ် အမျိုးသားတို့၏ နီတိပါလာ )

အင်္ဂလိပ်ဘာသာမှ မြန်မာပြန်သူ

**ဦးမျိုးသန့်**

TRANSLATED FROM ENGLISH INTO BURMESE

BY

**U MYO THANT**

ஆங்கில மொழியிலிருந்து பர்மிய மொழி பெயர்ப்பு

ஊ மியோ தாண்ட்

ထုတ်ဝေသူ

ကန်ဘဲ နတ်တုကိုတိုက် ချစ်တီးယား ပညာရေး ဂေါပကအဖွဲ့။

အမှတ်–၇၄၊ ရွှေဘုံသာ (မဂိုလ်)လမ်း ရန်ကုန်မြို့။

*Published By*

**The Kanbe Nattukkottai Chettiar Educational Trust,**

No. 74, SHWEBONTHA (Mogul) STREET, RANGOON.

**கம்பை தனவைசியர் கல்விக் கழக வெளியீடு**

**74, சுவேபோந்தா (முகல்) வீதி, இரங்கூன்.**

# 1964

အပြည်ပြည်ဆိုင်ရာ တမိလ် အသင်းကြီး

နှင့်

# ကုရယ်လ် ကျမ်းမြတ်

အသင်း

၏

ဥက္ကဋ္ဌကြီး ကော၊ ပီ၊ ရတ်တနမ်

ဘီ၊ အေ (ဂုဏ်ထူး)၊

မဟာဝိဇ္ဇာ၊ ဘီ၊ ဒီ၊ အယ် (မဒရပ်)၏

# ဦးဆောင်ချက်

—— ၁ ——

ကန်တဲ နတ်တူကိုယ်ပိုက် ချစ်ကါးယား ပညာရေး ဂေါပကအဖွဲ့မှာ လွန်ခဲ့သော နှစ်ပေါင်း သုံးဆယ်ငါးနှစ်မျှအတွင်း ရပ်တည်ခဲ့သော အချိန်များ၌ ဒုး ဘိုးတန်ဇသာ လုပ်ငန်းများစွာကို ပြုလုပ်ခဲ့ကြသည်။ ထိုလုပ်ငန်းများစွာအနက် သိရုကုရယ်လ်ကျမ်းကို မြန်မာဘာသာသို့ ပြန်ဆိုလျက် အခမဲ့ ဝေငှခြင်း လုပ်ငန်းမှာ ထူးခြားသော လုပ်ရပ်တခု ဖြစ်သည့်ပြင်၊ ကမ္ဘာတဝှမ်းလုံးရှိ တမီလ်အမျိုးသားများ၏ ချီးကျူးခြင်းကို ခံအပ်သော ဆောင်ရွက်ချက် ဖြစ်ပေသည်။ ဤလုပ်ငန်းရပ်ကို အကြောင်းပြု၍ ကျွန်ုပ်သည် အပြည်ပြည်ဆိုင်ရာ တမီလ်အသင်းကြီးနှင့် ကုရယ်လ်ကျမ်းမြတ် အသင်းတို့၏ ကိုယ်စား ကန်တဲ နတ်တူကိုယ်ပိုက် ချစ်ကါးယား ပညာရေး ဂေါပကအဖွဲ့၏ ဥက္ကဋ္ဌနှင့် အသင်းသား အားလုံးတို့အား ချီးကျူးစကား ပြောကြားလိုပါကြောင်း။ အဖွဲ့၏ ဆောင်ရွက်ချက်များသည် လူ့ကောင်းကျိုးဆောင် လုပ်ငန်းတရပ် မှန်ပါပေသည်။

'လူ့ကောင်းကျိုးဆောင်' ဟူ၍ ဆိုရခြင်းမှာ သိရုကုရယ်လ်ကျမ်းအား တကမ္ဘာလုံးအတွက် လမ်းညွှန်ကျမ်းကြီး ဖြစ်ကြောင်း မထောပနာ ပြုကြသောကြောင့် ဖြစ်ပါသည်။ ဤကျမ်းသည် တမီလ်ဘာသာဖြင့် နှစ်ပေါင်း နှစ်ထောင်ကျော်က ရေးသားထားခဲ့သောကျမ်း ဖြစ်သော်လည်း လူအချင်းချင်း ချစ်ကြည်ရေးနှင့် ညီမျှရေးတို့ကို လမ်းညွှန် ပြောဆိုထားပေသည်။ ကျမ်းပါ အဆိုအမိန့်များသည် အချိန်မရွေး၊ လူမျိုးမရွေးနှင့် သက်ဆိုင်၍ နေပေသည်။ လူမျိုး၊ ဘာသာ၊ ဇာတ်၊ အသားအရောင်တို့ ခွဲခြားခြင်းကိုလည်း ဤကျမ်းက ဟိုက်ခိုက်၍ ရေးသားထားလေသည်။ လူတိုင်းအား မိမိတရားသဖြင့် ရောက်ရှိလိုသော အဆင့်အတန်းသို့ ကြိုးစားအားထုတ်၍ ဆောင်ရွက်ရန် နည်းလမ်းတို့ကိုလည်း ဤကျမ်းတွင် ညွှန်ပြပေးပေသည်။

ဥယျောဇဉ်

ကုရယ်လ်ကျမ်းအား အကြောင်းသင့်၍ လေ့လာဘူးသော နိုင်ငံခြားမှ ပညာရှင်များက ကုရယ်လ်၌ သိမ်မွေ့၍ အံ့ဩဘွယ်ဖြစ်သော အတွေးအခေါ်များကို အထူးဂုဏ်တင်၍ ပြောဆိုကြသည်ကို တွေ့ရလေသည်။ မစ္စတာ အေရိယယ် ဆိုသူ ပုဂ္ဂိုလ်ကြီးက ဤကျမ်းအား “လူ့အတွေးအခေါ်များကို အမြင့်မြတ်ဆုံးဖြင့် အစင်ကြယ်ဆုံး ဖော်ပြသော ကျမ်းတစောင်” ဖြစ်သည်ဟူ၍ ထင်မြင်ချက် ပေးသည်။ ဒေါက်တာ အဲလပတ်ရွိုက်ဇာကမူသည်။ ထို့ထက် လွန်ကဲ၍ “ကမ္ဘာ့စာပေများတွင် ဤမျှ ဉာဏ်ပညာ အမြော်အမြင်နှင့် ပြည့်စုံသော လမ်းညွှန်တရား အစုအပေါင်းမျိုး ရှားပါလိမ့်မည်။” ဟု ဆိုထားပေသည်။

သိရုကုရယ်လ်မှာ ဘာသာအမျိုးပေါင်း သုံးဆယ်ကျော်တို့သို့ ဘာသာပြန်ပြီးခဲ့ငြားသော်လည်း၊ ယင်းကို တိုင်းရင်းဘာသာ တခုခုသို့ ပြန်ဆိုရေးကိစ္စမှာ လွယ်ကူသော လုပ်ငန်း မဟုတ်ပါ။ စိတ်ရှည်လက်ရှည်ဖြင့် သည်းခံလေ့လာ၍ ဝန်ထမ်းစိတ်ဖြင့် ဆောင်ရွက်မှသာ အောင်မြင်နိုင်သည့် လုပ်ငန်းတရပ် ဖြစ်ပါသည်။ ဤဂန္ထဝင် ကျမ်းကြီးကို မြန်မာဘာသာသို့ ပြန်ဆိုရာတွင် ဦးမျိုးသန့်သည် များစွာ ကြိုးပမ်းအားထုတ်ထားသည်ကို တွေ့ရပါသည်။ ကျွန်ုပ်ကိုယ်တိုင် ဦးမျိုးသန့်နှင့် ၁၉၆၄-ခုနှစ် ဇန္နဝါရီလ အတွင်းက တွေ့ဆုံခဲ့ပြီး ဆွေးနွေးနှီးနှောခဲ့ရပါသည်။ ဤပုဂ္ဂိုလ်၏ ဆောင်ရွက်မှုအတွက် မြန်မာနှင့် တမီလ် အမျိုးသား အားလုံးတို့က ကျေးဇူး တင်ရှိဘွယ်ရာ ဖြစ်ပေသည်။

ဤတမီလ်ဗေဒကျမ်းကို လေ့လာခြင်းအားဖြင့် မြန်မာနိုင်ငံသူ နိုင်ငံသားများ အကျိုးပွားလျက် တမီလ်တို့၏ စာပေနှင့် ယဉ်ကျေးမှု၌လည်း ပိုမို နားလည်သဘောပေါက်လာလိမ့်မည်ဟု မြော်လင့်ရပါသည်။

၂၂-၃-၆၄

ကိုလံဘိုမြို့၊ သီဟိုဠ်ကျွန်း။ (ပုံ)

ကေ၊ ပီ၊ ရပ်တနမ်။

# ထုတ်ဝေသူ နိဒါန်း

သီရုကုရယ်လ် ကျမ်းသည် တမီလ်ဘာသာ စာပေတွင် အကောင်းဆုံး ဖြစ်သည်ဟု အသိအမှတ်ပြုခြင်း ခံရပေသည်။ ဤကျမ်းတွင် ကမ္ဘာ တဝှန်းလုံးက တရားမျှတသည် မှန်မြတ်သည်ဟု သင်ကြားပို့ချသော ဆုံးမစာများ ပါဝင်လေသည်။ ဤကျမ်းကို ပြုစုသူမှာ ထေရုဗာလုဗာ အမည်ရှိပုဂ္ဂိုလ်တဦး ဖြစ်လေသည်။ ထိုပုဂ္ဂိုလ်သည် လွန်ခဲ့သော နှစ်ပေါင်း နှစ်ထောင်ခန့်က အိန္ဒိယပြည်တောင်ပိုင်း မဒရပ်နယ်တွင် သက်ရှိထင်ရှား နေထိုင်သွားခဲ့သည်ဟု သုတေသီတို့၏အလိုအရသိရပေသည်။ ပညာရှိတို့သည် ထိုပုဂ္ဂိုလ်၏ ငယ်မည်ကိုရင်း၊ မွေးဖွားရာ ဇာတိကိုရင်း၊ ထိုသူ၏ ဘဝအတ္ထုပ္ပတ္တိ အစုံအလင်ကိုရင်း၊ မပြောနိုင်ကြပေ။ ဗာလုဗန်ဟူသော အမည်မှာကား ဘုရင်ချီးမြှောက်ခြင်း ခံရသော ဘွဲ့မည်တမျိုး ဖြစ်ကြောင်း သိရလေသည်။ ထေရုဗာလုဗာဆိုသော အမည်မှာ မင်းပေး ဘွဲ့မည် ဖြစ်လေသည်။ သူ၏အမည်ကို ရှေးတမီလ်စာပေ ကျမ်းဟောင်းများဖြစ်သော၊ မဏိမေခလာ၊ စီလပါသိကာရမ် ဟူသော ကျမ်းများ၌ ဖေါ်ပြထားသည်ကို တွေ့ရ၏။ သူ၏ ဟောကြားချက်များနှင့် အသုံးအနှုန်း ဥပစာတို့ကို သံဂါစာပေတွင် ကူးယူရေးသားကြသည်ကိုလည်း တွေ့ရသည်။ ယိုပုဂ္ဂိုလ်ပေါ်ပေါက်သော ခေတ်မှာ ခရစ်နှစ်မစမီ နှစ်ပေါင်း ၃၀-အလိုခန့်က ဖြစ်သည်ဟု တွက်ဆကြ၏။

ဤကျမ်းမှာ အခြား ဘာသာစာပေ များရှိ ကျမ်းများနှင့် ယှဉ်၍ မရအောင်ပင် ကောင်းမွန်လှသည်ဟု ထင်ရှားသော ပညာရှိတို့က မှတ်ချက်ပြုဘူးလေသည်။ အနောက်နိုင်ငံမှ သုတေသီ ပညာရှင်တို့သည် ဤကျမ်းကို တွေ့ရှိပြီးသော် မိမိတို့၏ဘာသာ အသီးသီးသို့ ပြန်ဆိုခဲ့ကြဘူးသည်။ ဤကျမ်းကို တမီလ် အမျိုးသားတို့က မဆွကဘာသာပြန်ဆို မပြန့်ချီခဲ့ရကောင်းလားဟု ပြစ်တင်ခြင်းပင် ပြုကြလေ၏။ ယခုမူ အိန္ဒိယပြည်အစိုးရက ဤကျမ်းကြီး နယ်ပယ် ကျယ်ပြန့်ရေးအလို့ငှာ အတတ်နိုင်ဆုံး ကြိုးစားလျက် ရှိပေသည်။

အနောက်နိုင်ငံမှ ပညာရှင်အများနှင့် အိန္ဒိယပြည်မှ ပညာရှင်အများသည် မိမိတို့တတ်ကျွမ်းသော အင်္ဂလိပ် ဘာသာဖြင့် ဤကျမ်းကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုခဲ့ကြသည်။ ဘုန်းတော်ကြီး ဒရူးနှင့် လာဇာရပ်စ်တို့၏ အင်္ဂလိပ်ဘာသာပြန်မှာ လွန်ခဲ့သော နှစ်ပေါင်း တရာခန့်ကပင် ထွက်ပေါ်ခဲ့၍၊ ထိုပြန်ဆိုချက်သည် ကောင်းလည်း ကောင်းမွန်လှပေသည်။

ဤကျမ်းကို မြန်မာဘာသာသို့ ပြန်ဆိုထုတ်ဝေနိုင်ခြင်း အတွက် ကန်ဘဲ့ နတ်တူးကိုတိုက်ချစ်တီးယားပညာရေး ဂေါပကအဖွဲ့သည် များစွာ ဝမ်းမြောက် မိပေသည်။ ဤကျမ်းကို ဖတ်ရှုခြင်းဖြင့် မြန်မာပြည်သူ ပြည်သားတို့သည် အိန္ဒိယယဉ်ကျေးမှု အမွေ

## ထုတ်ဝေသူ နိဒါန်း

အနှစ်ဘာရကို အကျိုးရှိအောင် လေ့လာ ဆည်းပူးနိုင်ကြလိမ့်မည်ဟု ထင်မြင်မိပေသည်။ ဤကျမ်းဖြစ်ပေါ်အောင် ဆောင်ရွက်ရေးတွင် မစ္စတာဝင်္ဂနီ အနန်းမလီ၏ ကျေးပန်း အား ထုတ်ချက်မှာ များစွာ အရာရောက်ကြောင်း မှတ်တမ်းတင်အပ်ပါသည်။ ဤပုဂ္ဂိုလ်သည် စာရေးဆရာတဦးဖြစ်သည့်ပြင် ခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်း၏အတ္ထုပ္ပတ္တိကို လည်း တမီလ်ဘာသာဖြင့် စာအုပ်တအုပ် ရေးသား ထုတ်ဝေခဲ့ဘူးသူ ဖြစ်ပေသည်။

အကျွန်ုပ်တို့အဖွဲ့မှ မေတ္တာရပ်ခံချက်ဖြင့် ဤကျမ်းကို မြန်မာဘာသာသို့ ပြန်ဆို သူ ဦးမျိုးသန့်အားလည်း များစွာကျေးဇူး ဥပကာရ တင်ရှိပါကြောင်း။

သီရိကုရယ်လ်နိဒါန်းတွင် ဘာသာပြန်ဆိုသူသည် ဤကျမ်း၏ နောက်ကြောင်း ကိုဖော်ပြထားသည့်အပြင်၊ နောက်ဆက်တွဲ အပိုင်းတွင်လည်း ဤကျမ်းကို အဆိုအမိန့် များနှင့် ပတ်သက်၍၊ အခြားပညာရှင်များ၏ အဆိုအမိန့်နှင့် ညီညွတ်ပုံများကို ကောင်း နိုးရာရာ ရွေးချယ်ပြုစု၍ တင်ပြ ထားပါသည်။ ထို့ကြောင့် ကျမ်း၌ မရှင်းမလင်းဘွယ် အကြောင်းများ များစွာ ပေါ်ပေါက်လိမ့်မည် မဟုတ်ဟု ထင်မြင်မိပါသည်။

ဤနေရာတွင် စကားအလျှင်းသင့်သဖြင့် ဤစာအုပ်ကို အခမဲ့ဖြန့်ချိထုတ်ဝေသူ ကျွန်တော်များ၏ အသင်းအကြောင်းကို ဖေါ်ပြလိုပါသည်၊ ဤအသင်းမှာ ပညာရေး တိုးတက်မှုကို ရည်စူး၍ လွန်ခဲ့သော (၃၅)နှစ်က တည်ထောင်သော အသင်း ဖြစ်ပါ သည်၊ ဤအသင်းကို တည်ထောင်ရန် မြန်မာ့တပြည်လုံးရှိ နာတူကိုတိုက် ချစ်တီးယား များ၏ စုပေါင်း ထည့်ဝင်ငွေဖြင့် ပြုလုပ်ခဲ့ပါသည်၊ ယခု အချိန်ထိကား ကာလအား လျော်စွာ ပြုပြင် ပြောင်းလဲမှုများ ပြုလုပ်ခဲ့ရသည်မှလွဲ၍ အသင်း၏ ရည်ရွယ်ချက်မှာ ကောင်းစွာ ထမြောက်အောင်မြင်ခဲ့ပါသည်။ ရန်ကုန်မြို့အနီး ကန်ဘဲ့ရပ်တွင် ချစ်တီး ယား အထက်တန်းကျောင်း တဆောင်ကို အချိန်ကာလကြာရှည်စွာ ဖွင့်လှစ်ထားခဲ့ဘူး ပါသည်၊ ထိုကျောင်းမှ မြန်မာနှင့် အိန္ဒိယလူမျိုး ကျောင်းသားများ အများအပြား အောင်မြင်သွားကြ၍ ထင်ရှားသောပုဂ္ဂိုလ်များဖြစ်လာကာ တိုင်းပြည်နှင့် လူမျိုးအကျိုး ကို ဆောင်ရွက်လျက် နေကြကြောင်း တွေ့ရှိရသဖြင့် များစွာ ဝမ်းမြောက်ဖွယ်လည်း ဖြစ်ပါသည်၊ ကျောင်းသားများအား ကျွန်ုပ်တို့အသင်းမှပင် ပညာသင် ထောက်ပံ့ကြေး များပေးခဲ့ပါသည်၊ ဤအသင်း၏ ထောက်ပံ့ငွေဖြင့် ယခုအခါ အထက်တန်းနှင့် တက္ကသိုလ်ကျောင်းများ၌ ပညာသင်ယူနေကြသော ကျောင်းသားပေါင်းတရာ့ငါးဆယ် ခန့် ရှိပါသည်၊

ထုတ်ဝေသူ့ နိဒါန်း

ထို့မှ တဖန် မြောက် – ဥက္ကလာပ မြို့တွင် ဤအသင်းမှ ကျောင်းတဆောင် ဆောက်လုပ်လှူဒါန်းပေးခဲ့ပါသေးသည်။ ထိုကျောင်းကို ယခုအခါ မြန်မာနိုင်ငံ အစိုးရ ကအောင်မြင်စွာ ဖွင့်လှစ်သင်ကြား ပေးလျက် ရှိပါသည်။ ဤကျမ်းစာအုပ်ကို ရိုက်နှိပ် ထုတ်ဝေခြင်းမှာလည်း

အသင်း၏ပညာရေးဆောင်ရွက်ချက် တခုဖြစ်ပါသည်။

ဤကျမ်းကို
ပြန်ဆိုထုတ်ဝေရသဖြင့်လည်း မြန်မာနိုင်ငံသားတို့သည် လေ့လာ
ဖတ်ရှုလိုက်နာခြင်းဖြင့် လောကီလောကုတ္တရာ
နှစ်ပြာသောအကျိုးစီးပွားများ စည်ပင်ပွံ့ ဖြိုး၍
တိုးတက်နိုင်ကြပါစေဟု ဆုတောင်းလိုက်ပါကြောင်း။

---

ဉက္ကဋ္ဌ- ကုနာ မနာ မသုဝပ္ပ ချစ်တီးယား။
အတွင်းရေးမှူး- ရုနာ ပနာ စိနာ ဝနာ လက်ချူမနန် (ဒ်)
ချစ်တီးယား။

## ကန်ဘဲ့ နတ်တူကိုတိုက် ချစ်တီးယား
## ပညာရေး ဂေါပကာ အဖွဲ့၊

အမှတ်-၇၄။ ရွှေဘုံသာ (မရို) လမ်း၊ ရန်ကုန်မြို့။

အမှတ် မာတိကာ



စာမျက်နှာ

၁
၄

သိ ရ ကာ ရ ယ် လ်

# ဘာသာပြန်သူ၏ အမှာ

ကျွန်တော်သည် တမိလ်ဘာသာကို နားလည် တတ်မြောက်သူတဦး မဟုတ်ပါ။ ထို့ကြောင့် တမိလ်အမျိုးသားတို့၏ ကျမ်းမြတ် တစောင်ဖြစ်သော သိရုကုရယ်လ် *Tirukkural* ကျမ်းကြီးကို မြန်မာဘာသာသို့ ပြန်ဆိုရာတွင် အင်္ဂလိပ်ဘာသာဖြင့် ပြုစုထားသော ကျမ်းများကိုသာ အထောက်အထား ပြုရပါသည်။

အဓိကအားဖြင့် ဘာသာပြန်သူ အထောက်အထား ပြုသောကျမ်းမှာ မရှေးယန့် ဘုန်းတော်ကြီး ဒရူးနှင့် ဂျွန်လာဇာားရပ်ဆိုသူ *Rev. Drew & Lazarus* ပုဂ္ဂိုလ်ကြီး နှစ်ဦး ပြုစုသော ကျမ်းဖြစ်ပါသည်။ ဤကျမ်းကို မူရင်းထား၍ မစ္စတာ ဗီ၊ ဗီ၊ အက်စ်၊ အာယား *V. V. S. Aiyer* ဆိုသော ပုဂ္ဂိုလ် ရေးသားသည့် ကျမ်းကိုင်း၊ မစ္စတာ အိပ်ချ၊ အေ၊ ပေါ့ပလိ *H. A. Popley* ဆိုသူ ပုဂ္ဂိုလ်ပြုစုသည့် ကုရယ်လ်နှင့် အဖွင့် ဒီပနီများကိုင်း အခါအားလျော်စွာ ကိုးကားရပါသည်။ အထက်ပါ ကျမ်းနှစ်စောင်လုံးမှာလည်း အင်္ဂလိပ်ဘာသာဖြင့် ပြုစုထားသောကျမ်းများ ဖြစ်ကြပေသည်။

သိရုကုရယ်လ်ကို အင်္ဂလိပ်၊ ပြင်သစ်၊ ဂျာမန်၊ လက်တင်၊ သက္ကတစသည့် ဘာသာများသို့ ပုဂ္ဂိုလ်အများပင် ဘာသာပြန်ခဲ့ပါသည်။ တိုင်းတပါး ဘာသာကို ဘာသာပြန်ဆိုသူတိုင်းတွင် တွေ့ကြုံရသော အခက်အခဲမှာ အနည်းနှင့်အများ ဆိုသလို ရှိကြပေသည်။ ဤတွင် သာမန်ဝတ္ထု ဆောင်းပါးများဆိုလျှင် မူရင်းရေးသားသူ၏ အာဘော်ကို အချွတ်အချော် အတိမ်းအယိမ်း မရှိလေအောင်၊ ပြည်စုံကောင်းမွန်အောင် အားထုတ်နိုင်ကြသည်များ၏။ နည်းပညာနှင့် စပ်ဆိုင်သော သိပ္ပံအကြောင်းရပ်များဆိုလျှင်လည်း ဆိုင်ရာဝေါဟာရတို့ရှိပြီး ဖြစ်လျှင် ဘာသာပြန်ဆိုရာတွင် အဓိပ္ပါယ်ယတ္ထု မကွဲမပြား ဖြစ်နိုင်ဘွယ် မရှိပေ။ သို့သော် သဘာဝတ္ထ ပညာနှင့်ပတ်သက်သော စာအုပ်များ၊ ဘာသာရေးကျမ်းများ၊ နီတိများမှာမူကား ဘာသာပြန်ဆိုရာတွင် မူရင်းဆရာ၏ အပွေ့အပေါ်ဟာသိအဓိပ္ပါယ်များနှင့် အချွတ်အချော် ရှိနိုင်သော အန္တရာယ်များ လွန်စွာများပြားလှပေသည်။

ထို့ကြောင့် သိရုကုရယ်ကို တမိလ်ဘာသာမှ နိုင်ငံခြားဘာသာသို့ အသီးသီး ပြန်ဆိုခဲ့ရာတွင် အင်္ဂလိပ်ဘာသာဖြင့် ထုတ်ဝေသော စာအုပ်များကိုပင် ပင်ကိုယ် တမိလ်ကျမ်း၏ အဆိုအမိန့်ကို ငုံမိသည်၊ မငုံမိသည်၊ အံကျသည်၊ ချွတ်ချော်သည် စသည်ဖြင့် အမျိုးမျိုး ဝေဘန်ဖိက ပြုခဲ့ကြလေသည်။ ဤအဖြစ်မျိုးနှင့် ကြုံရသည်မှာ ဤကျမ်းတွင်လော၊ မဟုတ်သေးပါ။ အိန္ဒိယမြောက်ပိုင်းသားတို့၏ ဘဂဝတ်ဂီတာ ကျမ်းကြီးဆိုလျှင်လည်း လူသိလည်းများ၍ အနောက်ပိုင်းစာပေ အမျိုးမျိုးနှင့် ဘာသာ ပြန်ဆိုသူများလည်း များပြားလှ၏။ ဘဂဝတ်ဂီတာကို ဘာသာပြန်ဆိုသူများတွင်

ဏ

# သိရုကုရယ်လ်

ဘိုပါ အိရှားဝတ် **Christopher Isherwood** ဒေါက်တာ အင်နီဗင်းဆင့်

**Annie Beasant** ဒီပီဟေးလ် **D. P. Hill** ဒေါက်တာရာဒါကရစ်ရှနန်

**Radakrishnan** အက်ဂါတန် **Edgarton** အက်ဒွင်အာနိုး **Edwin** **old** စသော နာမည်ကျော်ပုဂ္ဂိုလ်များပါဝင်၏။ သို့တိုင်အောင် ထိုပုဂ္ဂိုလ်များ၏ ဝိုချက်သည် မည်သူက မူရင်းသဘောနှင့် ငုံမိသည်။ မည်သူက မငုံမိ စသည်ဖြင့် ‌န်ချက်များ ရှိခဲ့လေသည်။

ဤစာအုပ်တွင်လည်း ဘာသာပြန်သူသည် မတိကျမှုများကို ကင်းစင်နိုင်သမျှ းစင်အောင် အထူးအားထုတ် ပြန်ဆိုထားကြောင်းကို ပြောကြားလိုပါ၏။ အကယ် ‌တိကျမှုများရှိခဲ့သော် ဖေါ်ထုတ် ညွှန်ကြားသူတို့အား ကြိုဆိုရန် လက်ကမ်းပါ၏။

ဘာသာပြန်သူ အဖို့တွင် ဤကျမ်းကို မြန်မာဘာသာသို့ ပြန်ဆိုရသဖြင့် မြန်မာပေတွင် တိုင်းတပါး စာပေတခုကို ရင်းနှီးအောင် ဆောင်ကြဉ်း ပေးရသည်ဖြစ်၍ အပ်သော အမှုတခုကို လက်မှန်မဆွ ပြုလိုက်ရသည်ဟု ကြည်နူးခြင်း ဖြစ်မိပေသည်။

ဤသို့ စာပေတံတား ခင်းရာတွင် ကန်ဘဲ နတ်ကူကိုယ်တိုက်ချစ်တီးယား ပညာရေး ဂေါပကအဖွဲ့ *The Kanbe Nattukkottai Chettiar Educational Trust* မှ တမိလ်စာရေးဆရာ တဦးဖြစ်သူ မစ္စတာဂန္ဓီအာနန်းမလီ *Mr. Gandhi Annamalai* ၏ အကြံဉာဏ်နှင့် စိတ်ရောကိုယ်ပါကူညီယိုင်းပင်း မရှိခဲ့လျှင်လည်း ဤစာအုပ်ထွက်ပေါ်လာရန် ခဲယဉ်းလိမ့်မည်ဖြစ်ကြောင်း ကျေးဇူးတင်စွာ မှတ်တမ်းတင်အပ်ပါသည်။

၁၉၆၃-ခုနှစ်၊ ဒီဇင်ဘာလ ၂၂-ရက်၊
ရန်ကုန်မြို့။

မျိုးသန့်



## ၂-ကုရယ်လ်၏ နိဒါန်း

### (က) တမိလ်တို့နေထိုင်ရာမြေ

လောကရှိ လူတို့တွင် တွေးမှုကြံမှုသည် အရေးကြီး၏။ ထို့နောက် တွေးမှုကြံမှုကို အခြေပြု၍ပေါ်ပေါက်အပ်သော လုပ်မှုကိုင်မှုသည်အရေးကြီး၏။ ဤနှစ်မျိုးတို့ပေါင်းစပ်၍ဖြစ်ပေါ်လာသော လုပ်ငန်းများ၏ အကျိုးတရားသက်ရောက်မှုကို ကြည့်၍ အကြင်သူတဦးအား ကောင်းသည်၊ ဆိုးသည်၊ တော်တည့်သည်၊ ဂုဏ်လိုက်စားသည်၊ အမြော်အမြင်ရှိသည်၊ အမြော်အမြင် နည်းပါးသည်ဟူ၍ ဝေဖန်ကြကုန်၏။

ထေရုဗလုဗ *Tiruvalluvar* သူမြတ် ပြုစုခဲ့သော ဤ ကုရယ်လ်ကျမ်းကြီးမှာ လူတန်ဘိုးကို တဦးချင်းအားဖြင့်၎င်း၊ အအုပ် အစု သင်းပင်း၊ နိုင်ငံအားဖြင့်၎င်း၊ အခြေပြု၍ ကောင်းမြတ်ရာဖြစ်သော တွေးမှုကြံမှု၊ လုပ်မှုကိုင်မှုတို့ကို ထိန်းသိမ်း ပေးစေတတ်သော တရားများကို ညွှန်ကြား ပြသသည့် ကျမ်းကြီး ဖြစ်ပေသည်။ ထို့ကြောင့် ဤကျမ်းကြီးကို နီတိကျမ်းကြီးဟုလည်း ခေါ်တွင်ရာ၏။ လူတို့၏ အဆိုး အကောင်း၊ လောက၏ အဆိုးအကောင်းကိုပြုပြင်ပေးရန် လမ်းညွှန်ချက်များပါရှိသောကြောင့်လည်း လောက စည်ပင်ရေးကျမ်းကြီးဟု တင်စား၍ ခေါ်မည်ဆိုလည်း ခေါ်ထိုက်ပေသည်။

ကုရယ်လ်ကို ဖတ်ရှုကြမည့် ပုဂ္ဂိုလ်တို့သည် ကုရယ်လ်၏ ဘူမိနက်သန် ဒေသဖြစ်သော အိန္ဒိယပြည်တောင်ပိုင်း ကျွန်းဆွယ်ကြီး၏ အကြောင်းကို၎င်း ထိုဒေသတွင် နေထိုင်ခဲ့ကြသော တမီလ် လူမျိုးတို့၏ ရာဇဝင်နောက်ကြောင်းကို၎င်း၊ အမြွက်မျှသိထားသင့်သည်ဟု သဘောရပေသည်။

တမီလ်တို့သည် ဒြါဗိဒရန် *Dravidian* အနွယ်များ ဖြစ်ကြသည်။ တမီလ်တို့ ခေတ်ကောင်းချိန်မှာ ကမ္ဘာ့သမိုင်းတွင် ခရစ်တော် မပေါ်မီကာလကပင်ဖြစ်၏။ အိန္ဒိယပြည် မြောက်ပိုင်းတွင် အရိယန် *Aryans* ယဉ်ကျေးမှုများ တစထက် တစ လွှမ်းမိုးလာရာတွင် တောင်ပိုင်း ဖြစ်သော တမီလ်တို့၏ဒေသမှာ နောက်ဆုံးတွင်မှ ထိုယဉ်ကျေးမှုနှင့် ရောနှော မိကြသည်။ တို့တိုင်အောင် တမီလ်တို့သည် အရိယန် ယဉ်ကျေးမှုနှင့် မထိမစပ်သကဲ့သို့ မိမိတို့ကိုယ်ပိုင် ဓလေ့ ထုံးစံများဖြင့် စဉ်လာမပျက် ကျင့်သုံး နေထိုင်ခဲ့ကြသည်။

အိန္ဒိယနိုင်ငံတွင် သီရိစမ္မာသောကမင်းကြီး အုပ်စိုးနေချိန် (ခရစ်တော် မပေါ်မီ အနှစ် ၃၀၀ ဝတ်ိုက်)တွင် ချိုလာ *Chola*၊ သီရာ *Sera*၊ ပန်ဒယာ *Pandya*၊ ဟူသော တိုင်းပြည်တို့မှာ တသီးတခြား တည်ရှိနေကြ၏။ ယင်းတို့မှာ တမီလ်ဘုရင် များ၏ မင်းနေပြည်များဖြစ်ခဲ့လေသည်။ သီရိစမ္မာသောက မင်းကြီး၏ ကျောက်စာများ၌ ဤမင်းနိုင်ငံများကို အိမ်နီးချင်းနိုင်ငံများဟု ရည်ညွှန်းရေးသားထားလေသည်။ ထိုမင်းများတွင်

မိမိတို့ဩဇာခံ ပြည်နယ်များ ရှိကြလျက် ဩဇာခံ ပြည်နယ်များ၏ အစွန်အတိုင် ယက
ဆောင် ပဏ္ဏာများကို လက်ခံကာ တမင်းတချင်း နေထိုင်ခဲ့ကြသော တိုင်းပြည်များ ဖြစ်
လေသည်။

# သိရကုရလ်ယ်

ဆိုတမိလ်သုံးပြည်ထောင်တွင် ချိုလာပြည်ထောင်၏ မြို့တော်မှာ ယခု ထရိချီနိုပိုလီ
hinopoly ဟု ခေါ်၍ ယခင်ဥရေယာဟု ခေါ်သောအရပ်တွင် ရှိသည်။ သိရာပြည်
တော်မှာ အိန္ဒိယ အနောက်ဖက်ကမ်းရှိ ကရာခေါ်အရပ်တွင် ရှိသည်။ သိရာသည်
ရာလား Kerala ပြည်နယ်ပင် ဖြစ်သည်။ ပန်ဒရာပြည်၏ မြို့တော်မှာ မဓုရ
dura မြို့ ဖြစ်လေသည်။

ထိုပြည်ထောင်သုံးခုတို့သည် ရံဖန်ရံခါ မိမိတို့အချင်းချင်း စစ်ခင်းကြသည်လည်း
ည်။ ပူးပေါင်း ဆောင်ရွက်ကြသည်လည်း ရှိသည်။ ပင်လယ်နှင့် နီးကြသည့်အလျောက်
ရပ်ခြားနှင့် ကုန်ကူးသန်းခြင်းများ ရှိနေခဲ့ကြသည်။ ကူးသန်းကြသော နိုင်ငံတို့မှာ
ရပ်ကျွန်းဆွယ်ရှိ နိုင်ငံအများနှင့် ရောမ, ဂရိစသော မြေထဲပင်လယ် တဝိုက်မှ နိုင်ငံ
ဖြစ်လေသည်။

ပန်ဒရာပြည်၊ မဓုရမြို့တွင်း၌ပင် ရောမလူမျိုးတို့ နေထိုင်ရာ ရပ်ကွက် တခု ရှိခဲ့
ည်ဟု ထိုခေတ်က အသုံးပြုခဲ့သော ပိုက်ဆံများကိုကြည့်၍ ခန့်မှန်းကြလေသည်။

စာပေနှင့် ပတ်သက်၍ ဂရိတို့၏ ဘာသာစကားတွင် ဆန်, သစ်ကြမ်းပိုးခေါက်,
း, ငြုပ်ကောင်း စသည်တို့ကို ခေါ်သောစကားတို့မှာ တမိလ်ဘာသာမှ ရရှိသည်ဟူ၍
န်းဘရစ်ချ တက္ကသိုလ်တိုက်ထုတ် "အိန္ဒိယနိုင်ငံသမိုင်း" စာအုပ်တွင် ရေးသားထား
သည်။

တမိလ်တို့ခေတ် ထွန်းစဉ်အခါက "အကယ်ဒမီ" ဟု ခေါ်သော ပညာဗိမာန်ကြီး
ခု ထွန်းကားခဲ့ဘူးသည်ဟုလည်း သိရပေသည်။ ထိုအကယ်ဒမီ ကျောင်းကြီးများတွင်
ဆရာဝိ သခင်ကြီးများ စုဝေးလျက်တိုင်ပင်စည်းဝေးကြကာ အသစ်အသစ်ပေါ်ပေါက်

သာ စာပေများကို ဝေဖန်အကဲဖြတ်ခြင်း အမှုများ ပြုလုပ်ခဲ့ကြသည်ဟု သိရသည်။

မဟာဘာရတ၊ *Mahabharata* ရာမာယန၊ **Ramayana** အစရှိသော စမ္ဗာ့ကျော် အိန္ဒိယဂန္ထဝင် စာပေများတွင်၎င်း၊ ရှေးဦး သင်္ကဋ္ဌ ကျမ်းများတွင်၎င်း၊ ာရိနှင့်လက်တင်ပညာရှိတို့ ရေးသားပြုစုခဲ့သော ကျမ်းများတွင်၎င်း၊ ခရစ်တော်မပေါ်မီ ခေတ်မှစ၍တမီလ်တို့တွင် စာနှင့်ပေနှင့်, ယဉ်ကျေးမှုနှင့်တသီးတခြား ဂုဏ်ပြောင်၍ နေခဲ့ ကြောင်းကို အထောက်အထားများ တွေ့ရလေသည်။

ထိုခေတ် တမီလ်အမျိုးသားတို့သည် ပြည်တွင်းပြည်ပ အဆက်အသွယ် ကောင်း မွန်ကြ၍ နောက်ပိုင်းတွင် အရိယန်ယဉ်ကျေးမှု ဝင်ရောက်လာသည့်အခါလည်း အသာ တကြည်ပင် လက်ခံခဲ့သည်ဟု သိရ၏။

ထိုခေတ်တွင် တမီလ်ယဉ်ကျေးမှုထွန်းကားပုံကို အိန္ဒိယပြည် ဆင်း *Sind* နယ်၌ တူးဖေါ်တွေ့ရှိရသော ဟာရပ္ပ**Harappa** နှင့် မိုဟင်ဂျိုဒါရို *Mohenjodaro* မြို့ ဟောင်းများမှလည်း ရှေးဟောင်းပစ္စည်း အထောက် အထားများ အရ သိရှိရပြန်သည်။

---

## သိရုကုရယ်လ်

## ၅

ကုန်စည် ကူးသန်းရောင်းဝယ်ရေးတွင် တမီလ်တို့၏ မြေဖြစ်သော တောင်ပိုင်း အိန္ဒိယမှ ဟင်းခပ် အမွှေးအကြိုင်၊ ကျောက်သံပတ္တမြား၊ ဝါဂွမ်း စသည်တို့ကို အီဂျစ်၊ ရောမ, ခေါမစသော နိုင်ငံများက ဝယ်ယူ သုံးစွဲခဲ့ကြလေသည်။

တမီလ်စာပေတွင်ထင်ရှား၍ ရှေးအကျဆုံးသော သဒ္ဒါကျမ်းကြီး တစောင်လည်း ရှိသေး၏။ ထိုကျမ်းကြီးမှာ လင်္ကာနည်းဖြင့် ရေးဖွဲ့ထား၍ တော်လကပ္ပိယနာ *Tolka-ppiyana* ဟု တွင်၏။ ကျမ်းပြုသူမှာ တြိနာဒုမဂ္ဂနိ *Trinadu Magni* ဆိုသူ ဖြစ်လေ သည်။ ထိုကျမ်းကြီးကို အထောက်အထားပြု၍လည်း ခရစ်နှစ် စတင် မရေတွက်မီကပင် တမီလ်တို့၌စာပေပညာများ အဆင့်အတန်းမြင့်မြင့်ထွန်းကားနေပုံကို တွေ့နိုင်လေသည်။

ထိုခေတ်က တမီလ်တို့၏လူမှုရေးအခြေအနေကိုလည်း ဤကျမ်းထဲတွင် ရေးသား ထားခဲ့၏။ တမီလ်တို့မှာ အမဲလိုက်သော မုဆိုးများ၊ သဲကန္တာရနေ လူများ၊ နွားကျောင်း သားများ၊ တံငါများ၊ လယ်ယာ လုပ်ကိုင်စားသောက်သူများဟူ၍ လူတန်းစား ကွဲပြား လျက်ဖွံ့ဖြိုးခဲ့ကြသည်။ လူတန်းစားတမျိုးတမျိုးအတွက်လည်း သူ့ဓလေ့၊ သူ့ဘာသာနှင့် စာဖွဲ့စရာ အကြောင်းများ ရှိလေရာ၊ ထိုကိစ္စများကို ခွဲခြား၍ အထက်ပါ ကျမ်းကြီးတွင် ဘ၀ သရုပ်များကို ရေးခြယ်ခဲ့ကြ၏။

တမီလ်စာပေ၌ အထူးသဖြင့် စာဖွဲ့ခဲ့သော အကြောင်းတို့မှာ စစ်ပွဲ အကြောင်း နှင့် အချစ်အကြောင်းတို့ ဖြစ်လေသည်။ ဤတွင် စစ်ပွဲအကြောင်းကို ပူရမ်*Puram*ဟု ခေါ်၍၊ အချစ် အကြောင်းကို အဟမ်*Aham*ဟု ခေါ်သည်။ ထိုသို့ ရှေးက ဖွဲ့ခဲ့သော ကဗျာကြီးများသည် တမီလ်လူမျိုးတို့၏ နေ့စဉ်လုပ်ငန်း ဆောင်တာများကို ဖော်ပြရုံ မက၊ ယောက်ျားမိန်းမတို့၏ အလေ့အလာများကိုပါ စီကုံးထားခဲ့ကြ လေသည်။

ကုရယ်လ်ကျမ်းကြီးကို မူကားထေရုဗ ါလုဗါသည် မည်သည့်ခေတ်တွင်ရေးသား ခဲ့သည်ဟူ၍ စာကိုယ်တွင် ခန့်မှန်းထောက်ရှု ကြံဆဘွယ်ရာပင် တစုံတရာ မပါခဲ့ပေ။ ထို့ကြောင့်ကုရယ်လ်ကျမ်းထဲတွင်ပါရှိသောအဆိုအမိန့်များနှင့် အခြားတမီလ်ကျမ်းဂန် များတွင် ပါရှိသော အဆိုအမိန့်များတို့ကို ညှိနှိုင်း၍ သတ်မှတ်ရန် ကြိုးစား ကြသည်။ သို့တိုင်အောင် ကုရယ်လ်ကျမ်းကြီးကို ပြုစုသော နှစ်မှာ အတိအကျ ခန့်မှန်းရန် ခက် သဖြင့် ခရစ်တော်ပေါ်ပြီး နှစ်ပေါင်း ၂၀၀နှင့် ၆၀၀အကြားတွင် ပေါ်ပေါက်ခဲ့သည်ဟု ယေဘုယျ ခန့်မှန်းကြလေသည်။ အချို့ကား ခရစ်တော်ပေါ်ပြီး နှစ်ပေါင်းတရာ (တစ်ရာစု) အတွင်း ဤကျမ်းကို ပြုစုခဲ့သည်ဟုပင် တွက်ဆကြသည်။ သို့သော် အများ ၏ လက်ခံချက် မဟုတ်ပေ။

အိန္ဒိယနိုင်ငံကြီး၏ သက်တမ်း တလျှောက်တွင် အလားတူ ကျမ်းကြီးများဖြစ် သော စာဏကျ*Chanakya*၏ စာဏကျနီတိ၊ ၀ါစာယန*Vatsayana*၏ ကာမ သုတ္တရ*Kama Suttra*စသည်တို့လည်း ပေါ်ပေါက်ခဲ့ပါ၏။ မနုရသေ့ကြီးစီရင်သော

ဓမ္မသတ် ကျမ်းကြီးနှင့် မတူညီပါပေ။ မနုကျမ်းတွင် ဥပဒေဓမ္မသတ်တို့၏ မျက်စိဖြင့် ည့်သော် လူအမျိုးမျိုး အဆင့်အတန်း အမျိုးမျိုး ကွဲပြား၍ နေသေး၏။ ကုရလ်ယ မ်းကြီးတွင် ဤသို့ မဟုတ်ပေ။

ကုရယ်လ်မှာ တခေတ်တချိန်အတွက်သာ ရေးသားထားသော စာများ မဟုတ် ကြောင်း၊ ခေတ်အဆက်ဆက် ဖတ်မှတ်၍ မကုန်နိုင်၊ မဆုံးနိုင်ဘွယ်ရာ ဖြစ်သော အမြဲ နှန်း ခေတ်မှီ နေမည့် ကျမ်းကြီးတစောင်လည်း ဖြစ်ကြောင်း ဆိုကြလေသည်။

သိရုကုရယ်မှာ ယခုအခါကမ္ဘာ့ကုလသမဂ္ဂ အသင်းကြီး၏ ယူနက်စကို Unesco ခေါ်ပညာ, သိပ္ပံနှင့် ယဉ်ကျေးမှုဆိုင်ရာ အဖွဲ့အစည်းကြီးကပင် ဘာသာအမျိုးမျိုးဖြင့် ဒုန်ဆို ထုတ်ဝေသင့်သော စာအုပ်များစာရင်းတွင် ထည့်သွင်းထားရလေသည်။ ကျမ်းပြု ပုဂ္ဂိုလ်တဦး၏ အဆိုအရ သိရုကုရယ်လ်နှင့် ပတ်သက်၍ ဘာသာအမျိုးမျိုးဖြင့် ထုတ်ဝေ သားသော စာအုပ်ပေါင်း ၁၅၀-ကျော် ရှိသည်ဟုဆို၏။ ဤအထဲတွင် ဆောင်းပါး ျားနှင့် အခြားကြိုးကြား ကြိုးကြားရေးသား ကြသော ကုရယ်လ်အဖွင့် စာတမ်းများ ပေါင်သေးပေ။

---

## ကျမ်းပြုဆရာ ထေရုဗာလုဗာ

အမှန်အားဖြင့်ကား ကျမ်းပြု ပုဂ္ဂိုလ်ကြီး ထေရုဗာလုဗာ၏ အကြောင်းကို များ စွာသိရသည် မဟုတ်ပေ။သို့သော် ထိုခေတ်တွင် ပေါ်ပေါက်လာသော စာပေအထောက် အထားများအရ ခေတ်ကလည်း ခေတ်ကောင်း၊ စာပေပညာကလည်း တိုးတက်ချိန်၊ ကုန်ကူးသန်းရောင်းဝယ်မှုကလည်းဖွံ့ဖြိုးလျက်ရှိသော ထိုခေတ်တွင် လူတို့ကလည်းစာပေ ပညာ၏ကျေးဇူးကြောင့် အမြော်အမြင် အရာ၌ရင်း၊ သည်းခံမှုအရာ၌ရင်း၊ အတော်ပင် ပြည့်စုံခဲ့ကြသော ခေတ် ဖြစ်ရာ ထိုခေတ်ထဲတွင် ပေါက်ဖွားလာသော ဆရာကြီး ထေရုဗာလုဗာသည် ခေတ်သဘော ထင်ဟပ်သော လူပုဂ္ဂိုလ် (ဝါ) ခေတ်၏ ပတ်ဝန်း ကျင်က ပြုပြင်ဖန်တီးပေးအပ်သော လူပုဂ္ဂိုလ်စင်စစ် ဖြစ်မည်မှာ ယုံမှားဘွယ်မရှိပေ။

ကျမ်းပြုဆရာသည် မှတ်စုမှတ်တမ်း ရေးသားခြင်းအလေ့ မထွန်းကားမီခေတ်က လူဖြစ်ခဲ့ရသောကြောင့်သာလျှင် သူနှင့်ပတ်သက်၍ အတ္ထုပ္ပတ္တိများ မကျန်ခဲ့ခြင်း ဖြစ်လေသည်။ သို့သော် ပြောရိုးအစဉ်စကားတို့ကို မှတ်သား၍ ဖော်ပြရပါမူ ထေရုဗာလုဗာသည် မိုင်လာပူ *Mylapore* (ယခု မဒရပ်နယ်)တွင် ယက်ကန်းသည် မျိုးရိုး၌ ပေါက်ဖွားခဲ့၏။ မိုင်လာပူဆိုသော နဂရယ်မှာ "ဥဒေါင်းတို့၏ရွာ" ဟူ၍ အဓိပ္ပါယ်ရသည်။ ထို့ကြောင့် ထေရုဗာလုဗာအား ကျမ်းများတွင် "မိုင်လာပူမှ ယက္ကန်းသည်" **Weaver from Mylapore** ဟူ၍လည်း တနည်း တင်စား၍ ခေါ်ဝေါ်ကြသေး၏။

## သိရုကုရယ်လ်

၇

ဗာလုဗာ **Valluvar** မျိုးရိုးမှာ ဇာတ်နိမ့်သော မျိုးရိုးဖြစ်၏။ သို့သော် ဇာတ်နိမ့်သူတို့တွင် ဗာလုဗာတို့သည် သူတော်စင်မျိုး ဖြစ်ကြသည်။ (ထေရု ဟူသော စကားမှာ ပါဠိဘာသာ ထေရ် ဟူသော စကားနှင့် တူ၍ သူတော်စင်ဟုပင် အဓိပ္ပါယ်ရ၏။) ထေရုဗာလုဗာဆိုသည်မှာ ဗာလုဗာ မျိုးရိုး၏ သူတော်စင်ဟု ဆိုလိုရင်း ဖြစ်ပေသည်။

ဆိုရိုးစကားအတိုင်း ပြောရလျှင်ထေရုဗါလုဗာသည် ဗြဟ္မဏ **Brahman** မျိုးယောက်ျားနှင့် ဗာလုဗါမျိုး ဇာတ်နိမ့်သူတို့ တိတ်တဆိတ် ရည်ငံ၍ ပေါက်ဖွားသော သား သမီး(၇)ယောက် အနက်မှ တဦး ဖြစ်သည်ဟု ဆိုသည်။

အခြားပေါ်ပြချက် တခုအရဆိုလျှင် ထေရုဗါလုဗါအား လှေသူကြီး တဦးက ခေါ်ယူ မွေးစား ခဲ့သည် ဟုဆို၏။ အခြား အဆိုတရပ်မှာ ယင်း ပုဂ္ဂိုလ်သည် မဓုရ *Madhura* မြို့တွင် မွေးဖွား၍ မိုင်လာပူ အရပ်တွင်လာရောက် ကြီးပြင်းသည်ဟုလည်း ဆိုပေသေးသည်။ ကုရယ်လ်ကျမ်းကြီးတွင် ပင်လယ်လေလှိုင်းတို့နှင့် ပတ်သက်၍ ဖွဲ့နွဲ့ရေးသားထားခြင်းများ ပါရှိသည်ဖြစ်ရာ ပင်လယ်ကမ်းစပ် ဖြစ်သော မိုင်လာပူဒေသတွင် ထေရုဗါလုဗါ ကြီးပြင်းခဲ့ရလိမ့်မည်ဟူ၍ အတပ်တွေးနိုင်ဘွယ် ဖြစ်ပေသည်။

ယနေ့သော် မိုင်လာပူဒေသတွင် ဤကဗျာစာဆိုကြီးနှင့် ဇနီးတို့အား အမှတ်ရသောအားဖြင့် ပုထိုးတဆောင်ကို လှပသော ပန်းဥယျာဉ်တခု၏ အလယ်တွင် တည်ဆောက်၍ထား၏။ ထိုဥယျာဉ်မှာ ဗြဟ္မဏမျိုးတို့ ရပ်ကွက်၏ ဗဟိုတွင် ရှိ၍ သူ့စာထဲမှအတိုင်း ပင်လယ်လှိုင်းများ ပုတ်ခတ်သံကို ကြားနိုင်သော နေရာတွင် ဖြစ်လေသည်။ နှစ်စဉ် တန်းခူး (ဧပြီ)လ လောက်တွင် ဤစာဆိုအား ဂုဏ်ပြုသော အားဖြင့် ပွဲတော်ပြုလုပ်၍ သူတော်သူမြတ်တို့ကဲ့သို့ ပူဇော်သက္ကာရ ပြုကြလေသည်။

ခရစ်နှစ်များ အစခန့်တွင်မိုင်လာပူသည် နိုင်ငံရပ်ခြားနှင့် ဆက်သွယ်လျက် ရှိခဲ့သော ဆိပ်ကမ်းမြို့တမြို့ ဖြစ်ခဲ့ရာ၏။ ထိုမြို့တွင် လူမျိုးပေါင်းစုံ မှီတင်း နေထိုင်ကြလျက် ကုန်သည်များသည်၎င်း၊ ယက္ကန်းသည်များသည်၎င်း။ တံငါသည် များသည်၎င်း၊ လယ်သမားများသည်၎င်း၊ မှီတင်းနေထိုင်ခဲ့ကြရာ၏။ ခရစ်ယန်တို့ပင် ထိုမြို့၌ တစုတသင်းဖွဲ့၍ နေထိုင်ခဲ့ကြဘွယ် ရှိကြောင်းကို စိန့်သောမတ် *St. Thomas* ဘုရားဝတ်ကျောင်း ရှိနေခြင်းက သက်သေခံ၏။ ထိုမြို့၏ တောင်ဖက်ရှိ မိုင်နှစ်ဆယ်ခန့် ဝေးသော မဟာဗါလိပူရမ် *Mahabalipuram* ခေါ် ဆိပ်ကမ်းမြို့ကလေးမှာလည်း ပလဝါ *Pallava* နှင့်ချိုလာ *Cholas* မင်းများ အသုံးပြုသော စည်ကားသည့် မြို့ဖြစ်လျက်၊ ခရစ်နှစ် ခုနှစ်ရာစုနှင့် ရှစ်ရာစုများ၏ လက်ရာမြောက်သော ဘုရားဝတ်ကျောင်းများ ရှိနေခဲ့လေသည်။

ထိုအချိန်၌ သက်ရှိထင်ရှား ဖြစ်ခဲ့သော စာဆိုထေရုဗါလုဗါမှာ လူမျိုး အဖုံဖုံ၊ ယဉ်ကျေးမှု အထွေထွေ၊ ဘာသာအယူ အပြားပြားနှင့် ကြုံဆုံ နီးစပ်ခဲ့ရမည်မှာလည်း

# သိရုကုရယ်လ်

န် ဖြစ်ပေသည်၊ ထိုခေတ်တွင် ဂျိန်းဘာသာဝင်များ၊ ဗုဒ္ဓဘာသာများ၊ ဗေဒ
ျ၊ အာဂမိပတိန္နုများ၊ ဒွါဗိဒိရန်များတို့သည် အတူ ယှဉ်တွဲ၍ မိမိတို့ နှစ်သက်ရာ
သာကို ငြိမ်းငြိမ်းချမ်းချမ်း သင့်သင့်မြတ်မြတ်ဖြင့် ကိုးကွယ်နေထိုင်ခဲ့ကြ ပေသည်၊
သာရေး ဂိုဏ်းဂဏ ကွဲပြားခြင်းဟူ၍ မရှိသေးဘဲ တဦးကို တဦး၊ အယူဝါဒ တခုကို
နှ၊ အချင်းချင်း လေးစားသမှု၊ သည်းခံသမှုတို့ဖြင့် အကြည်အသာ ဆက်ဆံခဲ့ကြပေ
သည်၊ ထိုသို့ ငြိမ်းချမ်းစွာ ကိုးကွယ်ဆည်းကပ် နိုင်သော အလေ့မှာ ခရစ်နှစ် ခုနစ်ရာ
ကွင်တမီလ်တို့ နိုင်ငံ၌ ဂိုဏ်းဂဏဝါဒများ ပေါ်ပေါက်လာသော အခါတွင်မှ ပျက်ပြား
ား ခဲ့ရလေသည်၊

ယခုကွန်ဂျီဗါရမ်ခေါ် *Conjevaram* ဟု ခေါ်သော ရှေးက ကန်ချီ *Kanchi*
တော်အဖြစ် ထွန်းကားခဲ့သော ဒေသမှာ မိုင်လာပူမြို့နှင့် မိုင်အနည်းငယ်မျှ သာ၍
ားလေသည်၊ မကြာသေးမီကမဒုရမြို့နေ သီဆိုဖန် ဘာရတ်တီဆိုသူ ပုဂ္ဂိုလ်ကြီးတဦး
၊ ထေရုဗါလုဗါနှင့် ပတ်သက်၍ ကျမ်းငယ်တစောင် ထုတ်ဝေရာတွင် စာဆိုပုဂ္ဂိုလ်
ကြီးသည် ရာထူးရ ပုဂ္ဂိုလ်ဖြစ်လျက် မဒုရမြို့ ပန်ဒရန် *Pandian* မင်း လက်ထက်၌
နန်းရင်းဝန် ရာထူးမျိုးဖြင့် အမှုထမ်းခဲ့ရသည်ဟု ဆိုထားလေသည်၊ သူ၏ အထောက်
ထား ပြသချက်မှာ ဗါလုဗါဟူသော အမည်တို့သည် ရှေးခေတ်က နန်းတော်၌ ရာထူး
ကြီးသူများသာ ရရှိသော မင်းပေးဘွဲ့တမျိုး ဖြစ်ခဲ့ကြောင်းဖြင့် ပြောဆို၏၊ ဤအချက်
နှင့်ကန်သယောင် ရှိသော်လည်း ရှိပြီးပါးစပ် ရာဇဝင်ကို ပယ်ရှား နိုင်ရန်မှာ ယခုထက်
ပို၍ အခိုင်အမာ ပြောဆိုနိုင်ရန် လိုပေသေးသည်၊

ပါးစပ်ရာဇဝင်ကို ပြန်ကောက်ရမည်ဆိုလျှင် ထေရုဗါလုဗါ၏ ဇနီးသည်မှာ
ဝေလာလ *Vellala* မျိုးရိုးဖြစ်သော ဝါသုခီ *Vasuki* ဟူသည့် အမျိုးသမီးဖြစ်၏၊
ဝါသုခီသည် မိမိ၏ ခင်ပွန်းထက်စော၍ ကွယ်လွန်သည် ဆို၏၊

---

## စာဆို၏ အမှု အကျင့်

ထေရဇာလုဇာ သူမြတ်နှင့် ပတ်သက်၍ ကျွန်ုပ်တို့သိရှိရသော ထားမှာ သူပြုစုခဲ့သော ဤကုရယ်လ်ကျမ်းကြီးမှပင် ဖြစ်သည်။

အယောက် အာ

ကုရယ်လ်ကျမ်းကြီးကို ကြည့်၍ လေ့လာ၍ အကဲဖြတ်ရလျှင် သူသည် လူတန်းစား အအသီးသီးတွင် ဝင်ဆံ့သော ပုဂ္ဂိုလ်ဖြစ်လေသည်၊ ခမ်းနားထယ်ဝါခြင်း မရှိ၊ ရိုးသားဖြောင့်မတ်၏၊ ကိုယ်စွမ်းကိုယ်စကို အားကိုး၏၊ ဘုရားတရားကို ကြည်ညိုကိုင်းရှိုင်း၏၊ ဟာသစိတ်ဓာတ်လည်း ကြွယ်၏၊

သိရုကုရယ်လ်

၉

ဤပုဂ္ဂိုလ်သည် ရက်ကန်းသည်တို့ဘာဝသို့တည်းမဟုတ် တောသူတောင်သားတို့ဘာဝ ရိုးရိုးအေးအေးနေရခြင်းကို နှစ်သက်၏။ ကလေး သူငယ်များနှင့်လည်း လွန်စွာအလိုက်သင့်၏။ သူ၌ စိတ်ဓာတ်အရာတွင် ချီးကျူးလောက်သော အဓိက ဂုဏ်ထူးများကား ကြင်နာတတ်ခြင်း၊ သစ္စာမှန်ကန်ခြင်း၊ ရိုးသားခြင်းနှင့် မည်သူ့ကိုမှ ရန်ပြုလိုသော စိတ်ထား မရှိခြင်းပင် ဖြစ်လေသည်။ ဤပုဂ္ဂိုလ်ကြီးသည် သူတော်စင် ရဟန်းမဟုတ်ခဲ့ပေ။ သာမန်ပုထုဇဉ်တဦးပင် ဖြစ်၏။ ရဟန်းဟု အမည်ခံလျက် ယောင်ဆောင်တုပ၍ ဆိုးသွမ်းသူများ ပေါများကြောင်းကို သိရှိခဲ့သူဖြစ်၏။

ထေရဝါဒလုဗာသည် သဘာဝတရားကြီးကို အမြဲမပြတ် လေ့လာ လိုက်စား၍ ငှက်များ တိရစ္ဆာန်များ၏ သဘာဝကို ရှုမြင်လေ့လာတတ်၏။ ထိုသဘာဝတို့နှင့် နှိုင်းယှဉ်၍ လူတို့နားလည် လွယ်အောင်လည်း ပုံဆောင်ပြောဆိုတတ်၏။

ဤပုဂ္ဂိုလ်အတွက် ၆၆၀ဘုရားဟူသည် ကပါးတည်း ရှိ၏။ ထိုဘုရားသည် မိမိအား ယုံကြည် ကိုးစားသူ မှန်သမျှအား ထောက်ကူ ဖေးမတတ်သော အရှင်ဖြစ်ကြောင်း ယုံကြည်၏၊ ပြည့်စုံကုံလုံသော ကိုယ်တော်ဖြစ်၏။ ကြည်ရွှင်ခြင်း၊ ချမ်းမြေ့ခြင်းကို ပေးနိုင်သော တဦးတည်းကိုယ်တော်ဖြစ်၏။ သူပူဇော်သော ကျမ်းထဲတွင် ရုပ်တုဘင်းတု ကိုးကွယ်ခြင်း အလေ့အထကိုဖေါ်ပြထားသည်မရှိ။ ဂိုဏ်းဂဏ ကွဲပြားခြားနားမှုကိုလည်း ဖေါ်ပြထားခြင်းမရှိပေ။ သူသည် ဟိန္ဒူဘာသာအယူဝါဒမှဠင်း၊ ဗုဒ္ဓဘာသာအယူဝါဒမှဠင်း၊အဆုံးစွန်သောအားဖြင့် ခရစ်ယာန်အတွေးအခေါ်များမှဠင်း၊ကောင်းနိုးရာရာတို့ကို ရွေးချယ်ထုတ်နုတ်လျက် ပုလဲလုံး ရွှဲလုံးကလေးများ သီကုံးထားသည့်နှယ်၊ သူ့ကျမ်းတွင် ဖေါ်ပြတတ်သူ ဖြစ်လေသည်။

စာဆိုသည် ပညာဉာဏ်မှန်သမျှကို အစဉ်သဖြင့် ကြိုဆို လက်ခံနိုင်အောင် စိတ်ဓါတ်ကို ဟင်းလင်း ဖွင့်ထားတတ်သူဖြစ်၏။ မည်သည့်ဘာသာ မည်သည့်အယူကိုမဆို ပြက်ရယ်လှောင်ပြောင်ခြင်း မရှိကြောင်းကို သူ့ကျမ်းတွင် သိနိုင်၏။ ထို့ကြောင့်လည်း အိန္ဒိယနိုင်ငံတွင် ပေါ်ပေါက် ထွန်းကားသော ဘာသာအယူအားလုံးက သူပူဇော်ခဲ့သည့် သီရုကုရယ်လ်ကျမ်းကို လက်ခံနိုင်လျက် မိမိတို့နှင့်အတူ ပူးနိုင်ခြင်းဖြစ်သည်။

ကျွန်ုပ်တို့ ကြုံဆ၍ ဖြစ်နိုင်ဘွယ်ရှိသည်မှာ စာဆိုသည် မည်သည့် ဘာသာအယူဂိုဏ်းတွင်မျှ ပါဝင်ခဲ့သူ မဟုတ်ဘဲ၊ မိုင်လာပူဒေသတွင် မိမိဖါသာ အေးအေးလူလူ ရက်ကန်းရက်ယင်း ဘဝအတွေ့အကြုံများမှ ပညာဉာဏ်ကို ဆင်ခြင်ထောက်ဆယူခဲ့ခြင်း ဖြစ်တန်ရာသည်၊ အရောင် မျိုးစုံရှိသော ချည်ထည်များကို ရက်လုပ်နေစဉ်၌ အယူအဆ အမျိုးမျိုးရှိသော ဘာသာအသီးသီးကို လေ့လာ၍သင့်ရာလျော်ရာ အကွက် အဆင်တို့ကို ဖေါ်သည့်နှယ်၊ မိမိကိုယ်ပိုင် ဆုံးဖြတ်ချက်ဖြင့် အတွေးအခေါ်ကို ဖန်တီးယူခြင်း ဖြစ်ပေသည်။ စာဆိုသည် ပျင်းရိခြင်းနှင့် ဟန်ဆောင်ခြင်းတို့ကိုကား ရွံရှာမုန်းတီးသူ ဖြစ်လေ

သည်၊ လူတို့၏ နေ့စဉ် ဘဝကို ထိုးဖေါက် ဝင်ရောက်၍ လေ့လာသိရှိဘူးသူ တဦးသာ မဟုတ်ခဲ့ပါက၊ ဤမျှ ရှင်းလင်း၍ လှပသော လူ့ဘဝကြေးမုံတို့ကို စာဖွဲ့နိုင်မည် မဟုတ်ပေ။ ထို့ကြောင့် စာဆို၏ စာပိုဒ်တိုင်း၌ လူ့စိတ်ကူး, လူ့သဘော, လူ့အကြိုက်, လူ့ဝိညာဉ်တို့သည် လူးလွန့်ရှင်သန်လျက် ရှိသည်ကို တွေ့ရမည်ဖြစ်သည်။

---

## ကုရယ်လ်နှင့် ပညာရှိတို့အမြင်

သိရုကုရယ်လ်ကို နိုင်ငံခြားသားတို့ စတင်သိရှိလာသည်မှာ နှစ်ပေါင်း ၂၀၀ ကျော်လေပြီ။ အိန္ဒိယနိုင်ငံသို့ ရောက်ရှိလာကြသော နိုင်ငံခြားသားများတွင် ဥရောပ တိုက်သား အများအပြား ပါရှိလေရာ ခရစ်နှစ် ၁၇၃၀-ပြည့်နှစ်၌ ခရစ်ယန် ဘုန်း တော်ကြီး ဂျိုးဇက်ဗက်ရှ် Joseph Besche ဆိုသူက လက်တင်ဘာသာသို့ ပြန်ဆို ခဲ့ဘူးသည်။ ပြန်ဆိုရာတွင် ပထမပိုင်း ၂-ပိုင်းကို စာအုပ် နှစ်အုပ် ထုတ်ဝေခဲ့လေသည်။

ထိုနောက် ကင်မားရားဆိုသူက ခရစ်နှစ် ၁၈၀၃-ခုနှစ်တွင် ပြန်ဆိုပြီးသား ဖြစ်ခဲ့သည်။ ခရစ်နှစ် ၁၈၅၆-ခုနှစ်တွင် တဖန် ဂျာမန်ဘာသာဖြင့်ပင် ပို၍ ပေါ်လွင် သော ကျမ်းတစောင်ကို ကားလ်ဂရောလ် Karl Graul ဆိုသူက ဘာသာပြန် ဆိုထုတ်ဝေခဲ့ပြန်သည်။

အင်္ဂလိပ် ဘာသာသို့ ပြန်ဆိုရာတွင်ကား ကုရယ်လ်နှင့် ပတ်သက်၍ စာအုပ် ဦးရေ အတော်များများ ရှိသည့်အနက် ဒေါက်တာပုပ် Dr. Pope ၏ ဘာသာပြန် ကဗျာများမှာ အကောင်းဆုံး လက်ရာဖြစ်သည်ဟူ၍ အသိအမှတ် ပြုကြလေသည်။ ကုရယ်လ် ကျမ်းကြီးမှာ မူလကဗျာနှင့် ဖွဲ့ဆိုထားသော ကျမ်းကြီး ဖြစ်သည့်အတိုင်း၊ ဒေါက်တာ ပုပ်က ပိုင်နိုင်စွာ အင်္ဂလိပ်ဘာသာဖြင့် ကဗျာဖွဲ့၍ ဘာသာပြန်ဆိုခဲ့ခြင်း ဖြစ်လေသည်။ ဒေါက်တာပုပ်သည် တမီလ်အမျိုးသားများအား အထူးမေတ္တာထား သော ပုဂ္ဂိုလ်ကြီးဖြစ်သည့်ပြင် တမီလ်တို့၏ ဒေသ အိန္ဒိယပြည်တောင်ပိုင်းတွင် နှစ်ပေါင်း အတော်ကြာကြာနေထိုင်ခဲ့၏။ ထို့ပြင် တမီလ်စာပေကိုလည်း အထူးတလည် လိုက်စားခဲ့သူ ဖြစ်လေသည်။

မူလကျမ်းပြုဆရာ ထေရုဗာလုဗာကား တမီလ်ဘာသာ အရေးအသားတွင် ပိုင်နိုင်မှုကြောင့် ဒေါက်တာ လာဇားရပ်ဆိုသူ ဘုန်းတော်ကြီးက အင်္ဂလိပ် စာရေး ဆရာကြီး ဂျွန်ဗန်ယန် John Bunyan ၏ ရှင်းလင်း လွယ်ကူသော ဟန်ထက်ပင် ကောင်းလှသေးသည်ဟု ချီးမွမ်းထောမနာ ပြုဘူးလေသည်။

ဖရက်ဒရစ်ပင်းကော့ Frederick Pincott ဆိုသူပုဂ္ဂိုလ်ကြီး၏အဆိုအရမှာ အိန္ဒိယပြည်တွင် လူထုအားလုံး၏ စိတ်ခါတ်ကို သိမ်းကြုံးလွှမ်းမိုးနိုင်သော ကျမ်းကြီး

နှစ်စောင်ရှိသည်ဟုဆို၏။ ပထမကျမ်းမှာ တူလဆီဒါသ *Tulsi Das* ဆိုသူပုဂ္ဂိုလ်၏ ရာမာယန ဇာတ်ကြီးဖြစ်လျက် အိန္ဒိယနိုင်ငံ မြောက်ပိုင်းတွင် အထူးကျော်ကြား၏။ ဒုတိယ ကျမ်းကား ထေရုဗာလုဗာ၏ သိရုကုရယ်လ် ကျမ်းကြီးဖြစ်၍ အိန္ဒိယတောင်ပိုင်း တပိုင်းလုံးတွင် ကျော်ကြားလှသည်ဟု ဆိုပေသည်။ ထိုကျမ်း နှစ်စောင်စလုံးပင် ယခုအခါ အိန္ဒိယပြည်၌ လူသိများလျက် ရှိပေသည်။

ဒေါက်တာ ဂရောလ်ဆိုသူ ပုဂ္ဂိုလ်ကြီးကမူ သိရုရယ်လ်၏ ဖွဲ့နွဲ့ပုံ၊ စိတ်ကူး အခြေခံပုံ ကောင်းမွန်ခြင်းကို ပြလိုသောကြောင့် ကုရယ်လ်၏ အယဉ်အနု အလှအပကို အဘယ်ဘာသာ ပြန်ချက်ကမှ ပုံတူဖေါ်ပေး၍ ရမည်မဟုတ်ဟူ၍ပင် ထင်မြင်ချက် ပေးခဲ့လေ၏။

ထေရုဗာလုဗာသည် စာလုံးပေါင်းကလောင်း နှစ်ထောင်ကြွင့် ဤနီတိကဗျာ ကျမ်းကြီးကို ဖွဲ့နွဲ့ရေးစပ်ခဲ့ရာတွင် သုံးစပ်အားဖြင့် မွှံ့ရတတ်သော သက္ကတဘာသာ စကား လုံးများကို လုံးရေ (၅၀)ပင် မပြည့်ဘဲ သုံးစွဲခဲ့ပြီး ကျန်စာလုံးများကို တမီလ်ဘာသာ ဖြင့်ပင် အဓိပ္ပါယ်ပြည့်စုံကြွယ်ဝအောင် ရေးသားခဲ့လေသည်။ ဤသို့ဘာသာစာပေ အရာတွင် ကြွယ်ဝမှုရှိခြင်းကလည်း မူလပုံစုခဲ့သော တမီလ် စာဆိုကြီးအား ချီးကျူးဖွယ် ဖြစ်ပေတော့သည်။

ကုရယ်လ်တွင် ဖေါ်ပြထားသော လူ့ဒါန်းခြင်း၊ ခွင့်လွှတ်ခြင်း စသည်တို့မှာ ဂရိစိန္တာကဝိ အရစ္စတော်တဲ *Aristotle* ပင် ဟောကြား ဆုံးမခဲ့ဘူးခြင်း မရှိသော အကြောင်းရပ်များဖြစ်သည်ဟု တမီလ်စာပေကို ကျွမ်းကျင်အောင်လေ့လာ၍ ကုရယ်လ် ကို ဘာသာပြန်ခဲ့သူ ဒေါက်တာပုပ်က ရေးသားခဲ့ဘူးသည်။ တမီလ်ဘာသာ စာပေ၏ ထင်ရှားမှုမှာ ဤကျမ်း တစောင်တည်းနှင့်ပင် ကမ္ဘာက အသိအမှတ် ပြုရကြောင်း ထိုပုဂ္ဂိုလ်ကြီးကပင် မှတ်ချက်ပြုလေသည်။

သိရုကုရယ်လ်တွင် ရေးသားထားသော အကြောင်းရပ်တို့မှာ ခရစ်ယာန်သမ္မာကျမ်းဟောင်း *Old Testament* ၏ အဆို အမိန့်များကဲ့သို့ပင် ရှေးခေတ်မှီလှ၏ဟု လည်း ဆိုကြပေသည်။

ကုရယ်လ်ကျမ်းကြီးတွင် အခန်းပေါင်း ၁၃၃-ခန်းရှိ၏။ တခန်းတခန်းလျှင် အပိုဒ်ပေါင်း ၁၀-ပိုဒ်စီရှိသဖြင့် ကျမ်းတစောင်လုံးတွင် အပိုဒ်ပေါင်း ၁၃၃၀-ရှိလေသည်။ အခန်း ခေါင်းစဉ်တပ်၍ ထားသော်လည်း စာတအုပ်လုံးကို ကဏ္ဍကြီး သုံးခုဖြင့် ခွဲထား၏။ ယင်းတို့မှာ-

(၁) ဂုဏ်အချင်း အရာများ ဆိုင်ရာကဏ္ဍ

(၂) ပြည့်စုံကုံလုံမှု ဆိုင်ရာကဏ္ဍ
(၃) ချစ်ခြင်း မေတ္တာ ဆိုင်ရာကဏ္ဍဟူ၍ ဖြစ်လေသည်။

# ၁၂

# သိရုကုရယ်လ်

သိရကုရယ်လ်မှာ အိန္ဒိယပြည်၏ ရှေးဟောင်းကျမ်းကြီး တစောင် ဖြစ်သော ဘဂဝတ် ဂီတာကဲ့သို့ လူသိမများပေ။ မသိကြခြင်းအကြောင်းတွင် ကုရယ်လ်သည် အခြားကျမ်းများထက် သိမ်ငယ်၍ အညတြဖြစ်သောကြောင့် မဟုတ်၊ ကုရယ်လ်ကို လူသိအောင် မလုပ်ခဲ့ကြ၍ဟု ကုရယ်လ်နှင့်ပတ်သက်သောအဖွင့်ဆရာတို့က ဆိုပါသည်။

ထင်ရှားမှုနှင့် ဩဇာလွှမ်းမိုးမှု နေရာတွင် အိန္ဒိယပြည်၌ ကုရယ်လ်သည် အခြား ထင်ရှားသော ကျမ်းများနည်းတူ တတန်းတစားတည်းဖြစ်ပေသည်။ တခုဆိုစရာ ရှိသည်မှာ ကုရယ်လ်သည် အိန္ဒိယပြည် တောင်ပိုင်းသား တမီလ်ဘာသာ စကားကို ပြောဆိုနေကြသူတို့၏ ယဉ်ကျေးမှုပစ္စည်းတရပ် ဖြစ်ပေသည်၊ တမီလ်စာပေကို ခေသစ်တွင် လေ့လာ လိုက်စားသူများ တနေ့တခြား များပြားလာသည်နှင့်အမျှ ကုရယ်လ်ကျမ်းကြီးကို စိတ်ပါဝင်စားသည့် ဦးရေမှာများပြား တိုးတက်လာခဲ့လေသည်၊

ကုရယ်လ်နှင့် အကျွမ်းဝင်ပြီး သူများတွင် ကမ္ဘာကျော် ပုဂ္ဂိုလ်ကြီးပေါင်း အတော်များများ ပါဝင်သည်၊ ထိုပုဂ္ဂိုလ်ကြီးများသည် အိန္ဒိယ တိုင်းရင်းသားများ သော်၎င်း၊ နိုင်ငံခြားသားများ သော်၎င်း ဖြစ်ကြ၏။

ကုရယ်လ်ကို လေ့လာလိုက်စားခဲ့သူများတွင် အထက်၌ ဖေါ်ပြခဲ့သော ကမ္ဘာကျော် ခရစ်ယာန် ဘုန်းတော်ကြီး ဒေါက်တာပုပ် အပြင် အမေရိက တောတွင်းပျော် ဂျာမန် ပြည်သား ကမ္ဘာ့ငြိမ်းချမ်းရေး သမားကြီး ဒေါက်တာ အယ်လဗတ်ရှ်ိုက်ဇာ **Dr. Albert Schweitzer** နှင့် မဟတ္တမဂန္ဒီ ***Mahatma Gandhi*** တို့လည်း ပါဝင်ပေသည်၊ ဒေါက်တာပုပ်သည် ကုရယ်လ်ကို ဘာသာပြန်ဆိုခဲ့ယုံမက အဖွင့်ကျမ်း တစောင်ပင် ရေးသားပြုစုခဲ့လေသည်၊

တောပျော် ဂျာမန်ဆရာဝန်ကြီး ဒေါက်တာရှ်ိုက်ဇာကမူ ကမ္ဘာ့ ဂန္ထဝင်တွင် ကုရယ်လ် ကျမ်းကဲ့သို့ မြောက်များစွာသော ဆောင်ပုဒ်များကို တလုံး တစည်းထည်း စုပေါင်း၍ ပညာပဒေသာဟင်းလေးအိုးကြီး ပြုစုထားခြင်းမှာ ရှိခဲလှသည် ဟူ၍ ထုတ်ဖေါ်ရေးသား ဘူးလေသည်၊

## ကုရယ်လ်ကို ထင်မြင်ချက်ပေးကြသူတို့၏ ကောက်နုတ်ချက်များမှာ အောက်ပါ

အတိုင်း ဖြစ်လေသည်၊

တမီလ်စာပေတွင် ကုရယ်ကျမ်းကြီးသည် လက်ရာ အမြောက်ဆုံးဖြစ်၍ လူတို့၏ စိတ်ကူး စိတ်သန်းများကို အမြင့်ဆုံးနှင့် အစင်ကြယ်ဆုံး ဖေါ်ပြထားချက်များ ဖြစ်ပေသည်၊

မစ္စတာအေရီရယ်လ် *Mr. Ariel*

(အေရှတစ်ဂျာနယ်၊ (၁၈၄၈-ခုနှစ်)



မည်သည့် ဘာသာပြန်ကမှ ကုရယ်လ်ကျမ်းကြီး၏ လှပညက်ညောမှု သဘောကိုဆောင်နိုင်လိမ့်မည် မဟုတ်။ ဤကျမ်းသည် ငွေဆိုင် ငွေပန်းတို့တွင် တင်ထားသော ရွှေအတိဖြီးသည့် ပန်းသီးနှင့် တူပေ၏။

ဒေါက်တာဂရောလ် *Dr. Grau l*(၁၈၅၆)

ကုရယ်လ်ကျမ်းကြီး၏ ပေါ်လွင် ထင်ရှားမှုမှာယင်း၏ လှပသော ကဗျာအဖွဲ့အနွဲ့ကို အဓိကအားဖြင့် အကြောင်းပြုပေသည်။ ဖွဲ့နွဲ့ရာတွင် တိုတောင်း ပြတ်သားမှုကြောင့် ဝါကျအရာတွင် ဘုရင်တဆူဖြစ်သော ပုဂ္ဂိုလ်ကြီး၏ ရေးသား ချက်များသည် စကားသြဇာနှင့် ပြည့်စုံလှပေသည်၊ ကိုယ်ကျင့်တရားနှင့် စပ်ဆိုင်သော အဆုံး အမ ပုလဲလုံး ရွှဲလုံးကလေးများလည်း ဖြစ်သည်။ ဖွဲ့နွဲ့ပုံမှာခေါမခေတ်ကဗျာများနှင့်တူသည်။ ထိုခေတ်က အကြောင်းကိစ္စများ၊ စိတ်နေများ၊ လူ့ဘောင်၏ အခြေအနေများကိုလည်း ဖေါ်ပြပေသည်၊ တမီလ်စာပေတခေတ်၏ ဖွဲ့နွဲ့ပုံလှပမှုကိုလည်း များရာစုဖြစ်သောအပိုဒ်တို့တွင် တွေ့နိုင်ပေသည်။

ဘုန်းတော်ကြီးပုဒ် (၁၈၈၆)

ကုရယ်လ်ကျမ်းကြီးသည် စာပေအရေးအသားအရ ဖြစ်ငြင်း၊ နှုတ်ငုံကဗျာအဖြစ်ငြင်း ရွတ်ဆိုရာ ကျင့်ကြံရာတို့တွင် တမိလ်အမျိုးသားပုံပြဖို့ ခေါ်မခေတ် ကဗျာဆရာကြီး ဟုမွား Homer အား ဂရိတို့အလေးအမြတ် ပြုသကဲ့သို့ပင် ဖြစ်ပါတော့သည်။

ကျမ်းထဲတွင် ပါသောစာကြောင်းတို့၏ ဩဇာလွှမ်း မိုးမှုမှာ ရဟူဒီတို့အတွက် ပညတ်တော် ဆယ်ပါး Ten Commandments သည် ဦးထိပ်ပန်ဆင်အပ်သကဲ့သို့ဖြစ်ပေ၏။ အသုံးပြုသော စာသားမှာ စာကောင်း ပေမွန်တို့၏ နမူနာ အရာ၌လည်း တည်သည်၊ ဒန်တေ Dante ၏ ကဗျာ စာပေ များသည် အီတလီပြည် သူတို့၏ စိတ်ကူးမှုနှင့် စာပေတွင် လွှမ်းမိုးသကဲ့သို့၊ ကုရယ်လ်ကျမ်းကြီးသည် တမိလ်အမျိုးသားတို့၏စာပေတွင်ငြင်း၊ အတွေးအခေါ်တွင်ငြင်း လွှမ်းမိုးပေသည်။

ချားလ် အီ၊ ဂိုးဗား။

စိတ်ကူး စိတ်သန်း အရာ၌ဖြစ်စေ၊ စာပေအရာ၌ ဖြစ်စေ ပထမတန်း ကျမ်းကြီး ဖြစ်သည်။ ကုရယ်လ်သည် (အိန္ဒိယ)နိုင်ငံ၏ တစိတ်တဒေသ ဖြစ်သော စာပေတွင် လူတိုင်း အားသိသာ ထင်ရှားစေသော ကျမ်းဖြစ်လျက် တန်ဘိုးအရာတွင် သူမတူ လွန်ကဲပေသည်။

ဘုန်းတော်ကြီးဒဗလျူ၊အိပ်ချ်၊ဒရူး( ၁၇၄၀ )

## ၁၄ သိရုကုရယ်လ်

စာဆိုကြီးဗာလုဗာအား တမိလ်အမျိုးသားတို့၏ ဆော်လမွန် Solomons များ အိဇရာ Ezras များ တူပါ Tupas များဟု ခေါ်ဆိုရမည်။ အဘယ့်ကြောင့်ဟူမူ ရှေးခေတ်က ဆိုထုံးနှင့် နာနာနယ အတွေးအခေါ်များကို စီစဉ်စုဆောင်းခဲ့သောကြောင့်

ဖြစ်ပေသည်။

ဘုန်းတော်ကြီး အီး၊ ဇျေ၊ ရို ဘင်ဆင် E. J. Robinson။

ကုရယ်လ်၏ အမျိုးအဆို အမိန့်များတွင် သမ္မာ ကျမ်းစာဟောင်းတွင် ပါသော အရေးအသားများထဲမှကဲ့သို့ ရှေးဟောင်းကျဘွယ်ရှိသည်။

ဘုန်းတော်ကြီး အီလိုက်ဇာဟူးလ် Eliza Hull။

ကုရယ်လ် ကျမ်းကြီးသည် တမီလ်ဘာသာတွင် ချီးမွမ်းဖွယ်ကောင်းသော ကဗျာများကို စုဆောင်းထားခြင်း ဖြစ်သည်။ ယင်းတို့မှာ ဘာသာရေး အတွေးအခေါ်တွင် အစင်ကြယ်ဆုံးဖြစ်၍ အမြင့်မားဆုံးလည်းဖြစ်၏။ ပါဝင်သော အတွေးအခေါ်တို့မှာ လည်း ဘဂဝတ်ဂီတာ Bhagavad Gita ကျမ်းကြီးကဲ့သို့ တမျိုးတစ အကြောင်း မဟုတ်ဘဲ ကျမ်းပေါင်းများစွာတို့မှ ကောင်းနိုးရာရာတို့နှင့် ခြုံမိပေသည်။

ဒေါက်တာဘတ်။

(အိန္ဒိယပြည်၏ ဘာသာအယူများ စာအုပ်တွင်)

ထေရုဗာလုဗာ၏ ကုရယ်လ် ကျမ်းကြီးသည် အိန္ဒိယပြည် တောင်ပိုင်း ကျွန်းဆွယ် တပိုင်းလုံးတွင် လူသိများလှ၏။ အကြင်သူသည် တမီလ်ဘာသာကို လေ့လာကျွမ်းကျင်ပြီးသည်ဆိုအံ့။ တမီလ်စာပေ၏ လက်ရာမွန်ဖြစ်သော ဤကျမ်းကို ဖတ်ရှုနားလည်ပြီး မဟုတ်ပါသေးလျှင် တမီလ်စာပေကို ကျွမ်းကျင်ပြီဟု မဆိုနိုင်ပေ။

ဖရက်ဒရစ်ပင်းကော့။

ကုရယ်လ်ကျမ်းသည် တမီလ်ဘာသာ စာပေတွင် အသန့်စင်ဆုံးဖြစ်၏၊ အင်္ဂလိပ် စာပေတွင် ဘန်ယန်၏ ရှင်းလင်း သန့်စင်ခြင်း၊ ယင်းသည်ပင် ကုရယ်လ် ကျမ်းကြီးနှင့် သဘာဝချင်း မယှဉ်နိုင်ပေ၊ တမီလ်စာပေတွင် ထွက်ပေါ်ပြီးသမျှ လက်ရာတို့တွင်လည်း ကုရယ်လ်နှင့် ယှဉ်နိုင် တုနိုင်သော လက်ရာမရှိပေ၊ ကုရယ်လ်သည် ခေတ်သစ်တမီလ် စာပေအား ဝင့်ကြွားပြောင်လှောင်နေသလို ရှိ၏၊ ထေရုဗာလုဗာသည် မိမိ၏ တိုင်းရင်း ဘာသာစကား၏ ကြွယ်ဝပုံ၊ သုတိသာယာရှိပုံ၊ အားပြည့်ပုံတို့ကို ထင်ရှားစွာ သက်သေ ပြခဲ့ပေသည်၊

ဒေါက်တာဂလာ့ဇာ့ရပ်စ်။

ထေရုဗာလုဗာသည် တမီလ်ကျမ်းပြု စာရေးဆရာတို့၏ ဘုရင်တဆူဖြစ်၊ ဘုရား တဆူတမျှ ဖြစ်ခဲ့သည်၊ သူ၏ရေးသားဖွဲ့နွဲ့ထားပုံမှာ အများသဘော တူညီချက်အရ



တမီလ်စာပေတွင် လှပညက်ညောမှု အရှိဆုံးဖြစ်၏။ ကုရယ်လ်နှင့် စိန္တာမဏိ **Chintamani** တို့သည် မှုလဖန်တီးချက်များဖြစ်၍ သက္ကတဋကို အမှီသဟဲ ပြုရခြင်းမှ ကင်းလွတ်ခဲ့၏။

ဘုန်းတော်ကြီး ရောဗတ်ကော်ဒွယ် *Robert Coldwell*။

ကုရယ်လ် ကျမ်းပြုသူ ထေရုဗာလုဗာသည် တမိလ်အမျိုးသား နီတိဆရာတို့တွင် ပထမ အဆင့်တွင်ရှိ၍နေသည်၊ ယေဘုယျအားဖြင့် သဘောတူ လက်ခံကြသည်မှာ အိန္ဒိယစာပေတွင် ကုရယ်လ်ကျမ်းနှင့် တူနိုင်သော ကျမ်းများ မရှိဟူ၍ ဖြစ်ပေသည်၊

ဂျွန်၊ မား ဒေါ့ *John Murdock*။

ကုရယ်လ် ကျမ်းကြီးတွင် ထေရုဗာလုဗာ ဖေါ်ပြဟောကြားသော တရားတို့သည် လောက တခုလုံးအတွက် စာသဝဏ်ဖြစ်၍ ထိုမှာကြားချက်မျိုးကို ယခုအခါထက်ပို၍ လိုအပ်သော အခါသည် ရှိမည်မဟုတ်ပေ။

ဒေါက်တာ၊ ဆာ၊ လက်ရှမာ နာဆွာမိ မုဒါလိယာ
Dr. Sir Lakshmanaswami Mudaliar

ကုရယ်လ် ကျမ်းသည် အိန္ဒိယယဉ်ကျေးမှုအတွက် ပေါ်လာသော အကောင်းဆုံး လက်ရာတခု ဖြစ်သည်။ ကျမ်းပြုသူ ထေရုဗာလုဗာသည် နိုင်ငံပြု သုခမိန်နှင့် ဥပဒေပြု ပုဂ္ဂိုလ်မျိုး၏ ဉာဏ်ရည်ဖြင့်၎င်း၊ သူတော်သူမြတ် တဦး၏ ကြိုတင်သိမြင်နိုင်သော တန်ခိုးမျိုးနှင့်၎င်း ပြည့်စုံသူဖြစ်သည်။ သူ၏ ကုရယ်လ် ကျမ်းကြီးသည် အိမ်ထောင်ရှင်များအတွက် အဖိုးတန် အကြံဉာဏ်ပေး အဖြစ်နှင့်၎င်း၊ ထိုသို့မျှသာ မဟုတ် မင်းလုပ် အုပ်ချုပ်သူတို့ အတွက်၎င်း၊ လောကီမှ လွတ်မြောက်ရာ လွတ်မြောက်ကြောင်း ရှာသူတို့အတွက်၎င်း စစ်မှန်သော ဘဏ္ဍာတိုက်ကြီး ဖြစ်ပေသည်။ သို့ဖြစ်ခြင်းကြောင့် အိန္ဒိယ စာတွင် အရေးပါသော ကျမ်းသာ မဟုတ်၊ ကမ္ဘာ့စာပေတွင်လည်း အရေးပါသော ကျမ်းဖြစ်လေသည်။

မနိမိုဟန်ဂို့ရှ် Manomohan Ghosh။

ကုရယ်လ်သည် လူမျိုးမရွေး၊ အသက်အရွယ်မရွေး၊ အသုံးဝင်သော ကျမ်းဖြစ်၏။
အခါရာသီမရွေး အမျိုးမျိုး

ကေ၊ အင်၊ ဗလဆူဗရ မာနီယင် K. N. Balasubramanian။

ထေရုဗာလုဗာသည် တမီလ်သူတော်စင် တဦးဖြစ်၏၊ ဆိုရိုးဆိုစဉ်ဖြင့် သိရသည်မှာ သူသည် ယက္ကန်းသည် တဦးဖြစ်၏။ သူသည် ခရစ်နှစ် ပထမ ရာစုအတွင်း သက်ရှိ ထင်ရှားခဲ့၏။ တမီလ် အမျိုးသားတို့အတွက် တမီလ်ဗေဒကျမ်းဟု ခေါ်ဆို အပ်သော

## ၁၆ သိရုကုရယ်လ်

အမည် ထင်ရှားသည့် သိရုကုရယ်လ် နီတိကျမ်းကြီးကို သူသည် ကျွန်ုပ်တို့ အား ပေးခဲ့၏။ နီတိ အပိုဒ်ပေါင်းမှာ ၁၃၃ဝ-ရှိသည်၊ ထိုနီတိများကို ဘာသာ အမျိုးမျိုးသို့ ပြန်ဆို ပြီးလေပြီ။

မဟတ္တမဂန္ဒီ။

ဤသို့လျှင် ကုရယ်လ်ကျမ်းကြီးသည် သူ့ ခေတ်တွင်သာ ထင်ရှားခဲ့သည်မဟုတ်၊ နှောင်းလူတို့ခေတ်၌ ပေါ်ပေါက်သော စာပေကျမ်းတို့တွင် တနည်း မဟုတ် တနည်း အားဖြင့် များစွာ ဩဇာလွှမ်းမိုး နိုင်ခဲ့လေသည်။

နိဂုံးချုပ်အားဖြင့်ဆိုရလျှင် ကုရယ်လ်နှင့်ပတ်သက်၍ဂန္ထဗေဒ **Bibliography** ကျမ်းငယ်တခု ပြုခဲ့သော သီရိမာလေ မူတူးဆွာမိ *Thirimalai Muthuswami* ဆိုသူ၏ စကားနှင့် ပြောရလျှင် ကုရယ်လ်သည် စာရေးဆရာကြီး မေလတန်၏ ခမ်းနားမှုမျိုးကို၎င်း၊ ဒန်တေ၏ ညက်ညောမှုမျိုးကို၎င်း၊ ရှိတ်စပီးယား၏ လူတိုင်း လက်ခံနိုင်သော အရည်အသွေး မျိုးကို၎င်း၊ အရစ္စတော်တယ်လ်၏ တည်ကြည် ငြိမ်သက်ခြင်းမျိုးကို၎င်း၊ ပလေတို၏ စိတ်ကူး ဆန်းကျယ်မှုမျိုးကို၎င်း၊ မားကပ် ဩရေလီယပ်စ် *Marcus Aurelius*၏စာရိတ္တ အရာတွင် ထင်ရှားပေါ်ပြမှုမျိုးကို၎င်း၊ ဥဿုံစုပေါင်း၍ ဤလောကသားတို့ သမာကျမ်းတွင် ဖတ်ရှုနိုင်လေသည်ဟု ဆိုထားပေသည်။

---

# ကဏ္ဍကြီးသုံးရပ်

ကုရယ်လ်ကျမ်းကို နှောင်းလူတို့က လေ့လာသောအခါတွင် တွေ့ရှိရသည်မှာ ထေရုဗာလုဗာသည် ဤကျမ်းကို ပြုစုနိုင်ရေးတွင် အိန္ဒိယနိုင်ငံ၌ လူသိများသော အခြားကျမ်းကြီးများနှင့် ရင်းနှီးခဲ့ကြောင်းပင် ဖြစ်လေသည်၊ ထိုကျမ်းများမှာ သက္ကတဘာသာဖြင့် ရေးသား ပြုစုထားသော မနု *Manu* ကောတိလျ *Kautilya* ( စာဏကျ )၊ ခါမန္တက၊ *Kamantaka* စသည်များဖြစ်၏၊ ထို့ပြင် အာယုဗေဒ *Ayuveda* ကျမ်းများနှင့် ကာမသုတ္တရတို့လည်း ပါဝင်၏၊

ထင်းကျမ်းကြီးများ၏ အဆိုအမိန့်များနှင့် ထပ်တူဖြစ်သော ကုရယ်လ် ကျမ်းပါ အခန်းများကို ပြရပါလျှင် အခန်း၅၊ အပိုဒ်၁–နှင့် ၇–ပါ၊ အိမ်ထောင်ရှင်တို့၏ အရေးကြီးပုံတွင်ရင်း၊ အခန်း၆–အပိုဒ် ၈–တွင် ဖေါ်ပြထားသည့် အိမ်ရှင်မ အကြောင်း ဖေါ်ပြချက်များသည်ရင်း၊ မနုကျမ်းကြီးပါ အတွဲ၃၊ အပိုဒ် ၇၈–နှင့်ရင်း၊ အတွဲ ၅၊ အပိုဒ် ၁၅၅–နှင့်ရင်း၊ အသီးသီး တူပေသည်၊

အခန်း ၄၀၊ အပိုဒ်၆–တွင်၊ "ပညာကို လေ့လိုက်စားသည်နှင့်အမျှ ပညာရောင်ထွန်းလင်းပေမည်၊ ရေတွင်းကို နက်စွာတူးသည်နှင့်အမျှ သဲမှရေထွက်ပေမည်" ဟူသော

အဆိုအမိန့်မှာ မနုကျမ်းကြီး၏ အတွဲ ၂၊ အပိုဒ် ၂၁၇ တူပေသည်။ ထိုပြင် အခန်း ၅၁၊ အပိုဒ် ၁၊ တွင် ပါဝင်သော မှူးမတ်တို့၏သစ္စာရှိမှုကို စမ်းသပ်ခြင်းသဘောသည် ကောတိလျ၏အဓိကာရဏာ *Adhikarana* အဒ်ဃာယ *Adhiyarya* ၁၀-တို့ပါ အရည်အချင်း သေးမျိုးတို့နှင့် တူပေသည်။ ထိုမှတပါး အခန်း ၄၄၊ အပိုဒ် ၁-နှင့် ၂-တို့တွင် ဘုရင်၏ ချွတ်ယွင်းချက် ၆-ပါးမှာ ကောတိလျ၏ အဓိကာရဏာ၁၊ အဒ်ဃာယ ၆-တို့မှ အဆိုအမိန့်နှင့် တူပေသည်။

ထေရဂါထာလာ ဖော်ပြထားသော နိုင်ငံတခု၏ ခုနစ်ပါးသော မဏ္ဍိုင်တို့မှာ ခါမန္ဒက ကျမ်းအတွဲ ၄၊ အပိုဒ်တို့နှင့် တူညီသည်။ ထိုပြင် အခန်း ၃၉၊ အပိုဒ် ၅-ရှိ ဥစ္စာဘဏ္ဍာရကြောင်း အကြောင်း လေးပါးတို့သည်။ ခါမန္ဒကကျမ်း အတွဲ၁၊ အပိုဒ် ၂၀-နှင့် တူလေသည်။

ကုရယ်လ်၏ အခန်း ၅၉၊ အပိုဒ်၁-တွင် သူလျှိုတို့သည် မင်း၏ မျက်လုံး ဖြစ်သည်ဟူသော အဆိုမှာ ခါမန္ဒမကျမ်း အတွဲ ၁၃၊ အပိုဒ် ၂၇၊ ၂၉၊ ၃၁၊ တို့ကို အမှီသဟဲပြုပေသည်။ အကြမ်းအားဖြင့် ဤသဘောပါသောအဆိုအမိန့်တို့သည် ကာမန္ဒက၏ နီတိသာရ *Nitisara* ကို အမှီပြုပေသည်။

ကုရယ်လ်၏ အခန်း ၉၅၊ အပိုဒ်၇၊ ၉၊ ၁၀၊ တို့တွင် သူနာတို့အား ပြုစုစောင့်ရှောက်ပုံ သဘောများမှာ အာယုဗေဒများနှင့် ညီတူသည်ကို တွေ့ရပြန်သည်

အခန်း ၁၁၁၊ အပိုဒ်၁-တွင် ဖော်ပြထားသော အာရုံငါးပါး၏ ခံစားချက်တို့သည် မိမိချစ်နှစ်သက်သော တဦးထည်းထံတွင် ရရှိနိုင်သည် ဟူသော အချက်တို့မှာ ကာမသုတ္တရကျမ်း ၁-၂၊ နှင့် ၁၁တို့ကို သိမ်မွေ့စွာ ဖော်ပြထားခြင်း ဖြစ်ပေသည်။

ယခုဖေါ်ပြသော ကာမန္တက၏ နီတိသာရ၊ ကောတိလျ၊ (စ၁ ဏာကျ)၏ အတ္ထသျှတ္တရ *Arthashatra* စသည်တို့နှင့် ကာမသျှတ္တရ တို့မှာ ထေရုဗာလုဗာ သူမြတ် ကုရယ်လ်ကျမ်းကို မရေးသားမီက ပေါ်ပေါက်ခဲ့ကြောင်း ထင်ရှား၏။ ထို့ပြင် တမီလ် စာပေ၌ ထင်ရှားသော တော်လကပ္ပိယံ *Tolkappiyam* ကျမ်းမှာ ကုရယ်လ် ထက် စောသည် ဖြစ်ရာ ကုရယ်လ် ပေါ်ထွက်သော အချိန်ကို ခရစ်နှစ် ၆၀၀ခန့်ဟု သတ်မှတ် သင့်ကြောင်းဖြင့် မဒရပ် တက္ကသိုလ်နှင့် ထရဝမ်ကိုတက္ကသိုလ်တို့တွင် ပါမောက္ခ အဖြစ် ဆောင်ရွက်ခဲ့ဘူးသောဗေရာပူရိ ပီလေး *Verapuli Pillai* ဆိုသူက ''တမီလ်ဘာသာ နှင့် စာပေ သမိုင်း'' တွင် ရေးသားဖေါ်ပြ ထားလေသည်။

ကျမ်းပြုသူ ထေရုဗာလုဗာသည် ကုရယ်လ်ကျမ်းကြီးကို မူလက ကုရယ်လ် ဟူ၍ အမည်မပေးခဲ့ဘဲ မူပယ်လ် *Muppal* ဟူ၍ အမည်ပေးခဲ့ဟန် ရှိကြောင်းလည်း သိရ သည်။ အဓိပ္ပါယ်မှာ သုံးစောင်တွဲဟူ၍ ဖြစ်သည်။ ကုရယ်လ် *Kural* မှာမူ လက်ာတိုများ ဟု အဓိပ္ပါယ် ရလေသည်။

လ

ကုရယ်လ်တွင် အပိုင်းကြီးသုံးပိုင်းရှိသည်။ ပထမပိုင်းသည် အိမ်ထောင်ရှင်များ၏ ကျင့်ဝတ်နှင့် ပတ်သက်၏။ ဒုတိယပိုင်းသည် မင်းစသော အုပ်စိုးသူတို့နှင့် အခြေအရံများနှင့် ပတ်သက်၏။ တတိယပိုင်းသည် ယောက်ျားနှင့် မိန်းမ ဆက်ဆံရေးဖြစ်သော အိမ်ထောင်မှု (ဃရာဝါသ)နှင့် ပတ်သက်သည်။

အထက်ပါ သုံးပိုင်း၊ သို့မဟုတ် သုံးစောင်တွဲကို ဤစာအုပ်တွင် အခန်းကဏ္ဍ ခွဲ၍ ပြထားပါသည်။

ပထမ ကဏ္ဍကို ဂုဏ်အချင်းအရာများ *Virtues* ဆိုင်ရာကဏ္ဍဟု အမည်ပေးထားသည်၊ လောကလူသားတို့၏ ကျင့်ဝတ်နှင့် အညီ ဆောင်ရွက်အပ်ကြောင်း ဂုဏ်အချင်းအရာများကို ရည်ညွှန်းထားခြင်းဖြစ်သည်။

ဒုတိယပိုင်းမှာ ပြည့်စုံကုံလုံမှု *Wealth* ကဏ္ဍဟူ၍ အမည် ပေးထားသည်။ မင်း၊ မှူးမတ်တို့ ပြုအပ်သော ဝတ်နှင့် နိုင်ငံရေးဆောင်ရွက်မှု (ဝါ) ပြည်ရေး ရွာမှုများ ဖြစ်သည်။ ပြည်ရေး ရွာမှုတို့ပြည့်စုံကုံလုံခြင်းသည် အကျိုးအစီးပွား တိုးတက်ရာ ဖြစ်ကြောင်း ရည်ညွှန်းပေသည်။

တတိယပိုင်းမှာ ချစ်ခြင်း မေတ္တာ *Love* ဆိုင်ရာ ကဏ္ဍဟူ၍ အမည်ပေးထားသည်။ ဤကဏ္ဍတွင် လောကီလူသားတို့ မလွဲမရှောင်သာသော ဖို့မ ဆက်ဆံရေးကိစ္စ ဖြစ်သည်။ မှန်မြတ်သော အိမ်ထောင်နှင့် ဆက်ဆံရေးမျိုးကို တည်ဆောက်ကြရန် ရည်ညွှန်းသည်။ ဤကဏ္ဍမှာ ကုရယ်လ် ဘာသာပြန် ဆရာအချို့က မလိုလားအပ်ဟု ချွင်းချန်ထားသော ကဏ္ဍဖြစ်သည်။ သို့သော် များရာစုဖြစ်သော ဘာသာပြန် ဆရာတို့က မှုကား လောကီလူ့ကိစ္စတို့ကို သိမ်မွေ့စွာ ပြဆိုထားခြင်းဖြစ်၍ မပယ်ချန်အပ်ဟု ဆိုကာ အပြည့်အစုံ ဖော်ပြခဲ့ကြလေသည်။

အထက်ပါ အပိုင်းသုံးပိုင်းတွင် ပထမကဏ္ဍ၌ အခန်းပေါင်း (၃၇) ခန်းပါရှိသည်။ ယင်း (၃၇) ခန်းတွင် ပထမ (၄) ခန်းမှာ ပဏာမ ဖြစ်သည်။ ကျန်အခန်း (၂၀) မှာ အိမ်ထောင်ရှင်များ၏ကိစ္စဖြစ်သည်။ ကျန် (၁၃) ခန်းမှာ သူတော်စဉ်တို့၏ ကိစ္စဖြစ်သည်။

ပထမနှင့် ဒုတိယ အခန်းကြား၌ ကံကြမ္မာဟူသော အခန်း တခန်း ရှိသည်။

ဒုတိယပိုင်းတွင် အခန်းပေါင်း (၇၀) ပါဝင်သည်။ ပထမ (၂၅) ခန်းသည် မင်းနှင့် မင်းတို့၏ ကျင့်ဝတ်ကို ဖော်ပြသည်။ ကျန် (၃၂) ခန်းမှာ နိုင်ငံတွင် ပါဝင်သော အခြားအဓိက အချက်များကို ဖော်ပြသည်။ နောက်ဆုံး (၁၃) ခန်းမှာ အထွေထွေ ကိစ္စများကို ဖော်ပြလေသည်။

တတိယပိုင်းတွင် (၂၅)ခန်း ပါဝင်သည်။ ပထမ (၇)ခန်းတွင် ယောကျ်ားနှင့် မိန်းမတို့ မပေါင်းဖက်ကြမီ ဖြစ်တတ်သော အကြောင်းကိစ္စများကို အခြေထားသည်။ ကျန်(၁၈)ခန်းမှာ အိမ်ရာထောင်ပြီးနောက် ဖြစ်တတ်သော အကြောင်းတို့ကို ဖေါ်ပြလေသည်။

ဤသို့ဖြင့် စုစုပေါင်း အခန်း(၁၃၃)ခန်း ရှိလေသည်။

## ယရှုကုရယလ

၂၉

ထေရဗာလုဗာသည် မိမိ၏လက်ာကျမ်းကြီးအတွက် မိမိထက် ရှေးကျသော သက္ကဋ္ဌပညာရှိကဝိတို့၏ အယူအဆကိုမှီးသည်ဟု ဆိုရပြားသော်လည်း ဤသို့ စုံစုံလင်လင် ကျေကျေညက်ညက်ဖြင့် ပေါင်းစည်းတင့်တယ်စွာ ဖွဲ့နွဲ့ ဖေါ်ပြနိုင်ခြင်းမှာ စာဆိုသူမြတ်၏ ပညာပါရမီခ် ကောင်းမှုဖြစ်ကြောင်း ထင်ရှားလေသည်။

မနုဓမ္မသတ်ဆိုလျှင် သူ့ချည့်တကျမ်းတစောင်တည်းတွင်ကား သူ့ခေတ်အခြေအနေကိုသာ ဖေါ်ပြပေသည်။ သို့တည်းမဟုတ် သူ့ခေတ်ကို ဆက်ခံသော ခေတ်အဆက်ဆက်၏ အခြေအနေကိုသာ ဖေါ်ပြပေသည်။ မနုခေတ် လူ့အဖွဲ့အစည်းမှာ ဘုရားသခင် ဖန်ဆင်းပေးသည်ဟူသော အဖွဲ့အစည်းမျိုးဖြစ်သည်။ မင်း, မှူး, မတ်, မင်းစိုး ရာဇာများ၏ခေတ်ဖြစ်သည်။ ယင်းဓမ္မသတ်၏သဘောမှာပင်လျှင် တရားဥပဒေသဘော၌ လူလူချင်း ခွင့်တူညီမျှမှုကိုပေးထားခြင်း မရှိပေ။

ကောတိလျ သို့မဟုတ် စာဏကျနီတိတွင်လည်း အလားတူပင်၊ စာဏကျ သက်သက်၌ နိုင်ငံရေး လုပ်ဖွယ်လုပ်ရပ်တို့ကိုသာလျှင် ဖေါ်ပြ၏။ ထို့ကြောင့် ကောတိလျကို နိုင်ငံပြုသုခမိန်ဟု ဆိုရမည်ထက် နိုင်ငံရေးသမားဟု ဆိုရမည်ဖြစ်သည်။ ဤကျမ်းတွင် ဖေါ်ပြထားသည်တို့မှာ ဟိုင်းတပါးကို အောင်နိုင်ရေးအတွက် အတောမသတ် စိတ်ဆန္ဒဖြင့်စက်ယန္တရားများသဖွယ် ကျွမ်းကျွမ်းကျင်ကျင် နိုင်နင်းစွာဖြင့် အလုပ်လုပ်သွားရန်သဘောဖြစ်၏။လူတို့၏ပင်ကိုယ်ဘာသာဝမှာ အားနည်း ပျော့ညံ့ခြင်းဟု တွက်ချက်၍ လူအများကို စက်သဘောဖြင့် တိတိကျကျ လှုပ်ရှားနိုင်ရေးကိစ္စတွင်သာ အာရုံကြီးမား၏။ဤအမြင်မှာ နိုင်ငံရေး သုခမိန် မက်ကီယာဗယ်လီ *Machiavelli*၏ အမြင်ဖြစ်သည်။ ဥရောပတိုက်သား ဂျာမနီတို့၏ ဟစ်တလာမေတ် သဘောမျိုး ဖြစ်သည်။

ဝါစာယန၏ကာမသုတ္တရမှာလည်း ကိုယ်ခန္ဓာအာရုံခံစားမှု၌သာ အဓိကထားသည်ဖြစ်၍ ချစ်ခြင်းမေတ္တာ၏ မှန်မြတ်သော အဓိကစေ့ဆော်မှုသဘောကို မရှုမမြင်ဘဲ လှစ်လျူပြုခဲ့လေသည်။

သူမြတ် ဗာလုဗာကား အထက်ပါ ကျမ်းပြုဆရာများကဲ့သို့မဟုတ် အထက်ပါ ပုဂ္ဂိုလ်များ၏ ကျမ်းတို့ကို ပေါင်းစည်းသော အမြင်ဖြင့် ရှုမြင်လက်ခံတတ်သူဖြစ်သည်။ လူနှင့် ချစ်ခြင်းမေတ္တာကို လူ့ဘောင် ဖွဲ့နှောင်ရေးတွင် ဆက်စပ်နိုင်သော စွမ်းအားအဖြစ် လက်ခံသည်။ မည်သည့်ဇာတ် မည်သည့်ဘဝတွင် မွေးဖွားလာခြင်းဟူသော အချက်ကလူ၏ တန်ဘိုးကို အကဲဖြတ်ရန် မဟုတ်ပေ။ နိုင်ငံရေးရာတွင် မြင့်မားသော အမြော်အမြင်တို့ကိုသာဦးတည်သည်။ တဏှာပေမရောယှက်သော ချစ်ချင်းမေတ္တာတွင် လျှို့ဝှက်ခြင်း၊ လှုပ်ရှားခြင်းသဘောတို့ ပါစေသော်လည်း စိတ်၏ စင်ကြယ်ခြင်း၊ ကြည်ရွှင်ခြင်း၊ အလှအပ သဘောစသည်တို့ကိုသာ အဦးအမြွတ်ပေး၍ ယဉ်ကျေးဖွယ်ရာမှု အမြင်ဖြင့် မေတ္တာ၏ စံပြသဘောများကို ဖေါ်ထုတ်ခဲ့သည်။

## ၂၀ သီရူကုရယ်လ်

ဤသို့လျှင် ကုရယ်လ်ကို ပြုစုရာ၌ လောကီအရေးအားလုံးကိုပါ ငုံမိသည့်ပြင် ထင်ရှားကျယ်ပြန့်သော မိမိ၏ဉာဏ်အမြင်ကိုပါ ပေါင်းစပ်၍ ရေးသားနိုင်ခဲ့ခြင်းကြောင့်၊ ဤကျမ်းမှာ သူ့ခေတ်တွင်ငှင်း၊ နောင်းလူတို့၏ ခေတ် အဆက်ဆက်တွင်ငှင်း၊ တည်တန့်စေခဲ့ပေသည်၊ ဤသည်ကို အကြောင်းပြု၍ပင် ကုရယ်လ်ကျမ်းကို တမီလ်တို့၏ ဝေဒကျမ်းကြီး ***Veda*** ဟု တင်စားခေါ်ဆိုခဲ့ကြခြင်းဖြစ်လေသည်၊

နှောင်းလူတို့နှင့် တကွ မဓုရအကယ်ဒမီတွင် ပါဝင်ကြသော ပုဂ္ဂိုလ်တို့သည် ဤကျမ်းပြု သုခမိန်ကြီးအား ဂုဏ်ပြု ချီးကျူးသော အားဖြင့် စာအမျိုးမျိုးဖွဲ့ကြပြီး နောက် "ထေရုဗာလုဗာ့မာလာ" ***Tiruvalluva-Mallar*** ဟူသော ကျမ်းတစောင်ကိုပင် ပြုစုခဲ့ကြသေးပေသည်၊

နောင် ပေါ်ပေါက်လာသည့် စာဆိုတို့သည်လည်း ဤကုရယ်လ် ကျမ်းကြီးမှ အဆိုအမိန့် အချို့ကို ငုံ၍ငှင်း၊ အချို့ကို ဇာတ်ဝတ္ထုများဆင်၍ငှင်း၊ နီတိကဗျာများ ဖွဲ့၍ငှင်း၊ အမျိုးမျိုး အကျယ်ဖွင့်၍ ရေးသားကြပြန်သည်၊

ယခု ခေတ်သစ်သို့ မတိုင်မီပင် ကုရယ်လ် ကျမ်းကြီးအား အဖွင့်ကျမ်း ပြုစုခဲ့သူ ပေါင်း အနည်းဆုံး (၁၀)ဦးမျှ ရှိခဲ့သည်ဟု သိရသည်၊ ထိုအထဲတွင် ပါရီမေလလဂ္ဂ ***Pari Melalagga*** ဆိုသူမှာ နာမည်ကြီး၏၊ ထိုပုဂ္ဂိုလ်သည် ဗြာဟ္မဏမျိုးဖြစ်လျက်၊ ခရစ်နှစ် ၁၄–ရာစုအတွင်း ပေါ်ပေါက်ထင်ရှားခဲ့သူ ဖြစ်လေသည်၊

နောင်အခါ အိန္ဒိယပြည်တွင် တရားရုံးများ ပေါ်ပေါက်လာသည့်အခါ ကုရယ်လ်ကို ဓမ္မသတ်ကျမ်းတခု အဖြစ်ပင် ခုံလူကြီးများ၊ ရှေ့နေ ရှေ့ရပ်များသည် ကိုးကားညွှန်း ဆိုခဲ့ကြရဘူးလေသည်၊ သို့သော် ထေရုဗာလုဗာ ခေတ်မှစ၍ ယနေ့တိုင်မျှသော ခေတ် အဆက်ဆက်တွင်ကား များစွာသော လူတို့သည် ဤကျမ်းကို အမျိုး ဘာသာ မရွေး လေးလေး စားစားနှင့် ဖတ်ရှုလိုက်စားခဲ့ကြသည်ချည်း ဖြစ်လေသည်၊

ကုရယ်လ်ကျမ်းတွင်ပါရှိသော အပိုင်းကြီး သုံးပိုင်း၌ လောကီမှ လွတ်မြောက်ရာ လွတ်မြောက်ကြောင်းတရားတို့ မပါရှိပေ။ ဤသို့ မပါရှိသည်မှာ လူတို့၏ အနာဂါတ်ရေးနှင့်ပတ်၍ သူ့စေတ်တွင် ကြားနာသိရှိရသော ယုံကြည်ယူဆချက်များကို ကျမ်းပြုသူသည် မနှစ်သက်သေး၍သော်၎င်း၊ သို့တည်းမဟုတ် မိမိ၏အမျိုးသားတို့သည် လောကီရေးထက် မြင့်မားသော အကြောင်းတို့ကို သိမြင်နှံ့စပ်နိုင်ရန် အခြေခံနုနယ်သေးသည်ဟု ထင်မြင်ယူဆခဲ့သောကြောင့်၎င်း၊ တခုခု ဖြစ်တန်ရာသည်ဟု အဖွင့်ဆရာတို့က ကောက်ယူလိုကြပေသည်။ သို့သော် အခန်း ၂၅၊ ၂၆၊ ၂၇-တို့တွင် မောက္ခတည်းဟူသော လွတ်မြောက်ရေး တရားကို အမြွက်မျှ ထည့်သွင်းခဲ့သည်ကိုကား တွေ့နိုင်လေသည်။

[illegible]

ကုရယ်လ် ကျမ်းကြီးထဲတွင် ပုဂ္ဂိုလ်တစုံတယောက်ကို ရည်မှတ်၍ အမည်တပ်ခါ ဘုရား” ဟူသော သဘောဖြင့် သုံးစွဲထားသည် မရှိပေ။ ကုရယ်လ်တွင်ပါဝင်သော အယူအဆတို့မှာ ဘာသာတိုင်းက လက်ခံထားသော သဘောတရားတို့ကို တွေ့နိုင်လေသည်။

ကုရယ်လ်ကို ဖတ်ရသော ခရစ်ယန်ဘာသာဝင်တို့က ဆိုသည်မှာ ဤကျမ်းထဲတွင် သုံးပါးသော အရှင် (ထာဝရဘုရား၊ယေရှုခရစ်နှင့် မယ်တော်မာရိ)တို့၏ ပေါင်းစည်းမှုကို၎င်း၊ သားတော် ပေါ်ပေါက်လာခြင်းကို၎င်း၊ လူတို့အား ကယ်တင်ခြင်းကို၎င်း၊ လူတို့၏ အမှားများနှင့် ဒုက္ခများမှ ပပျောက်စေခြင်း အကြောင်းကို၎င်း၊ နောက်ဆုံးတွင် လူ့နိုင်ငံအား ထိန်းသိမ်းခြင်း အကြောင်းကို၎င်း တွေ့နိုင်ပေသည်ဟု ဆိုပေသည်။

ကုရယ်လ်တွင် ပါဝင်သော အဆိုအမိန့်များသည် လောကကြီး တခုလုံးနှင့် အကြုံးဝင်လျက်လူတိုင်း နှစ်သက်လက်ခံဘွယ် ဖြစ်လေသည်။

---

## ပထမကဏ္ဍ

ဂုဏ်အချင်းအရာများဆိုင်ရာ ကဏ္ဍတွင်စာဆိုသည်လူတိုင်းအား လင်သားကောင်း တယောက်၊ ဖခင်ကောင်းတဦး၊ အိမ်နီးချင်းကောင်းတဦး၊ အရည်အချင်းပြည့်မီသော လူသားတဦးဖြစ်အောင် သွန်သင်ထား၏။ ထိုအကြောင်းတွင် အခန်းပေါင်း ၁၉-ခန်း ရေးသားပြီးသော် ၁၃-ခန်းကို သုံ့တော်စဉ်တို့ ကျင့်ကြံအပ်သော အမှုတို့ကို ပြဆိုထား ပေသည်။

ဤနေရာတွင် စာဆိုသည် လူသားအားလုံးတို့အား မေတ္တာထားရေးနှင့် ညှော်သည် များအား ဝတ်ပြုရေးကို အဓိက အရည်အချင်းများအဖြစ် ပြဆိုထားပေသည်။ မေတ္တာတရားကင်းသော လူသားသည် တောအုပ်အလယ်၌ ညှိုးခြောက်သော သစ်ပင် သဖွယ် ဖြစ်ကြောင်း ပုံနှိုင်းပြဆို ထားလေသည်။

ကြင်နာစွာ စကားဆိုခြင်းကိုသီးခြားဂုဏ်အင် တရပ်အဖြစ်လည်း ဖေါ်ပြထား ၏။ တပါးသူ၏ အိမ်ရာကိုကျူးလွန်ခြင်း၊ အလိုရမ္မက်ကြီးခြင်း၊ မလိုတမာရှိခြင်း၊ အတင်း အဖျင်းပြောခြင်း၊ တပါးသူအား ထိခိုက်နာကျင်စေခြင်းဟူသော အမှုတို့ကို ရှုတ်ချထား၍ တည်ကြည် ဖြောင့်မတ်ခြင်း၊ ခွင့်လွှတ်ခြင်း၊ စိတ်ကောင်းထားခြင်း၊ အလှူ ပေးခြင်း တို့ကို ချီးကျူးထောက်ခံ ထားလေသည်။

လောကီလူသားတို့နှင့် ပတ်သတ်၍ ဤသို့အဆုံးသတ် ဖေါ်ပြထားရာ၌ ချီးမွမ်း ခြင်းဟူသော အခန်း ၂၄-တွင် "သက်ရှိထင်ရှားနေသူတို့၌ မတင့်တယ်ခြင်း မရှိရာပေ။ တင့်တယ်ခြင်း(ဝါ) ဂုဏ်သတင်းကျော်ဇောခြင်း မရှိသူတို့အား အသက်ရှင် နေသည် မမည်ပေ"ဟူ၍ ဖေါ်ပြထားပေသည်။

# သိရုကုရယ်လ်

ဤသည်တို့ကို ထောက်၍ ထေရဝါဒလုဗ္ဗသည် သူ့ခေတ်လူတို့အား ကြည်ရှင်ခြင်း၊ တက်ကြွခြင်း၊ ဝန်ထမ်းခြင်းအစရှိသော ဂုဏ်ပုဒ်တို့နှင့် ပြည့်စုံသော လောကကြီးအဖြစ် ထူထောင်စေလိုဟန်မှာ ထင်ရှားပေသည်။ သို့သော် လူတယောက်၏ ဘဝ ဆိုသည်မှာ လောကီကိစ္စမျှနှင့် ပြီးဆုံးသည် မဟုတ်ပေ၊ လူတယောက်သည် အိမ်ထောင်ရှင်ကောင်းတယောက် အဖြစ် လူမှု အဆောက်အအုံ အတွင်း၌ ကျင်လည်၍ မိမိ နေရာကို ဆက်ခံမည့်သားသမီးများကို မွေးဖွားပေးရာ၏။ ဤသို့အဆက်မပြတ်သည့် လူ့ဇာတ်ကို ကပြရန် အလုပ်လုပ်ပေးနေစဉ်၌ ပင်လျှင် တမလွန်ဖြစ်သော ဘဝအကြောင်းကိုစဉ်းစားရသည်၊ မိမိသည် ကောင်းစွာကျင့်ကြံဆောင်ရွက်သော ဘဝဖြင့် လောကီတွင် အဆင့်အခြေမြင့်ပေပြီ။ သို့သော် ထို့ထက်မြင့်စွာ အားထုတ်အပ်သော အခြေတို့ ရှိပေသေးသည်။ ထိုအခြေတွင် ပို၍မှန်ကန်တော်တည့်စွာ အားထုတ်အပ်သော လုပ်ငန်းများ ရှိနေသည်ကို တွေ့ရ၏။ ထိုအခြေကား သူတော်စဉ် ဘဝဖြစ်၏။ ထို့ကြောင့် ဘဝတွင် ပို၍စည်းကမ်း တင်းကြပ်သော ဘဝမျိုးကို ကျင်လည်ရန် ရှိသေး၏၊ ထိုအခြေတွင် လူတိုင်းအား ကြင်နာမေတ္တာထားရသည်၊ အသားစားခြင်းကို ရှောင်ရသည်။ ကိုယ်ကို ဒုက္ခခံ၍အားထုတ်လျက် စိတ်ကို တည်ငြိမ်အောင် ဆောက်တည်ရသည်။ ထိုနည်းဖြင့် ဝိညာဉ်ဆိုင်ရာ အမြင်နှင့် တန်ခိုးစွမ်းအား တိုးပွား များလာရသည်။ သစ္စာတရားကို မြဲစွာမှီခိုအားထားခြင်းဖြင့် စိတ်ကို သန့်စင်စေရ၏။ ဒေါသတရားကိုငင်း၊ ပိုးမွှားတိရစ္ဆာန်ရှိသည့်သတ္တဝါအားလုံးအား သတ်ဖြတ် လိုစိတ်ကိုငင်း၊ နိုင်နင်းအောင် နှိမ်နင်းရ၏။ ဤဘဝကား သူတော်စဉ်တဦး၏ဘဝပင်။ သူတော်စင်တို့ကျင့်ထုံးမျိုးကို အိမ်ထောင်ရှင်တို့လည်းအနည်းငယ်ပင် ဖြစ်စေတတ်နိုင်သမျှ ပူကျင့် အပ်ကြသည်၊ ထို့ကြောင့် ဤကဏ္ဍ၏အပိုင်းတွင် သူတော်စဉ်တို့ အတွက်ဟု ဆိုထားသော်လည်း အိမ်ထောင်ရှင် အားလည်းရည်ညွှန်းချက် ရှိလေသည်။

ဤသို့သူတော်စဉ် ဘဝတွင် စည်းကမ်း ကျင့်ဝတ်တို့ တင်းကြပ်စွာ ကျင့်ကြံအားထုတ်သော အကျိုးကြောင့် စိတ်ဝိညာဉ်ကို ဖုံးလွှမ်းလျက်ရှိသော အဝိဇ္ဇာတို့ တလွှာချင်း တလွှာချင်း ပယ်ကွာကျပေလိမ့်မည်။ သို့ဖြစ်သောကြောင့် ဤဘဝဟူသည်ဘာမျှမဟုတ်၊ အိပ်မက်ပမာ၊ အရိပ်ပမာမျှသာ ဖြစ်ပေသည်။ ယနေ့ ဤကိုယ်သည် မနက်ဖန် ဤကိုယ် မဟုတ်တော့ပြီ။ ဤသည်တို့ကို သိမြင်၍ ဘဝတွင် နှောင်ဖွဲ့မိသော် အနှောင်အဖွဲ့တို့ကို တိထိပိုင်း၍ ဖြတ်၏။ ထို့နောက် သစ္စာတရားကို ရှာဖွေ တွေ့ရှိလေတော့သည်။

ဤအခန်းတွင် သူတော်စဉ်အတွက် အရေးကြီးသော အချက် တချက်ကို နောက်ဆုံးမှပင် ဖေါ်ပြသည်။ ထိုအချက်ကား အခြားမဟုတ်၊ တပ်မက်ခြင်း တဏှာ ဖြစ်လေသည်။ တဏှာ မပြတ်သေးသမျှ သာမန် ပုထုဇဉ်သော်၎င်း၊ ရသေ့ သူတော်စဉ်တို့သော်၎င်း၊ မိမိ၏ ငြိမ်းချမ်းခြင်းကို မရနိုင်သေးပေ။ ထို့ကြောင့် တပ်မက်ခြင်း တဏှာ အကြောင်းကို အဆုံးသတ်၍ ဖေါ်ပြထားသည်။

သိရုကုရလယ်

အခန်း (၃၇) ကံကြမ္မာဟူသော အခန်းကား ဗုဒ္ဓဘာသာတို့ ခံယူကြသည့်ကံ၊ ကံ၏ အကျိုးသဘောနှင့် အတူတူပင်၊ ဟိန္ဒူကျမ်းများ အလိုအားဖြင့် ကမ္မဟုလည်း ခေါ်၏ကံ၊ ကံ၏အကျိုးကို ဗုဒ္ဓဘာသာတို့အား ရှင်းလင်းဖွယ် လိုမည်မဟုတ်ပေ။

ကံကြမ္မာဟူသော အခန်းကို ဂုဏ်အချင်းအရာများဆိုင်ရာကဏ္ဍ၏ အဆုံးသတ်မှ ထည့်သွင်းခြင်းမှာ စာဆို ပုဂ္ဂိုလ်တွင် အကြောင်းထူးရှိနိုင်သည်ဟု ယူဆဖွယ် ဖြစ်လေသည်၊ အကြောင်းမှာ ဤအခန်းမတိုင်မီ စာဆိုသည် လူတို့၏ ကျင့်ဝတ် နီတိများကို ဖော်ပြခဲ့၏။ သို့ဖော်ပြရာ၌ သော်လည်း ကောင်းမကောင်း၊ ညွှန်ပြပုံမှတပါး မိမိမှာ ဥပဒေထုတ်ပြန်နိုင်သော အာဏာစက်ရှိသည့် ပြည့်ရှင်မင်းစသောပုဂ္ဂိုလ်မျိုးမဟုတ်ပေ၊ ထို့ကြောင့်ဤနီတိကို တပါးသူတို့လိုက်နာစေရန် အာဏာပိုင်သောဆင့်ဆိုချက်သဘော မျိုးလိုပေသည်။ သို့ဖြစ်ရာ လူတယောက်အား မိမိပြုသော အမှု၏ အကောင်း အဆိုး အကြီးအသေးကို လိုက်၍ ခံစားစံစားရမြဲဖြစ်သည် ဟူသော နိယာမတရားကို ပြဆိုခြင်းထက် အဘယ် အမိန့်အာဏာသည် ပို၍ဩဇာရောက်နိုင်ပါမည်နည်း။ ဤအကြောင်း ဖြင့် ဤအခန်းကို ဤနေရာတွင် ရွေး၍ထည့်ခြင်း ဖြစ်တန်ပေသည်။

ဒုတိယပိုင်း ပြည့်စုံကုံလုံမှု ဆိုင်ရာ ကဏ္ဍကား ဆိုပြီးသကဲ့သို့ ပြည်ရေးရွာမှု ဖြစ်ပေသည်၊ ကျမ်းတစောင်လုံး၏ အခန်းအနည်းအများကို ရေတွက်ကြည့်လျှင် ဤကဏ္ဍသည် ပထမကဏ္ဍထက် နှစ်ဆရှည်လျား၍ တတိယ ကဏ္ဍထက် သုံးဆခန့် ရှည်လျားသည်ကို တွေ့ရသည်၊ ဤအချက်ထောက်၍ ဤကဏ္ဍအား စာဆိုပုဂ္ဂိုလ်၏ အရေးပေးပုံကို တွက်ချင့် နိုင်ပေသည်။

ဤကဏ္ဍကို ပြည့်စုံကုံလုံမှု(ဝါ)စီးပွားဥစ္စာ ဆိုင်ရာဟူ၍ဟပ်ရသော အကြောင်းမှာ ထေရဝါဒလုဗာ သူမြတ်၏ စိတ်ကူး မှုရင်းသဘောပင် ဟုတ်ဖွယ် မရှိပေ။ အဘယ့်ကြောင့်ဆိုသော် စာဏကျဟုတွင်သော ကောတိလျကလည်းမိမိ၏ အဋ္ဌသျှတ္တရကျမ်းကို ဤအဓိပ္ပါယ်ဖြင့် အမည်ပေးခဲ့ခြင်း ဖြစ်သည်၊ စာဏကျထက်စောသော မဟာဘာရတ ဇာတ်ထဲတွင်ပင် ဤအသုံး အနှုန်းနှင့် ပတ်သက်၍ ခြေရာကောက်ယူရသည်မှာ ဥစ္စာ စီးပွားတို့မည်သည် တိုင်းပြည်နိုင်ငံ ငြိမ်ဝပ်အေးချမ်းမှသာ လုပ်ကိုင် ဆောင်ရွက်၍ လွယ်ကူစွာ ဖွံ့ဖြိုးအိုးတက်လေ့ ရှိရာ နိုင်ငံသာယာမှ စီးပွားဝပြောသည်ဟု ဆိုလိုရင်းဖြစ်ပေသည်။ထို့ကြောင့်ပင်အခန်း၅၆။ အပိုဒ်၇–တွင် "စီးပွားဥစ္စာတို့သည် တရားမဲ့သော ဘုရင်၏ အာဏာစက်အောက်၌ နေရသူတို့တွင် ဆင်းရဲခြင်းထက်ပိုသော ကြေကွဲ ဝမ်းနည်းခြင်းကို ဖြစ်စေ၏" ဟူ၍ ပြဆိုထားလေသည်။

[illegible] အဓိကဆိုလိုရင်း ဖြစ်သော်လည်း

သာမန် လူတန်းစားတို့အားလည်း မမေ့မလျော့အပ်သော လုံ့လရှိစေရန်၊ ရေးသားထားခြင်း ဖြစ်ကြောင်း (၀၊)လူသာမန်တို့လည်း အလိမ္မာ တိုးအပ်ကြောင်း ရည်ရွယ်သည်ဟု ယူဆနိုင်၏။

# သီရုကုရယ်လ်

ဥပမာအားဖြင့် အခန်း၅၄၊အပိုဒ်၁ တွင် ကြည့်ပါ၊ "အပျော်ကျူးသဖြင့်မေ့မေ့လျော့လျော့နေတတ်ခြင်းသည် ဒေါသကြီးဖြင့် မကောင်းမှုကိုဖြစ်စေခြင်းထက် ဆိုး၏" ဟူ၍ လူတိုင်းဆင်ခြင်အပ်သော ကိစ္စကို ဖေါ်ပြထား၏။

အခန်း ၄၇၊အပိုဒ် ၂-ကိုကြည့်ပါဦး၊အကြင်သူတို့သည် တစုံတရာကိုမပြုလုပ်မီ မိမိတို့ဘာသာ ကောင်းစွာ ကြံဆပြီးသည့်နောက်၊ရင်းနှီးသော မိတ်ဆွေများနှင့်တိုင်ပင်ပြီးမှ ဆောင်ရွက်ခြင်းဖြစ်ပါက မည်သည့်အမှုမှ အလွန် ခက်ခဲတော့မည် မဟုတ်ပေ၊ ဤအပိုဒ်မှာလည်း လူအားလုံး သိအပ်သည် မဟုတ်တုံလော၊

ဦးစွာ ပထမ ဤသို့ပြဆိုပြီးနောက် စာဆိုသည် နိုင်ငံအုပ်ချုပ် မင်းလုပ်သူတို့၌ မိမိအုပ်ချုပ်ရသော နိုင်ငံကို စီစဉ်တကျ တိုးတက်ရေးကို ကွပ်ကဲနိုင်သော အရည်အချင်း ရှိရမည် ဆိုထားလေသည်၊ ထိုပုဂ္ဂိုလ်သည် တိုင်းပြည်တွင် မင်းမဲ့ ဥပဒေမဲ့ဖြင့် ဗထာ ဝါဒ ထွန်းကားမည့် ဘေးကို စောင့်ဆုပ်သူ ဖြစ်ရပေမည်၊

ထို့ကြောင့် အခန်း ၇၄၊ အပိုဒ် (၅)တွင် မတရားမင်းမဲ့ ဝါဒကို စက်ဆုပ်သင့်ကြောင်း ရေးသားထားသည်၊ အခန်း ၇၅ နှင့် ၅၆-မှ ၅၈-အထိမှာ အုပ်ချုပ်ပုံလွဲမှားခြင်းကို ညွှန်းဆိုထားလေသည်၊

အခန်း (၅၅) တွင် မင်းတို့သည် ဥပဒေ၏ အထက်က မရှိရာ၊ မျက်နှာလိုက်ခြင်း၊ တရားမျှမှု မရှိခြင်းတို့လည်း ကင်းရှင်းရာ၏ဟူ၍ ပြောဆိုထားသည်ကို တွေ့နိုင်ပေသည်၊

မင်းသည် မိမိလက်အောက်ရှိ တိုင်းသူပြည်သားတို့အားရင်း၊ မှူးမတ်တို့အားရင်း လွတ်လပ်စွာ ပြောဆို ဝေဖန်နိုင်ခွင့် ပေးရ၏။ သို့မှသာ မင်းလုပ်သူ မှားယွင်းသောအခါဖြစ်စေ၊ မိမိအစိုးရ မှားယွင်းသော အခါဖြစ်စေ ထောက်ပြ၍ အမှားကို ပြုပြင် အကြံပေးနိုင်မည် ဖြစ်သည်၊ ဤသဘောကို အခန်း ၃၉(၇)၊ အခန်း ၄၅ (၇)၊ အခန်း ၄၅(၈)စသည်တို့၌ ဖတ်ရှုနိုင်သည်။

အုပ်ချုပ်မင်းလုပ်သူတို့သည် စည်းစိမ်ယစ်၍ မနေရာ၊ တရားမျှတမှု ထွန်းကားရန်အတွက် အစဉ်သတိပြုလျက် မတရားမှု ပေါ်ပေါက်လျှင် အရေးယူပြုပြင်ပေးနိုင်ရန် သတိရှိရာ၏။ တိုင်းပြည်၏ ဥစ္စာဓနနှင့် သယံဇာတပစ္စည်းတို့ကို တိုးပွားအောင်ပြုရန်မှာ မင်း၏ ဝန်တာဖြစ်၏၊ တိုင်းသူပြည်သားတို့အားလည်း ပြည်တွင်းရန်၊ ပြည်ပရန်တို့မှ ကာကွယ်ပေးသင့်၏၊ ဤသဘောများကို အခန်း ၃၉၊ ၅၄၊ ၆၀၊ ၆၂၊ စသည်တို့နှင့်အခန်း ၅၅၊ အပိုဒ် (၉) နှင့် အခန်း ၅၆၊ အပိုဒ် (၁၀) တို့၌ တွေ့နိုင်ပေသည်။

အုပ်စိုးသောမင်းသည် စစ်ရေး နှင့် ငြိမ်းချမ်းစည်ပင်ရေးဟူသော နှစ်မျိုးလုံးကို ပြည့်စုံအောင် လေ့လာကျေညက်ပြီးဖြစ်ရာ၏၊ မိတ်ပြုရာတွင် လူတော်လူကောင်းများကိုသာ ရွေးချယ်လျက်၊ လူညံ့လူယုတ်များကို ပယ်စွန့်ရာ၏။ (အခန်း ၄၅၊ ၄၆)။

တဖန် အခန်း ၄၄-တွင် ပြည့်ရှင်မင်းသည် မိမိ၏စိတ်အနေကို အစဉ်သဖြင့် တည်ငြိမ်စေလျက် မကောင်းသောစိတ်များ မည်သည့်အခါမှ မမွေးမြူမိစေရန် သတိထားအပ်ကြောင်းကို ပြဆိုထား၏။

မင်းမှုထမ်းတို့အား ရွေးချယ်ခန့်ထားရာတွင် စံနစ်တကျ ဂရုပြု၍ ရွေးချယ်ခန့် အပ်ကြောင်းကို အခန်း ၅၁၊ ၅၂ တို့၌ ဖေါ်ပြထား၏။ အမှုကိစ္စအားလုံးကို ကိုယ်တိုင် သိရှိ ဆောင်ရွက်အပ်ကြောင်းကို အခန်း ၅၃၊ အပိုဒ်(၁၀)နှင့် အခန်း ၅၆၊ အပိုဒ် ၃ တို့၌ ဖေါ်ပြထား၏၊ စုံစမ်းထောက်လှမ်းသော အထောက်တော်များသည်လည်း မင်း၏ အားထားအပ်သော သူများဖြစ်ကြောင်းကို အခန်း ၅၉-တွင် ဖေါ်ပြ၏။

မင်းသည် နိုင်ငံတွင် အချုပ်အချာ အာဏာကိုကိုင်၍ အုပ်ချုပ်စိုးမိုးရသူဖြစ်ရာ လူတိုင်းအား အညီအမျှ အုပ်ချုပ်မိသည်ဖြစ်အောင် အားထုတ်နိုင်ခြင်းဟူသော ဂုဏ် ရည်ကို ခိုင်မြဲအောင် ပြုကျင့်ရာသည်၊ ဤအကြောင်းကို အခန်း ၅၇-တွင် ဖေါ်ပြ ထားသည်၊ ထိုအရာအားလုံးထက်ပို၍ကား မင်းသည် မြဲမြံသော ပုဂ္ဂိုလ် ဖြစ်အပ်၏။ ဝန္တိစားသော ပုဂ္ဂိုလ်ဖြစ်အပ်၏၊ အားနည်း ပျော့ညံ့၍ ဆုံးဖြတ်ချက် တခုခု ပြုလုပ်ရန် ကိစ္စတွင် ချီတုံချတုံ ဖြစ်တတ်သော ပုဂ္ဂိုလ်မျိုး မည်သည့်အခါမှ မဖြစ်အပ်ကြောင်း တို့ကို အကျယ်ချဲ့၍ ဖွင့်ဆိုထားလေသည်။

မှူးမတ်တို့၏ အကြောင်းကို ဤကျမ်းတွင် ပြသရာ၌ မှူးမတ်တဦးသည် အမှု ကိစ္စအားလုံးကို သိသူဖြစ်အပ်ကြောင်း၊ လိမ္မာရေးခြားသော ပုဂ္ဂိုလ် ဖြစ်အပ်ကြောင်း အကြောင်းအကျိုး ချင့်ချိန်းဝေဖန်တတ်သူ ဖြစ်အပ်ကြောင်း၊ စိတ်ထားဖြူစင်သူ ဖြစ် အပ်ကြောင်း၊ မင်းမှုမင်းရေးကို သိသူ ဖြစ်အပ်ကြောင်း၊ လူ့စိတ်သဘောကို အကဲခတ် တတ်သော ပုဂ္ဂိုလ်ဖြစ်အပ်ကြောင်းတို့ကို အကျယ်တဝင့် ညွှန်ပြထား၏။

မှူးမတ်တို့မည်သည် မင်း၏ နန်းတော်၌ ခစားသူဖြစ်၍ အုပ်ချုပ်ရေး ဗဟို အချက်အချာ၌ နေရသူပီပီ မည်သည်ကို ဆိုသင့်သည်၊ မည်သည်ကို နှုတ်လျှာထိန်းသိမ်း အပ်သည်ဟူသည်ကိုလည်း သိရမည့် ပုဂ္ဂိုလ်ဖြစ်၏။ တိုင်းတပါးသို့ သံကြီး တမန်ကြီး အဖြစ်သွားရသောအခါလည်း မိမိ၏သခင်၏ သစ္စာကိုစောင့်သိရိုသေလျက်ဂုဏ်သိက္ခာ နှင့်အညီ ရည်မွန်သိမ်မွေ့စွာ ပြောဆို ကျင့်ကြံ ဆက်ဆံအပ်ကြောင်းကို ပြဆိုထား၏၊ တချိန်တည်းမှာပင် မိမိ၏ အကြီးအကဲ အတွက် အကျိုးစီးပွား တိုးတက် ကြောင်းကို လည်း မျက်ခြည်မပြတ်သင့်ကြောင်း ပြဆို၏။ နောက်ဆုံးတွင်ကား မှူးမတ် ပညာရှိ လုပ်သူသည် လွှတ်ရုံး စသည်တို့၏ အဆောင်အရွက် အားလုံးကို သိရှိကျွမ်းကျင်ပြီးသူ ဖြစ်စေရာပေသည်။ ဤအချက်များကို အခန်း ၆၄မှ-၇၃-အထိပါဝင်သော အပုဒ်များ ၌ လေ့လာနိုင်ပေသည်။

ဤကျမ်းတွင် ဖေါ်ပြထားရာ၌ တိုင်းရေးပြည်ရေးတွင် အဓိက အားဖြင့် အကောင်းအဆိုးဖြစ်အောင် ပြုပြင်ဆောင်ရွက်နိုင်သော ပုဂ္ဂိုလ်၆-မျိုး ရှိသည်၊ ထိုအထဲ

တွင်မူ မတတ္တမှာ တမျိုးဖြစ်သည်။ ကျန် ၅ မျိုးမှာ စစ်တပ်၊ လူထု၊ ဥစ္စာဘဏ္ဍာ၊ မဟာမိတ်နှင့် ကတုတ်ခံတပ်များ ဖြစ်လေသည်။ ဤသို့ ပိုင်းခြားခြင်းသည် အိန္ဒိယ ရှေးဆရာများ၏ အဆိုအမိန့်နှင့် ကိုက်ညီလေသည်။ ၆–မျိုး ခွဲခြားထားကြောင်းကို အခန်း ၃၉– အပိုဒ်တွင် ဖတ်ရှုနိုင်သည်။

မူးမတ်တို့မှလွဲ၍ အခြားငါးမျိုးဖြစ်သော အင်္ဂါရပ်တို့၏ အကောင်းဖက်၊ အဆိုးဖက်တို့ကို စာဆိုသည် အခန်းပေါင်း ၂၂-ခန်းမျှဖြင့် ညွှန်ပြရေးသား ထားလေသည်။ ဤတွင် တိုင်းသူပြည်သား လူအများနှင့် ပတ်သက်သော အကြောင်းတို့ကို အခန်း ၇၄-တွင်ဖတ်ရှုနိုင်သည်။ အခန်း ၉၁-မှ ၉၄-တို့မှာ မင်းညီမင်းသားတို့နှင့် မလျော်သော အမှုများကို ရေးသားထားခြင်း ဖြစ်သည်။ အခန်း ၉၅-မှာ သမားကောင်း တဦးက မင်းညီမင်းသားတို့အား နေမှုထိုင်မှုအစရှိကို ကျန်းမာရေးအတွက် အကြံပေး ညွှန်ကြားထားချက်ပင် ဖြစ်သည်။ ဤသို့ အခန်းများဖြင့် ခွဲခြား၍ ဆိုရပြားသော်လည်း မင်းညီမင်းသား ဆိုင်ရာ၌ မင်းနှင့်သာ သက်ဆိုင်သည် မဟုတ်ဘဲ၊ ဆင်းရဲသား အစရှိသော လူအများ၏ လိုက်နာအပ်သော ကျင့်ဝတ်များလည်း ဖြစ်ပေသည်။

ဒုတိယပိုင်းတွင် ကျန်ရှိသော ၁၃-ခန်းကား အထွေထွေပိုင်း,ဟု ဆိုထား၏။ သို့သော် ဒုတိယပိုင်းတွင် ပထမနှင့် ဒုတိယအခန်းစုတို့သည် သီးခြားဖြစ်၍ ဤအခန်းစုကိုလည်း သီးခြား သတ်မှတ်သင့်၏။အဘယ့်ကြောင့် ဆိုသော် ဆိုလိုရင်းသည် သီးခြားအစုအဝေးဖြင့်ပေါ်လွင်နေသောကြောင့်တည်း။ဤအစု၌ အခန်း၉၇-နှင့်၉၉-တို့သည် အထူး မှတ်ဖွယ်ကောင်း၏ဟု ဆိုကြပေသည်။

ဒုတိယ ကဏ္ဍ၏ အဆုံးပိုင်းတွင် အခန်း ၁၃-ခန်းပါရှိ၏။ ထိုအခန်း တို့ကား မြင့်မြတ်ခြင်း၊ ဂုဏ်ရှိခြင်း၊ ကြီးကျယ်ခမ်းနားခြင်း၊ ယဉ်ကျေး ဖွယ်ရာခြင်း၊ စိုက်ပျိုးလုပ်ကိုင်ခြင်း၊ တောင်းရမ်း စားသောက်ခြင်း၊ သိမ်ငယ်ခြင်း အစရှိသော အကြောင်းတို့ကိုဖော်ပြထား၏။ ဤသည်တို့မှာ ကိုယ်ကျင့်တရားနှင့် ပတ်သက်သော စာဆို၏ ယူဆချက် စုံပြသသောများ ဖြစ်လေသည်။

ဤနေရာတွင် မိုက်မဲသူ တဦးနှင့် လိမ်မာရဲရင့်သူ တဦးကို နှိုင်းယှဉ်ထားရာ၌ မိုက်မဲသူ၏ အကြောင်းကို အခန်း ၈၄-အပိုဒ် ၃-တွင်၎င်း၊ တတ်သိလိမ်မာ၍ ရဲရင့်စွာဖြင့်မင်းကဲ့သို့ကျင့်တတ်သူတဦး၏ အရည်အသွေးကို အခန်း ၃၉-အပိုဒ် ၂ တွင်၎င်း တွေ့နိုင်ပေသည်။ အခန်း ၈၄-တွင် အရှက်အကြောက်နည်းခြင်း၊ စိတ်ဆောက်တည်မှုမရှိခြင်း၊ ချစ်ခင် ကြင်နာမှုကင်းခြင်း၊ နာခံကျိုးနွံ မှုကင်းခြင်း စသည်တို့ ပါဝင်သည်။ ဤကား မိုက်မဲသူ တဦး၏ အရည်အသွေး လေးရပ်ဖြစ်သည်။ အခန်း ၃၉ -တွင် သတ္တိရှိခြင်း၊ လှူဒါန်းပေးကမ်းခြင်း၊ ဉာဏ်ပညာ ရှိခြင်း၊ ခိုင်မာစွဲမြဲခြင်း စသည်တို့ကို မင်းကဲ့သို့ လိမ်မာရဲရင့်သော ပုဂ္ဂိုလ်တို့၏ အရည်အချင်းဟူ၍ ဖော်ပြထား၏။

... ပတ်သက်၍ ဖော်ပြထားရာ၌ ကျမ်းပြု ပုဂ္ဂိုလ်သည်

[illegible]
မည်မျှ လူဆင်းရဲတို့၏ ဘဝနှင့်နီးစပ်ကြောင်းကို သိသာနိုင်လေသည်၊ လယ်ယာစိုက်ပျိုး ရေးဟူသည်မှာ အိန္ဒိယနိုင်ငံတွင် အရိုက လုပ်ကိုင်စားသောက်ကြသော လုပ်ငန်းကြီး ဖြစ်သည်၊ လူ ၁၀-ယောက်လျှင် ၉-ယောက်တို့သည် စိုက်ပျိုးရေးနှင့် မလွတ်မကင်းပေ၊ ဤကျမ်း၏ အစတွင် ထေရဗာလုဗ္ဗာသည် မိုး၏ ကောင်းမြတ်ခြင်းဟူသော အကြောင်း

သိရုကုရယ်ပ်

ကို ဖေါ်ပြထားသကဲ့သို့ ဒုတိယ ကဏ္ဍ၏ အဆုံးတွင်လည်း လယ်ယာ စိုက်ပျိုးခြင်း၏ အရေးကြီးပုံကို ဖေါ်ပြထားလေသည်၊ စာဆိုသည် တော ကျေးလက်သားဖြစ်၍ စိုက်ပျိုး ရေး၏ အရေးပါပုံကို ကောင်းစွာ သိရှိလေသည်။

တတိယ ကဏ္ဍတွင် စာဆိုဖွဲ့နွဲ့ထားသော မေတ္တာဇာတ်လမ်းမှာ ယောက်ျားပျို ကလေးနှင့် မိန်းမပျိုကလေး တဦးတို့သည် အမှတ်မထင် ရွာပြင်တောစပ်၌ တွေ့ဆုံခဲ့ကြ သည်။ သူတို့သည်တဦးကို တဦး မြင်မြင်ချင်း မေတ္တာသက်ဝင် ချစ်ခင်မိခဲ့ကြ၏၊ မျက်စိ အောက်က မပျောက်မခံနိုင်သော အခြေသို့ တဆင့် တက်မိကြသည်၊ ဤသို့ ချစ်မေတ္တာ နှောင်ကြိုး ပတ်ဖွဲ့မိသောအခါ သူတို့သည် တဦးကို တဦး သစ္စာနှံ့ကြ လျက် အိမ် ထောင်သည်များ ဘဝသို့ လျှို့ဝှက်စွာ ရောက်သွားခဲ့ကြလေသည်၊ မည်သို့သော အခမ်း အနားမျိုးမှလည်း မပြုလုပ်၊ မည်သို့သော အသိအမှတ် ပြုခြင်းမျိုးမှလည်း လူသိရှင်ကြား မပြုကြဘဲ၊ တဦး၏ မေတ္တာကို တဦးက ယုံကြည်သော စိတ်ဖြင့်သာ မေတ္တာနယ် ကျူး မိကြခြင်း ဖြစ်လေသည်၊ သို့သော်ထိုခေတ်ကမူကား ဤသည်ပင်လျှင် တမီလ်အမျိုး သားတို့ လူ့ အဖွဲ့အစည်း၌ လက်ထပ်ထိမ်းမြားခြင်းဆိုင်ရာသဘောအတွက် လုံလောက် သော အကြောင်းခံ ဖြစ်ပေသည်။

ချစ်သူနှစ်ဦးသည် မိမိတို့ သစ္စာခံပြီးကြသည့် အကြောင်းကို တိတ်တဆိတ် လျှို့ဝှက်ထားကြကာ၊ တနေ့တွင် အခါအခွင့်သာသော အချိန်ရောက်သော် လူသိရှင်ကြား ဖွင့်ဟ ပြောဆိုကြရန် ရည်ရွယ်ရင်း ရှိကြသည်။ သို့သော်လည်း ထိုအချိန် ကာလသို့ ရောက်အောင် နှစ်ဦးစလုံး၌ စောင့်ဆိုင်း နိုင်စွမ်း မရှိကြတော့ပေ။ တဦး၏ ရင်ခွင်တွင် တဦးက ဝင်ရောက် ခိုလှုံလိုကြားလည်း မိဘမောင်ဖွားများ မသိသေးသည်က အခက်အခဲကြီးဖြစ်၍ နေသည်။ ဤအကြောင်းများကို အခန်း ၁၁၄–တွင် ပြဆိုထား၏။ ဤသို့ လူမသိ သူမသိ တဦးနှင့် တဦး ချစ်ခင်နှစ်သက်မိကြသော ဇာတ်လမ်းမှာ ရှေးကတဲကပင် ရှိခဲ့လေသည်။ တိတ်တဆိတ် ချစ်ခဲ့မိရာမှ နောင်အခါတွင် မေတ္တာမှန်တို့၏ သွားရာလမ်းဖြစ်သော ပေါင်းဖက်ရခြင်းနှင့်လည်း ကြုံကြိုက်ရလေသည်။ သို့သော် မပေါင်းဖက်ရမီစပ်ကြား၌ ချစ်သူယောကျ်ားပျိုမှာ မနေနိုင်မထိုင်နိုင် ပူလောင်ကြေကွဲရ၏။ တနည်းနည်းဖြင့် မိမိချစ်သူ၏ မိဘဆွေမျိုးများ သိရှိရန် အားထုတ်ရ၏။ ဤတွင် သူတို့ရပ် သူတို့ရွာ၌ လုပ်လေ့ရှိသော အလေ့အထတရပ်မှာ အုန်းလက်များကို ခုတ်ဖြတ်၍ လှူထိုင်နိုင်လောက်အောင် စု၍ စည်းသည်၊ ယောကျ်ားပျိုသည် ထိုအုန်းလက် စည်းပေါ်တွင် ခွ၍ထိုင်ရ၏။ ထိုအခါ သူ့မိတ်ဆွေ ကာလသားများက သူ့ကို ဤအနေအထားဖြင့် ထမ်းပိုးလျက် မေတ္တာဖွဲ့ သီချင်းများကို သီဆိုကာ မြို့ရိုးရွာရိုးတွင် လျှောက်၍ လှည့်၏၊ ဤသို့ပခုံးပေါ်က လိုက်ရသော်လည်း မိမိထိုင်ထားရသော အုန်းလက်၏ ဆူးများက မခံသာအောင် စူးတတ်၏။ မညီညွတ်သော အုန်းလက်များကြောင့် အနေရ အထိုင်ရ ခက်လှ၏။ ဤဝေဒနာသည် ချစ်သူ၏ရင်တွင် ခံစားရခြင်းမျိုးနှင့် ဆင်ဆင်တူလေသည်။

ဤသို့အုန်းလက်ကို စည်း၍ မေတ္တာ သီချင်းသံများကို ကာလသား တစုက သီဆိုကာ လှည့်လည်သွားသည့် ရှိသော် ရပ်ရွာရှိ လူငယ်များက သူ့ကိုနောက်ပြောင်ကြ၏။ တခါ ထရံ သူချစ်သော မိန်းခလေး၏ အမည်ကို သိရှိသူတို့က ဖေါ်ထုတ်ကာ ပြောင်လှောင်ကြ၏။ ဤသို့ထစ်အော်ပြောင်လှောင်သော အသံတို့သည် တယောက်စကား တယောက် နား၌ တဆင့် မိန်းခလေး၏ မိဘဆွေမျိုးများထံသို့ ရောက်ရ လေတော့သည်။ ထိုအခါ မိန်းကလေးရှင်၏ မိဘဆွေမျိုးတသိုက်မှာ မိန်းခလေးအား မေးမြန်းရ၏။ လွန်ပြီး ကိစ္စဖြစ်၍ မတတ်သာသည့် အဆုံးတွင် လူငယ်တို့၏ ချစ်ခြင်းကို မခွဲနိုင်တော့ဘဲ ပေါင်းသင်း စုံဖက်၍ ပေးလိုက်ရလေသည်။

မိဘ သဘောကျ လက်ခံပြီး၍ အတူတကွ နေထိုင်ရသောအခါ ချစ်စခင်စ ဇနီး မောင်နှံတို့အာဝ ပျော်ရွှင်ကြမြဲ ဓမ္မတာပင်။ သို့သော် ပျော်ရွှင်ခြင်း ဆိုသည်မှာ ကြာရှည် မခံပြန်ပေ။ ခင်ပွန်းသည်မှာ တိုင်းပြည်အတွက် စစ်ထွက်ရန် တာဝန်ရှိလာ၏။ ဤအကြောင်းကို ဇနီးအား ပြောပြ၏။ စစ်မြေမှ ပြန်လာလျှင် ထယ်ဝါ ဝင့်ကြွားစွာ ပြန်လာပါမည်ဟု နှင့်ပန်၏။ သို့သော် ဇနီးသည်မှာ ခွဲရမည့်အရေးကိုတွေး၍ပင်မရပေ။ အကယ်၍သာ မောင်စစ်ထွက်သွားလျှင် မယ်သည် လွမ်းနာကျ၍သာ သေရပါတော့ မည်တူသော အဖြစ်မျိုးသို့ ရောက်မည်ဟု "ခွဲခွါထွက်သွားရခြင်းနှင့် မပတ်သက်သော အကြောင်းများကိုသာ အကျွန်ုပ်ကို ပြောပါ။ ထိုသို့မဟုတ်ဘဲ အမြန်လာပါမည်ဟူ၍ နှစ်သိမ့်သော စကားမျိုးကို ပြောလိုလျှင် ထိုအချိန်တိုင်အောင် အသက်ရှင်၍ ကျန်ရစ် မည့်သူအားသာ ပြောကြားပါလော့"ဟူ၍ အမျိုးသမီးက မောင့်ကို တောင်းပန်ရ၏။

ပြောပြောဆိုဆိုနှင့် မောင်သည် မယ့်ကို စွန့်လျက် ထွက်ခွါသွားရ၏။ စစ်မက် ရေးရာတို့မည် သည်မှာ အိမ်သူသက်ထားတို့ မျှော်လင့်နေမည်ဟူသော အကြောင်း ကြောင့် မြန်မြန်ပြီးရိုးရှိသည် မဟုတ်ပေ။ အရေးအခွင့်ကို ထောက်၍ လိုအပ်လျှင် လိုအပ်သလို အချိန်ရှည်ကြာတတ်မြဲ ဖြစ်ပေသည်။ ထို့ကြောင့် ပြန်ခဲ့ပါမည်ဟူ၍ ကတိပြုသောရက်တွင် မောင်သည် ပြန်မရောက်နိုင်တော့ပေ။

မောင် မရောက်မီ စပ်ကြား၌ မယ့်ရင်တွင်းတွင် ခံစားရသော ဝေဒနာတို့သည် ဝှသောင်လှပါ၏။ ဤအကြောင်းတို့ကို စာဆိုသည် တတိယ အခန်းကဏ္ဍ၌ (၁၁)ခန်း ဖွဲ့လျက် စပ်ဆိုထား၏။ နောက်ဆုံးတွင်ကား မောင်သည် စစ်မြေမှ ပြန်ရောက်လာသည်။ မယ်ကား ချိန်းရက်အတိုင်း ပြန်ရောက်မလာသော မောင့်ကို ဖြစ်တင်သောစိတ်ဖြင့်

မျက်နှာချင်းဆိုင်၏။ အပြင်ပန်းအားဖြင့် မညီမျှပင် ပြုစုပြစ်တင်လေပြားလည်း ရင်တွင်းကမူကား မောင့်ရင်ခွင်တွင် ပြေးဝင်ခိုလှုံလိုစိတ်က ပြင်းထန်နေ၏။ ဤသည်ပင်လျှင် အချစ်၏အရသာ ဖြစ်ပေသည်။ ရင်တွင်းရှိမေတ္တာကို အပြင်တွင် တမျိုးလှည့်စား၍ မြှုသိပ်ထား၏။ မယ့်နှုတ်ခမ်းသည် စူ၏။ မယ့်မျက်လုံး အစုံတို့မှာ မျက်စောင်းများခဲ၍ထား၏၊ မယ့်နှုတ်ဖျားမှ ထွက်လာသော စကားတို့မှာ သီးရင့်၏။



သို့သော် နောက်ဆုံးတွင်ကား ချော့မော့နှစ်သိမ့်ရခြင်းသည်သာလျှင် အဆုံး၌ အောင်ပွဲခံ၏။ ဤသည်ပင် အချစ်ကို အရသာထူးကဲစေသော ဆားမည်သည် မဟုတ် ပါလော။

တတိယ ကဏ္ဍမှာတမီလ် အမျိုးသားတို့၏ ကဗျာလင်္ကာ စပ်ဆိုမှု အလေ့အလာ နယ်ပယ်ဖြစ်သော အချစ်ကိစ္စဖြစ်သည်။ ဆန့်ကျင်ဖက်လိင်တို့၏ ချစ်ခြင်းကိစ္စဖြစ်သည်။ ကုရယ်လ်ကျမ်းကြီးကို ဦးစွာပဌမ ပြန်ဆိုသူများအနက် တဦးဖြစ်သော မစ္စတာဒရူးကမူ ဤတတိယကဏ္ဍကို ဥရောပတိုက်ဆိုင်ရာ ဘာသာစာပေတခုခုနှင့် ပြန်ဆိုရေးသားရလျှင် ဘာသာပြန် ဆိုသူအား ညစ်ညမ်းသူ၊ ယုတ်ညံ့သူဟု ပြောစရာ ဖြစ်ပေမည်ဟု ဆိုခဲ့လေသည်။

အခြားဘာသာပြန် ဆရာတဦးဖြစ်သော ဒေါက်တာပုပ်ကား ဤသို့မယူဆဘဲ တတိယကဏ္ဍ တခုလုံးကို အကုန် အစင် ပြန်ဆို၍ ရေးသားဖော်ပြခဲ့သည်။ ဒေါက်တာပုပ်ကပြောသည်မှာ ကျွန်ုပ် အထင်အားဖြင့် ပညာရှိ၍မြင့်မြတ်သော ကျမ်းပြုဆရာသည် မိမိ၏ ရည်ရွယ်ချက်၌ စင်ကြယ်ကောင်းမြတ်ခြင်းကို အခြေခံ၍ ရေးသားထားခဲ့သည်ဟု ဆိုလေသည်

အခြားတဦးဖြစ်သော ဘုန်းတော်ကြီး ဂျေကူးပါးကလည်း ဒေါက်တာပုပ်နှင့် သဘောချင်းတူသည်။ သူကဆိုသည်မှာ တတိယကဏ္ဍသည် ပဌမကဏ္ဍများ၏ တန်ဖိုးနှင့် ရသကို ဖျက်ဆီးရန် အကြောင်းတစုံတရာ မရှိဟူ၍ ဖြစ်သည်။

နောက်ထပ် ဘာသာပြန်သူ တဦးဖြစ်သော မစ္စတာ အာယားကလည်း ဤတတိယကဏ္ဍကို သတိကြီးစွာဖြင့်ဘာသာပြန်၍ စေ့စေ့ငုငုထည့်သွင်းဖော်ပြလေသည်။ ဤတတိယကဏ္ဍတွင်ပင် တမီလ်တို့၏ ဒေသ၌ လူငယ်တို့ ဘဝ တဦးနှင့် တဦး ချစ်ခင်နှစ်သက်၍ ပေါင်းသင်းစုံဖက်ရန် မည်သို့ ကြိုးစားရပုံ၊ မည်သို့ ပူပန်ရပုံတို့ကို တွေ့ရှိနိုင်သည်။

အမျိုးသမီးများနှင့် ပတ်သက်၍ စာဆိုသည့် အမျိုးသမီးများကို နိမ့်ကျသောသူများဟူ၍ ရှုမြင်ခြင်းမရှိပေ။ ထိုခေတ်က အမျိုးသမီးစာဆို အများ ပေါ်ပေါက်ခဲ့သည်ကိုလည်း တွေ့နိုင်သည်။ အမျိုးသမီးစာဆိုများ ရှိခြင်းကို ထောက်၍လည်း သူတို့သည် ယောက်ျားများ နည်းတူ လက်ရေတပြင်စီး ပညာ သင်ယူနိုင်ခဲ့ကြသည်ကို သိနိုင်ပေသည်။ ဖြစ်နိုင်သော အကြောင်းတခုမှာ တမီလ်တို့ ဒေသတွင် အာရိယန် အယူအဆများ ပြန့်နှံ့လာခြင်းကြောင့် မိန်းမတို့အား နိမ့်ကျသော အခြေတွင်ရှိ သူများဟု သဘောထားလိုကြစေရန် ဖန်တီးပေးသည်ဟု ထင်ရသည်။ သို့သော် ကုရယ်လ်ကျမ်းကြီးတွင်မူ ဤသို့သော သဘောထားမျိုးကို မတွေ့ရပေ။

ထေရုဗာလူဗာ၏ သဘော၌ မိမိအိမ်ထောင်ကို ကောင်းစွာ ပြုစုလုပ်ကျွေးသော အိမ်ထောင်သားတဦး၏ဘဝကား ရသေ့ရဟန်းတဦး၏ ဘဝကဲ့သို့ပင်မြင့်မြတ်ကြောင်း

အိမ်ယာထောင်မှု ကိစ္စနှင့် ပတ်သက်၍ အကြင်ယောက်ျား တဦးသည် ဇနီး အများကိုယူရန် အလေ့အလာကို အားပေးရေးသားခြင်းလည်း မရှိခဲ့ပေ။ စာအုပ်တခု လုံးတွင် တွေ့ရသည်ကား တလင်တမယား စံနစ်အကြောင်းပင် ဖြစ်၏။ တလင် တမယားစံနစ်ဖြင့် နေထိုင်ဆက်ဆံရေးသည် အမျိုးသမီးတို့၏ အဆင့်အတန်းကိုမြင့်မား စေရာ ရောက်ပေသည်။ ဤကျမ်းမှာ လွန်ခဲ့သော နှစ်ပေါင်း ၁၅၀၀-ခန့်က ရေးသား ထားခဲ့ခြင်းကြောင့်လည်း အမျိုးသမီးတို့နှင့် ပတ်သက်၍ ခေတ်သစ် အတွေးအခေါ်မျိုး ထားရှိသည်ဟု မဆိုနိုင်သည့်တိုင် အမျိုးသမီးတို့အား တန်းတူအခွင့်အလမ်း ရှိသင့်သည် ဟု ယူဆခြင်းကို တွေ့နိုင်ပေသည်။

ကျမ်းပြုဆရာသည် လူ့ကျင့်ဝတ်ကို ပေါ်ပြသည်ဖြစ်စေ၊ နိုင်ငံ အုပ်ချုပ်သူတို့၏ ကျင့်ဝတ်ကို ပေါ်ပြသည်ဖြစ်စေ၊ လောကတွင် အောင်မြင်ကြောင်းတရား နည်းလမ်း များကို ပေါ်ပြသည်ဖြစ်စေ၊ ချစ်သူတို့၏ စိတ်လှုပ်ရှားမှုများကို ပေါ်ပြသည် ဖြစ်စေ၊ ဤသို့ပေါ်ပြရသောအခါတိုင်း၌ စိတ်သဘော၏ အတွင်းသားကို ငုံမိအောင် နိုက်နိုက် ကျွတ်ကျွတ်လေ့လာနိုင်သူ ဖြစ်ကြောင်း တွေ့ရပေမည်။ ထို့ကြောင့် ဤကျမ်းကို ပြုစု သော စာဆိုသူမြတ်အားလောကီကျင့်ဝတ် နေရာ၌ စာဏကျကာမန္တက၊ မက္ကီယာဗယ် လီ၊ ကွန်ဖြူးရှပ် စသည်တို့ထက် သာလွန်ကြောင်းကိုငှ်း၊ အချစ်အကြောင်းကို ဖွဲ့ဆို သည့်နေရာတွင် ကာလီဒါသ၊ ရှိတ်စပီးယားစသည်တို့သည် သူ့ကိုမလွန်ကဲ နိုင်သည်ကို ငှ်း တွေ့ရမည်ဖြစ်သည်ဟု အဖွင့်ဆရာများက ဆိုထားလေသည်။ ထို့ကြောင့် အိန္ဒိယ ပြည်တောင်ပိုင်း မိုင်လာပူ ဒေသ ဇာတိ သာမန်ရက်ကန်းသည် တဦးသည် တကမ္ဘာ လုံးနှင့် သက်ဆိုင်၍လာပေသည်ဟု ဆိုစရာဖြစ်ပေသည်။

ဤကျမ်းကို ဖတ်ရှုသော သူတို့၏ စိတ်ထဲတွင် ထင်မြင်လာမည့် အချက် တချက် မှာ ဂုဏ်သိက္ခာရှိခြင်း၊ တရားစောင့်ခြင်း၊ ယောက်ျား ပီသခြင်း အစရှိသည် တို့သည် အမှုအားလုံးကို အောင်မြင် နိုင်သည်ဟူသော အကြောင်းကိုငှ်း နိမ့်ကျသော အလုပ် များ ဒုစရိုက်များသည် မိမိ၌ သာယာဘွယ်ပင် ဖြစ်စေကာမူ မပြုအပ် ကြောင်းကိုငှ်း

ထင်ရှားစွာ သဘောပေါက်မိမည် ဖြစ်ပေသည်၊ ဤအချက်ကား ဤကျမ်း၏ အဓိက အချက်ပင် ဖြစ်သည်၊

ဥပမာအားဖြင့် အခန်း ၁၄-တွင်ပါဝင်သော အပိုဒ်များမှာ ဤကျမ်း၏ တန်ဖိုးကို ဆိုသလောက်မမြင့်မားဟု ပြောစရာဖြစ်ဟန် ရှိသော်လည်း ကျွန်ုပ်တို့ သတိပြုရမည်မှာ၊ လူတယောက်၏ တဦးချင်းကိုယ်ကျင့်တရားနှင့် နိုင်ငံတနိုင်ငံအတွက် ပြုဘွယ်ဝတ်တို့ ခြားနားကြောင်းပင် ဖြစ်လေသည်၊ မိမိ၏ တကိုယ်ရေ ဘဝတွင် ခွင့်လွှတ်ခြင်း ဆိုသည်မှာ အလွန်ကြီးကျယ်သော ဂုဏ်အင်္ဂါ တရပ်ဖြစ်၏၊ သို့သော် မိမိသည် တိုင်းပြည်အုပ်ချုပ်မင်းလုပ်ရသော သူဖြစ်ပါက ခွင့်လွှတ်ခြင်းကို အခါခပ်သိမ်း ကျင့်သုံးနိုင်မည်မဟုတ်ပေ၊အပြစ်ရှိသူတို့အားအပြစ်ရှိသည်အလျောက်ဆုံးမ ပဲ့ပြင်ရာ၏၊ထိုမျှမကသေးရန်သူဟူ၍ ပေါ်ပေါက်နေလျှင် တိတ်ဆိတ်စွာ ငြိမ်သက်နေ၍ မဖြစ်၊ ထိုရန်သူ



အင်အား ကြီးမား၍ မိမိတိုင်းပြည်ကို မထိပါးရလေအောင် နှိမ်နင်းရာ၏။ အကယ်၍ အိမ်နီးချင်း နိုင်ငံက မိမိကို တော်လှန်ခြားနားသည် ဖြစ်အံ့၊ အန္တရာယ် မပြုနိုင်အောင် စီမံရမည်သာ ဖြစ်၏၊ ဤအချက်များကို အခန်း ၁၁-အပိုဒ် ၉-နှင့် အခန်း ၁၉-အပိုဒ် ၁၀-တို့၌ ဖေါ်ပြထားသည်ကို တွေ့ရလိမ့်မည်။ သို့သော် တိုင်းပြည်အုပ်ချုပ် မင်းလုပ်သူတို့မည်သည်မှာ မိမိတိုင်းသူ ပြည်သားများ ကိုရင်း၊ အိမ်နီးချင်း နိုင်ငံ များကိုရန်းစိတ်ထင်သလို ပြုကျင့်နိုင်ကြသည် မဟုတ်ပေ။ မတရားသော နည်းဖြင့်လည်း အိမ်နီးနားချင်း နိုင်ငံများကို သိမ်းသွင်းအပ်သည် မဟုတ်ပေ။ ဤကျမ်းရှိ အခန်း ၆၇-အပိုဒ် ၁၀-တွင် ဖေါ်ပြထားသည့် အတိုင်း မတရားသော နည်းဖြင့် ရရှိသော ဥစ္စာတို့ကို စုဆောင်း သိမ်းဆည်းရသည်မှာ မဖုတ်ရသေးသော ရွှံ့အိုးတွင် ရေထည့် သည်နှင့် တူပေသည်။

---

ဤကျမ်းနှင့် ပတ်သက်၍

ခြုံ၍ပြောရလျှင် ကုရယ်လ်ကျမ်းသည် တမိလ်အမျိုးသားတို့အတွက် အိမ်ထောင်ရှင်များအားရင်း၊ ရသေ့ရဟန်းတို့အားရင်း၊ အုပ်ချုပ် မင်းလုပ်သူတို့အားရင်း၊ ကျင့်ဝတ်နည်းနာများကို ဖေါ်ပြသော ကျမ်းဖြစ်ပေသည်။

ဤကျမ်းကို ပြုစုရခြင်းနှင့်ပတ်သက်၍ ဆိုရိုးအစဉ်တခု ရှိသည်မှာ အိန္ဒိယပြည်ရှိ အာရိယန်လူမျိုးတို့၌ ဗေဒကျမ်းကြီးများ ပေါ်ထွန်းနေသကဲ့သို့ တမိလ်အမျိုးသားတို့၌လည်း ဗေဒကျမ်းကဲ့သို့ ကိုးစားလက်ခံရန် ကျမ်းတစောင် ပြုစုပေးရန်ဟူသော မေတ္တာရပ်ချက်ကို တုံ့ပြန်သောအားဖြင့် ပြုစုခဲ့ခြင်းဖြစ်သည်ဟု ဆိုပေသည်။ သို့သော်လည်း ဤကျမ်းမှာ ဘာသာရေး လက်စွဲကျမ်းမဟုတ်။ လူ့ဘောင် အဖွဲ့အစည်း အတွင်းရှိ လူတန်းစား အသီးသီးတို့ ကျင့်ကြံ လိုက်နာအပ်သော ကျင့်ဝတ်ထုံးများကို ဖေါ်ပြထားသည့် နီတိကျမ်းတစောင်သာ ဖြစ်ပေသည်။

ထေရုဗာလုဗာ သူမြတ်သည် ဤကျမ်းကို ပြုစုရာ၌ မြင့်မားရှည်ဝေးသည့် ကိစ္စဖြစ်သော တမလွန်ဘဝ၊ သံသရာမှ လွတ်မြောက်ကြောင်းဖြစ်သော အခြေကို မျှော်ခေါ်ခြင်း အစရှိသည်တို့ကို တမင်ဖယ်ရှားလျက် လူတို့ နေ့စဉ် တွေ့ကြုံနေရသော လက်တွေ့ဘဝ လက်တွေ့ ကိစ္စများကိုသာ အမှီပြု၍ ရေးဖွဲ့ခဲ့ခြင်း ဖြစ်သည်။

စာဆိုမှာ ဂိုဏ်းဂဏသမားမဟုတ်၊ ထို့ကြောင့် ဘာသာရေးနှင့် ပတ်သက်၍ မိမိလက်ခံယုံကြည်လိုသည့် ဂိုဏ်းဂဏ တခုတည်းကိုသာ ရေးသား ဖေါ်ထုတ်၍ ပြရမည် ဆိုသော် ဘာသာရေး တည်းဟူသော နယ်ပယ်သည် ကျဉ်းမြောင်း သွားလိမ့်မည်။ ထို့ကြောင့်ပင် ဂိုဏ်းဂဏ အယူအဆတို့တို လက်ခံ ယုံကြည်တတ်သူ မဟုတ်သူ တဦးပြီးပြီး ဘာသာရေး ကိစ္စများကို ဤကျမ်း၌ ရှောင်ရှားခဲ့ဟန်တူသည်။ သို့ပြင်လည်း

သံသရာမှ လွတ်မြောက်ရန် အရေးမှာ မိမိပြုစုသော ကျမ်းမှလူတို့၏ မူလ ကျင့်ဝတ်ကို လိုက်နာကျင့်ကြံလျှင် လွတ်မြောက်ရန် အခြေခံကို ရလိမ့်မည်ဟူလည်း ဤပုဂ္ဂိုလ်သည် ယူဆခဲ့ဟန် တူသည်။

ဤကျမ်းစာအုပ်တွင်ပါရှိသော ပဌမကဏ္ဍနှင့် ဒုတိယကဏ္ဍဖြစ်သော အပိုင်းကြီး နှစ်ပိုင်းကို ပြုစုရာတွင် ကျမ်းပြုဆရာသည် အရိယန်လူမျိုးတို့ လက်ခံယုံကြည်သော သင်္ဂဟ တရားများကို နှီးနှောယ်၍ အခြေပြုခဲ့သည်ဟု ယူဆရသည်။ ဤကျမ်းကို မပြုစုမီ သူသည် သက္ကတဘာသာဖြင့် ရေးသားထားသော မူလကျမ်းများကိုဖြင့်၊ သို့တည်းမဟုတ် သက္ကတဘာသာမှ ဘာသာပြန် ဆိုပြီးသော ကျမ်းများကိုဖြင့် လေ့လာဖတ်ရှုခဲ့ပြီး ဖြောင်း ထင်ရှား၏။ အခြားထင်ရှားသော အချက်တရပ်ကား မနုဂရသေ့ကြီး ရေးသား စီရင်သည့် မာဏဝဓမ္မ သျှတ္တရခေါ် ကျမ်းနှင့် ကောတိလျ (စာဏကျ) ပြုစုသည့် အတ္ထသျှတ္တရခေါ် ကျမ်းတို့ကို မှီငြမ်းပြုခြင်းဖြစ်သည်။ ထို့ပြင်တဝလည်း သက္ကတဘာ သာဖြင့် ရေးသား ပြုစုထားသော ပဥ္စတန်တျ၊ ဟိတောပဒေသ၊ ရာမာယန၊ မဟာဘာရတ၊ နီတိသာရ အစရှိသော ကျမ်းတို့ကို သူလေ့လာပြီးစီးကြောင်း ထင်ရှား၏။

အထူးသဖြင့် ကောတိလျ၏ အတ္ထသျှတ္တရကို မှီငြမ်းပြုကြောင်းကား အထူး ထင်ရှားသည်။ သို့သော် ကျမ်းတအုပ်လုံး၌ စီစဉ်ပုံ ဖေါ်ပြပုံတို့မှာ မိမိကိုယ်တိုင်၏ ချီးမွမ်း ဖွယ်ဖြစ်သော မူပိုင်အတွေးအခေါ် အမြော်အမြင် များပါကြောင်း သေချာပေသည်။

ဤကျမ်းကို ပြုစုရာတွင် ခရစ်ယန်ဘာသာ အဆိုမိန့်မှ တိုက်ရိုက်ယူငင်သည်ဟူ သောအချက်ကိုကား မတွေ့ရပေ။ သို့သော် ဗုဒ္ဓဘာသာ၏ လွှမ်းမိုးမှုကား မပါဘဲမရှိဟု ယူဆရသည်။

အချို့ထမှုကား ဤကျမ်းသည် ကောတိလျ၏ အတ္ထသျှတ္တရကို တမီလ် အမျိုး သားတို့အတွက် ထေရဗာလုဗာက သင့်လျော်အောင် တိုက်ရိုက် ကူးယူ သည်ဟု ဆိုကြ သည်။ ဤအချက်မှာလည်း ဖြစ်နိုင်ဘွယ် မရှိပေ။ အဘယ်ကြောင့် ဆိုသော် ကူရယ်လ် ကျမ်းထဲတွင် ဖေါ်ပြပါရှိသော နိုင်ငံရေးရာအမှုအခင်းကိစ္စတို့နှင့် အခြားကျမ်းများတွင် ဖေါ်ပြပါရှိသော နိုင်ငံရေးရာ အမှုကိစ္စတို့၌ မတူသော အချက်မှာ နှစ်ချက်ရှိ၏။ ပဌမအချက်မှာ ကောင်းသော အကျိုးတရားကို ရရှိရန်အလို့ငှာ ကောင်းသော အကြောင်းတရားကို စွန့်ပယ်၍ပင် ဖြစ်စေ ပြုအပ်သည်ဟု ဆိုလိုချက် မပါခြင်းပင် ဖြစ်သည်။ အတ္ထသျှတ္တရကျမ်းတွင်ကား နိုင်ငံ အတွက်ဆိုလျှင် လိမ်လည် ကောက်ကျစ် ရသော ကိစ္စမျိုးကိုပင် ပြုအပ်သည်ဟု ဆိုထားသည်။ ထိုအယူအဆကား နိုင်ငံရေး

သုခမိန်မတ္တ ယာဗယလ၏ အယူအဆ ဖြစ်သည်။ ...
အခန်း ၅၅– အပိုဒ်–၆၊ အခန်း ၆၆၊ အပိုဒ်၁၀၊ အခန်း ၁၀၂– အပိုဒ်–၆ စသည်၊
တို့၌တွေ့နိုင်သည်။

နောက်တချက်မှာ ကုရယ်လ်ကျမ်းတွင် ဘုရင်မင်းတို့မည်သည် ဘုရားသခင်
ဖန်တီးပေးသော ရာထူးကို ဆောင်ရွက်ရခြင်းဖြစ်သည်။ ဘုရားရှင်၏ တန်ခိုးအာနုဘော်



မျိုးရှိသည် ဟူသော အယူအဆမျိုးကို ဖော်ပြထားခြင်း မရှိပေ။ မင်းသည် လောက မွေကြောင်းတို့နှင့်အညီ သာမန်လူသား တဦး ပြုကျင့် ဆောင်ရွက်သကဲ့သို့ ဆောင်ရွက်ရာ၏ဟု ဆိုထား၏။ မင်းလုပ်သူသည် ဤသို့ လုရှိသော ရှင်ရှိသေဖြစ်စေအပ်သော ကျင့်စဉ်မှ လွဲဖယ်သည့်မျိုးသော် မိမိရရှိသော တန်ခိုးအာဏာတို့ပင် ပျက်ပြား နိုင်၏ ဟူ၍ ဆိုထားသည်။ ဤ အကြောင်းကို အခန်း ၅၅၊ အပိုဒ် ၇–တွင် တွေ့နိုင်သည်။ အခန်း ၅၆–တွင် ရှင်ဘုရင်သည် ဆုံးသွမ်း၍ တိုင်းသူ ပြည်သားတို့အား ဖိစီး နှိပ်ကွပ်ခြင်း၏ မကောင်းမှုကို ဖော်ပြထား၏။ အခန်း-၃၉၊ အပိုဒ်-၇ တွင် ကား ရှင်ဘုရင်ကို ဘုရားနှင့်နှိုင်းထား၏။ သို့သော် ဘုရင်ရာထူးကိုလက်ခံ ဆောင်ရွက်ရသောကြောင့် ဘုရားဟု ဆိုလိုရင်း မဟုတ်ပဲ၊ တိုင်းသူပြည်သားတို့အား ရင်ဝယ်သားကဲ့သို့သဘောထားကာ တရားနှင့် အညီ စောင့်သုံးသော မင်းတို့ကိုသာလျှင် ဘုရားဟူ၍ တင်စားခေါ်ဆို ထားခြင်း ဖြစ်သည်။

အထက်ပါအချက်နှစ်ချက်ကိုကြည့်လျှင် ကုရယ်လ်ကျမ်းသည်အတ္တသျှတ္တကိုတိုက်ရိုက် ကူးယူ ဖော်ပြထားခြင်း မဟုတ်ကြောင်းကို သိသာ ပေသည်။ ထိုမျှမက စာဆိုသည့်သူနှင့် ခေတ်ပြိုင် ပညာရှိများထက် အတွေးအခေါ် အရာတွင် မည်မျှ ရှေ့ကပြေး၍ နေသည်ကို တွေ့နိုင်ပေသည်။

